ဆရာတော်ကြီးရှစ်ပါး၏

# ဝိပဿနာရှုနည်း ညွှန်ပေါင်း

ဓမ္မာစရိယ
ဦးတင်မြင့်

ဆဋ္ဌမအကြိမ်

ဓမ္မာစရိယ

ဆရာကြီးဦးတင်မြင့်

နိုင်ငံကျော် ဆရာတော်ကြီး (၈) ပါး၏

# ဝိပဿနာရှုနည်း ညွှန့်ပေါင်းကျမ်း



ဖြန့်ချိရေး

ကုသိုလ်ရှင် ပိဋကတ်စာအုပ်ဆိုင်

ရွှေတိဂုံဘောင်ဘက်မုခ် ဈေးတော်ရုံ

ဒဂုံစာတိုက်၊ ရန်ကုန်မြို့။

ဆဌမအကြိမ်

# မာတိကာ

# မာတိကာ

# မာတိကာ

# ကျေးဇူးရှင် ဆရာတော်ကြီး (၈)ပါး၏
# ဝိပဿနာရှုနည်း

၁။ လယ်တီဆရာတော်ဘုရားကြီး

၂။ စွန်းလွန်းဆရာတော်ဘုရားကြီး

၃။ မင်းကွန်းဆရာတော်ဘုရားကြီး

၄။ မဟာစည်ဆရာတော်ဘုရားကြီး

၅။ သဲအင်းဂူဆရာတော်ဘုရားကြီး

၆။ ကသစ်ဝိုင်ဆရာတော်ဘုရားကြီး

၇။ မိုးကုတ် အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ဘုရားကြီး

၈။ ဟံသာဝတီ ကမ္မဋ္ဌာန်းဆရာတော်ဘုရားကြီး

ဓမ္မာစရိယ ဦးတင်မြင့်

# ဓမ္မာစရိယ ဆရာကြီး ဦးတင်မြင့်၏ ပုံနှိပ်ပြီး ကျမ်းများ

၁။ နန်းမတော်မယ်နု ဖလံခုံရာဇဝင်

၂။ သာသနာတော်နှင့် ရဟန်းကိစ္စ

၃။ ပရိတ်ကြီးပါဠိ မြန်မာပြန်

၄။ ဗုဒ္ဓမန္တန်ပေါင်းချုပ် ပရိတ်တော် (၃၁)သုတ်

၅။ အခြေခံ ဗုဒ္ဓယဉ်ကျေးမှု

၆။ မြန်မာ့ရိုးရာ လူမှုရေးညွှန့်ပေါင်းကျမ်း (ပ-တွဲ)

၇။ ။ ။ (ဒု-တွဲ)

၈။ နိုင်ငံကျော် ကျေးဇူးရှင်ဆရာတော်ကြီးများ၏ ဝိပဿနာရှုနည်း ညွှန့်ပေါင်းကျမ်း

၉။ ပိဋကတ်တော် မြန်မာပြန်

၁၀။ ဓမ္မစကြာပါဠိမြန်မာပြန်

၁၁။ ဝိပဿနာအလင်း

# ၁။ ကျမ်းပြုဆရာ၏ အမှာစာတမ်း

ကျွန်ုပ်သည် ယခင်အခါက နိုင်ငံကျော် ဆရာတော်ကြီး (၈)ပါး၏ ''ဝိပဿနာရှုနည်း ညွှန့်ပေါင်းကျမ်းကို ကြိုးပမ်းရေးသားခဲ့ရာတွင် ဗုဒ္ဓဘာသာဝင် သူတော်စင် စာဖတ်ပရိသတ်များနှင့် သံဃာတော် အရှင်မြတ်များက "အလွန်တရာ ဖတ်ရှုမှတ်သားစရာ ကောင်းပါပေတယ်" ဟု နှစ်ထောင်းအားရ၍ ချီးကျူးစကား ပြောကြားကြသည်ကို ခံယူရရှိပါသည်။ နောက်ထပ်တစ်ဖန် ထပ်မံ၍ ကျန်ရှိသေးသော အဂ္ဂမဟာပဏ္ဍိတ အဘိဓမ္မာ ညဝါအကျော် ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး ဦးဝိမလ၏ ဝိပဿနာရှုနည်းနှင့် ရန်ကုန်မြို့၊ ဟံသာဝတီကမ္မဋ္ဌာန်းတိုက် "ဗုဒ္ဓသာသနာ ပဋိပတ္တိသာသနာပြုအဖွဲ့ချုပ်" ကြီး၏ မဟာနာယကဆရာတော် ဖြစ်တော်မူသော

ကျေးဇူးရှင် "ရှမ်းရွာ စင်ပြွမ်းကုန်းဆရာတော်ကြီး" ၏ ဝိပဿနာရှုနည်းများကို ဖြည့်စွက်ပြီး အသစ်တစ်ဖန် ရိုက်နှိပ် ထုတ်ဝေပါရန် (မိုးကုတ်မြို့ အဂ္ဂမဟာ ဓမ္မကထိက နိုင်ငံကျော် ရွှေဘိုဆရာတော်ဘုရား)နှင့် ဓမ္မမိတ်ဆွေများ၏ တိုက်တွန်းတောင်းပန်မှုကို အလေးဂရုပြု၍ ယခုအခါတွင် ကျေးဇူးရှင် ဆရာတော်ကြီး ရှစ်ပါး၏ ဝိပဿနာရှုနည်း ညွှန့်ပေါင်းကျမ်းကို ကြိုးပမ်းတကုတ် အားထုတ်ရေးသား၍ ထုတ်ဝေလိုက်ခြင်း ဖြစ်ပါသည်။

အထူး တင်ပြလိုသည်မှာ ဝိပဿနာဆိုတာ တစ်နည်းနဲ့ သဘောမပေါက်လျှင် တစ်နည်းနဲ့ သဘောပေါက်အောင် နည်းအမျိုးမျိုး အစားစားထား၍ ရှုကြည့်မှ သဘောမိတဲ့ အလုပ်မျိုး ဖြစ်ပါတယ်။ တစ်နည်းပြောရမယ်ဆိုလျှင် ဝိပဿနာဆိုတာ စိတ်ကို နိုင်နင်းလာအောင်၊ အဆင့်အတန်း မြင့်လာအောင်၊ ဖြစ်ရိုးဖြစ်စဉ်ထက် ထူးခြားလာအောင် နည်းအစားစားနဲ့ ပွားများအားထုတ်ရတဲ့ အလုပ်မျိုးဖြစ်ပါတယ်။ ပေါင်္ဒလ ရဟန်းကြီးများမှာ စာပေကျမ်းဂန်တို့ကို လမ်းမှန်အောင် ပြောင်မြောက်စွာ တတ်တော်မူသည့် စာပေပါရဂူကြီးတစ်ပါး ဖြစ်ငြားသော်လည်း ဝိပဿနာရှုနည်း မကျွမ်းကျင်သဖြင့် တရားမရ ဖြစ်နေရှာပါတယ်။

တိပိဋကစူဠနာဂ မထေရ်တစ်ပါးလည်း စာတတ်ငြားသော်လည်း ဝိပဿနာရှုနည်း၊ တရားအားထုတ်ပုံ အားထုတ်နည်း မကျွမ်းကျင်၍ မဟာဓမ္မရက္ခိတ အရှင်ထံသို့ သွား၍

ဝိပဿနာတရား အားထုတ်ပုံ၊ အားထုတ်နည်း နိဿရည်းခံယူရကြောင်း ဝိသုဒ္ဓိမဂ်မှာ ပြဆိုထားပါတယ်။ ကျွန်ုပ်ကိုယ်တိုင်လည်း မဟာစည်ဆရာတော်ထံ တရားအားထုတ်စဉ်က 'ပိန်ဖောင်း ရှုရ၍ သမာဓိ မရနိုင်ဖြစ်နေသည့်အတွက် ပိန်ဖောင်းကို ဖျက်ပြီး 'ဝင်တယ်၊ ထွက်တယ်၊ ထိတယ်၊ သိတယ်'ဟု ပြင်၍ရှုမှ သမာဓိကောင်းကောင်း ရလာသည်မှာ ကိုယ်တွေ့ပင်ဖြစ်ပါတယ်။

ထိုစကားကို ထင်ရှားအောင် ပြပါမယ်၊ ကျေးဇူးရှင် လယ်တီ ဆရာတော်ဘုရားကြီးက ပါဠိတော်လာ ဝိပဿနာရှုနည်းအမျိုးမျိုး၊ အဋ္ဌကထာလာ ဝိပဿနာရှုနည်းအမျိုးမျိုး ခွဲခြား ဖော်ပြထားပါတယ်။ မြတ်စွာဘုရား ကိုယ်တိုင်လဲ ဝေနေယျစကြာ သတ္တဝါတို့၏ အလိုစရိုက်ကို လိုက်၍ သတိတရား တစ်ပါးတည်းသာဖြစ်သော သတိပဋ္ဌာန်ကို ကာယာနုပဿနာ၊ ဝေဒနာနုပဿနာ၊ စိတ္တာနုပဿနာ၊ ဓမ္မာနုပဿနာ အားဖြင့် ရှုပုံရှုနည်း လေးပါးခွဲခြား၍ ဟောကြားထားတော်မူခဲ့ပါတယ်။ ထို့အပြင် ပရမတ္ထတရားလေးပါးကိုလည်း ခန္ဓာအားဖြင့် ငါးပါး၊ အာယတနအားဖြင့် တစ်ဆယ့်နှစ်ပါး၊ ဓာတ်အားဖြင့် တစ်ဆယ့်ရှစ်ပါး ခွဲခြား၍ ဟောကြားတော်မူခြင်းသည်လည်း ဤသို့သော သဘောမျိုးပင် ဖြစ်ပါတယ်။

ဗုဒ္ဓဘာသာဝင်တို့၏ သူတော်ကောင်းတရားဟာ အပြောကျယ်ပြီး အလုပ်ကျတော့ ခက်တတ်ပါတယ်။ ယုံကြည်ချက်

ခံယူချက် ပြင်းထန်လွန်း၍ ထက်သန်သော ဆန္ဒရှိမှသာလျှင် လိုရာပန်းတိုင်သို့ ရောက်နိုင်ကြပါတယ်။ ယုံကြည်တယ် ဆိုတာလဲ အပြောကောင်းတိုင်း အဟောကောင်းတိုင်း ယုံကြည်လို့ မဖြစ်ပါဘူး၊ အာဂမယုတ္တိ၊ သဘာဝယုတ္တိ၊ သာဓကယုတ္တိ ဉာဏ်သုံးချက်ညီပြီး အကြောင်းအကျိုး ဆက်စပ်ကြည့်၍ ဟပ်မိမှ ယုံကြည်သင့်ပါတယ်။

ဒီတော့ ဘုရားကို ယုံကြည်ရင် ဘုရားစကားကို နားထောင်ကြ၊ တရားကို ယုံကြည်ရင် တရားတော်နှင့်အညီ ကျင့်ကြံအားထုတ်ကြ၊ သံဃာတော်များကို ယုံကြည်ရင် သံဃာတော်များ ဟောကြားသည့်အတိုင်း လိုက်နာကြ၊ ဟိုဟိုဒီဒီ သွေးမဖိချင်ကြပါနဲ့၊ 'မကွေ့မထောက်၊ ဖြောင့်ဖြောင့်တရား၊ အရှိသားနဲ့၊ မှားသည့်အရာ၊ မဟုတ်တာကို၊ လိုက်နာမှုးမူး၊ နင်မရှုးနှင့်၊ ထူးသည့်မြတ်စွာ၊ ရတနာကို၊ ကောင်းစွာလိုက်စား၊ သတိထားလော့' ဆိုသလို ရတနာသုံးပါးကို ပတ္တမြားဥသျှောင်ကဲ့သို့ အမြဲ ဆောင်ထားဖို့ အရေးကြီးပါတယ်'

သို့ဖြစ်၍ အကျွန်ုပ်တို့သည် အစမထင် သံသရာတစ်ခွင်တွင် အစဉ်မပြတ် တရစပ်ဖြစ်လာခဲ့ရသော ဘုံဘဝတွေမှာ ကြုံခဲ့ရလေသမျှ ဘယ်ဘုံ ဘယ်ဘဝ ဘယ်အမျိုး ဘယ်အနွယ် ဘယ်အစားစား ဖြစ်ရဖြစ်ရ မွေးလိုက်ကြ၊ သေလိုက်ကြ၊ မွေးလိုက်ကြ၊ သေလိုက်ကြ၊ မွေးလိုက်ကြ၊ သေလိုက်ကြနဲ့၊ မွေးလို့ သေလို့ မဆုံးနိုင်တဲ့ မွေးသေဘဝ လုံးလုံးကြီး ဖြစ်လာခဲ့ရတာ

ချည်းပဲ၊ ယခုဘဝလည်း လူ့ဘုံ လူ့ဘဝကို ကိုယ့်အခြေအနေ အရ လူအဖြစ်တော့ ရလာပြန်ပြီ၊ ဘာကျန်သေးသလဲ၊ တွေးလဲ ကြည့်ကြ၊ သေဖို့ပဲကျန်တော့တယ် မဟုတ်လား၊ "ဒီတော့ မသေ ခင်က ကြိုတင်ကောင်းမှု ကြိုးစားပြုလော့"ဆိုသလို အသက် ကလေး မသေခင် နေရသေးသည့်အခါတွင် လူဖြစ်ရကြိုး နပ်အောင်၊ သေရကြိုး နပ်အောင်၊ "ဒီအလုပ်လုပ်လျှင် ဟုတ်မည်၊ ဒီအကြံကြံလျှင် မှန်မည်၊ ဒီအကျင့်ကျင့်လျှင် သင့်မည်" ဟု လူ့ဘဝ၏ တန်ဖိုးကို အမျိုးမျိုးအဖုံဖုံ ဝေဖန်ကြည့်ဖို့ မလိုဘူးလား၊ စဉ်းစားကြပါ၊ တွေးတောကြပါ။

ယခု ဒိဋ္ဌတွေ့မြင်သမျှ လောကကြီးတစ်ခုလုံး သိမ်းကျုံး ကြည့်လျှင် ထိုထိုသက်မဲ့ သက်ရှိဖြစ်သည့်အရာ အဖြာဖြာသော ဝတ္ထုအစုစု မှန်သမျှ ပျက်စီးကြရတာချည်းပဲ၊ "ကောက်ရိုး သင်္ခါရနှင့် သံသင်္ခါရ" ဆိုသလို မြန်မြန်ပျက်တာနဲ့ နှေးနှေးပျက် တာပဲကွာတယ်၊ ပျက်တော့ ပျက်မှာချည်းပဲ၊ ဒီတော့ ပျက်တာ ရှိလျှင် မပျက်တဲ့အရာဝတ္ထုလည်း ရှိရမယ်ဆိုတာ မယုံကြည်သင့် ဘူးလား၊ ယုံကြည်လျှင် ငါတို့ဘုရားရှင်က "အသင်္ခါရံ နိဗ္ဗာနံ"ဟု မပျက်တဲ့ အရာဝတ္ထုမှာ နိဗ္ဗာန်သာ ရှိတယ်လို့ ဟောကြားထား တော်မူခဲ့ပါတယ်။ မပျက်တဲ့အရာဝတ္ထုသာ တကယ်ချမ်းသာတာ၊ အဖိုးတန်တာ၊ ပျက်စီးပျက်စီးနေရင် အဘယ်မှာ ချမ်းသာ အစစ်လို့ ခေါ်ဆိုလို့ ဖြစ်ပါ့မလဲ၊ လူချမ်းသာလဲ အလကားပဲ၊ ဒုက္ခတွေနဲ့ ရောနှောနေတာပဲ၊ နတ်ချမ်းသာလဲ အလကားပဲ၊ ဒုက္ခတွေနဲ့ ရောနှောနေတာပဲ၊ သေရတာပဲ။

ပြဟ္မာချမ်းသာလဲ အလကားပဲ၊ ဒုက္ခတွေနဲ့ ရောနှော နေတာပဲ၊ သေရတာပဲ။ ပျက်စီးကြတဲ့ သင်္ခါရမှန်သမျှ ဒုက္ခ ရောက်လို့ မဆုံးနိုင်ဘူး၊ သေရကြေရလို့ မဆုံးနိုင်ပါဘူး၊ စဉ်းစား ကြည့်ကြ။

ဒုက္ခရောက်လို့ သေရ, ကြေရ ပေမယ်လို့ ကောင်းကောင်း နေရတဲ့ သုဂတိဘုံမှာ ကြုံနေရလျှင် တော်ပါသေးရဲ့၊ အပါယ် ဘေးနဲ့ သွားတွေ့ရင်တော့ ကိုယ်ကြိုးနည်းလိမ့်မယ်၊ သို့အတွက် မပျက်မစီး တခါတည်း အမြဲတမ်း ချမ်းသာနေတဲ့ နိဗ္ဗာန်ကြီးသို့ ရောက်အောင် ကြိုးစားကြ၊ ချမ်းသာအစစ်ကို တကယ်နှစ်နှစ် ကာကာ သိတဲ့ အရှင်သာရိပုတ္တရာစသော သူတော်ကောင်းကြီး တွေကလဲ "သုခမိဒံ အာဝုသော နိဗ္ဗာနံ၊ သုခမိဒံ အာဝုသော နိဗ္ဗာနံ" ငါ့ရှင်တို့ ဤတကယ် မပျက်မစီးတဲ့ နိဗ္ဗာန်ကြီးသည် သာလျှင် ချမ်းသာတာ အစစ်ကေန် ဖြစ်ပါပေ၏တကား၊ ငါ့ရှင်တို့ ဤမပျက်မစီးတဲ့ နိဗ္ဗာန်ကြီးသည်သာလျှင် ချမ်းသာတာ အစစ် ကေန် ဖြစ်ပါပေ၏တကားဟု နှုတ်တော်က စကားမြွတ်ဟ၍ ချီးကျူးထားတော်မူကြသည်။

သို့အတွက် လောကတစ်ရပ်လုံးထက် အမြတ်ဆုံးဖြစ်သည့် နိဗ္ဗာန်သို့ ရောက်နိုင်ရန် အမှန်ရခဲတဲ့ လူ့ဘဝကြီးကို ရလာတဲ့ အခါ သာသနာ့အရိပ်ကြီးကို ကြုံတောင့်ကြုံခဲ ကြုံရဆဲအခါ ဝိပဿနာတရားကို အားထုတ်ကြဖို့ လိုတယ်။

ဘဝပေါင်း အသင်္ချေ မရေမတွက်နိုင်တဲ့ သံသရာကြီးထဲမှာ ကျင်လည်နေရတာဟာ နှစ်နှစ်ကာကာ သေသေချာချာ စဉ်းစားကြည့်မယ်ဆိုရင် အလွန်တရာ ပူပြင်းလှစွာသော မဟာသံကန္တာရကြီးထဲမှာ အထက်က နေကပူ၊ အောက်က မြေကပူနှင့် အပူနှင်းထပ် ညှပ်တောက်ပြီး လမ်းလျှောက်နေရတဲ့ သူနဲ့ တူတယ်၊ လူတွေဟာ စိတ်ကပူ လူကပူနဲ့ အပူကောင်လုံးလုံး အပူတုံးကြီးဖြစ်နေကြတယ်။

ဒါကြောင့် ထိုအပူတုံးကြီး အေးသွားအောင် ဝိပဿနာ အမြိုက်ဆေးကို တိုက်ကျွေးကြ၊ ဒါနကား နိဗ္ဗာန်ရောက်နိုင်သည့် ဘဝကို ပို့ပေးတယ်၊ သီလကား သူတော်ကောင်း ဖြစ်အောင် လုပ်ပေးတယ်၊ သမထကား ဘဝဘဝက ပါလာတဲ့ ကိလေသာ တဏှာကို မထနိုင်အောင် ချိုးနှိမ်ပေးတယ်၊ အဲဒီ ဒါန၊ သီလ၊ သမထကို အရင်းခံ၍ ပြင်းထန်သောဆန္ဒဖြင့် ဝိပဿနာတရား ကြိုးစား အားထုတ်ကြမည်ဆိုလျှင် အမြတ်ဆုံး ချမ်းသာအစစ် ဧကန်ဖြစ်သည့် နိဗ္ဗာန်သို့ မုချဧကန် ရောက်နိုင်ကြောင်း ထပ်လောင်း၍ တိုက်တွန်းစကား ရေးသားလိုက်ရပေသတည်း။

ဓမ္မာစရိယ ဦးတင်မြင့်

## ၂။ အကြောင်းပြ နိဒါန စာတမ်း

ပုဗ္ဗါဒိစ္စေ အနုပ္ပန္နေ၊ ပုဗ္ဗစန္ဒေ အနုဂ္ဂတေ၊
တေသံ သဘာဝမ္မောနံ၊ နာမမတ္တံ န နာယတိ။

ပုဗ္ဗါဒိစ္စေ၊ ဘုရားတည်းဟူသော နေမင်းသည်၊ အနုပ္ပန္နေ၊ အရောင်ရှိန်ပြင်း အမှောင်ခွင်း၍ ထွန်းလင်းပေါ်ပေါက်ပြီး မလာသည်ရှိသော်။ ပုဗ္ဗစန္ဒေ၊ ဘုရားတည်းဟူသော လမင်းသည်။ အနုဂ္ဂတေ၊ အရောင်ကြည်ဝင်း ဥုစ်မျိုးကင်း၍ ထွန်းလင်းထွက်ပေါ်ပြီး မလာသည်ရှိသော်။ တေသံ သဘာဝမ္မောနံ၊ ထိုထိုသက်မဲ့ သက်ရှိဖြစ်သည့်အရာ အဖြာဖြာသော ဝတ္ထု အစုစုတို့၌ တစ်ခုမကျန် အမှန်ဖြစ်ပျက်နေကြသော သဘောတရားတို့၏။ နာမမတ္တံ၊ အဖြစ်အပျက် တရားသိဖို့ မဆိုထားဘိ ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဉ် ဟူသော အမည်မျှကိုပင်။ န နာယတိ၊ ဉာဏ်အားပိုင်ပိုင် ပိုင်းခြား၍ မသိနိုင်ချေ။

ဟူသော ဒေသနာတော်အရ သံသရာဘဝ အစဦးအစ မမြင်ရသော ကာလမှစ၍ အလျင်အဆက်ဆက် ဖြစ်ပျက်လာခဲ့သော ပုဂ္ဂိုလ်သတ္တဝါများ သူငါတို့သည် ကိုယ်တွင်းအဖွဲ့တွင်၌ မပြတ် ကိန်းဝပ်လျက်ရှိသော အဝိဇ္ဇာအမှောင်တုံးကြီး ပိတ်ဖုံးပြီး လုံးလုံးကြီး အိပ်မောကျနေသဖြင့် အလင်းရောင် မရ၍ အမှန်ကို မသိမြင်ကြခြင်းကြောင့် မိမိတို့ ထင်ရာမြင်ရာ အမှန်ဟု ယူဆလျက် ဆင်ကောင်ကို စမ်းကြသည့် မျက်ကန်း ဗြာဟ္မဏပုဏ္ဏား ခြောက်ယောက်ပမာ၊ လက်လှမ်းမှီရာ ထောက်ဆပြီး ကမောက်ကမ ပြောချင်ရာပြော၊ ယူချင်ရာယူ။ မိမိကိုယ်ကို စိတ်မချဘဲ၊ အတိတ်က ငါ တကယ်ဖြစ်လာခဲ့သလား၊ မဖြစ်ခဲ့ဘူးလား၊ ဘယ်က လာသလဲ၊ အမိဝမ်းထဲကပဲ လာသလား၊ ယခု ငါသေသွားရင် ဘယ်ရောက်သွားမလဲ၊ ပျောက်သွားမလား၊ တစ်ခုခု ဖြစ်ဦးမလား စ ်ည်ဖြင့် လား (၁၆၀) ဖြစ်နေကြတယ်။

အဝိဇ္ဇာအမှောင်တုံးက ဖုံးထားသဖြင့် အမှန်တရားကို လုံးဝမသိကြဘဲ 'ဆင်ကန်း တောတိုး' သဘောမျိုးဖြင့် ထိုထို ဤဤ အလီလီသောအရာ အဖြာဖြာသော ဝတ္ထု၊ အစုစုသော ကိစ္စဟို့နဲ့ တိတိကျကျ မိမိရရ မသိကြသဖြင့် သံသရာရေလျဉ်ကြောမှာ မျောချင်သလိုမျော၊ ဒုက္ခညွန်တွင်းမှာ ဆင်းချင်သလို ဆင်း၊ တောတွင်း ချောက်ကမ်းပါးမှာ လျှောက်သွားချင်သလို လျှောက်သွား၊ တဏှာ၏နောက်သို့ တကောက်ကောက် လိုက်၍ ကြောက်မက်ဖွယ်ဘေးတွေကို တွေးမှိုင်ပြီး ငေးငိုင်နေကြတယ်၊

အဲလေ ငါအသိအကျ မသိရတဲ့ အတူတူတော့ မထူးပါဘူး၊ ဒီဘဝ ဒီကိုယ်စံမယ်၊ နောက် ဘဝရှိရင်လဲ နောက်ကိုယ် ခံလိမ့်မပေါ့ဟု ယူဆကာ ဒီဘဝ၏ ကောင်းစားရေးကို အလေးပေးနေကြတယ်၊ တစ်ဘဝကောင်း၊ တစ်ကိုယ်ကောင်းကို ကြည့်ကြတယ်။

အမှန်က လူ့ဘဝဆိုတာ ဘဝပဒေသာပင်ကြီး ဖြစ်တယ်၊ လိုရာကို ဆွဲငင်ယူနိုင်ပါတယ်၊ တစ်နည်းအားဖြင့်လဲ လူ့ဘဝရလာတာဟာ ဝေဘူလတောင် ရောက်နေတာနှင့် တူတယ်၊ အဖိုး မဖြတ်နိုင်သည့် ကျောက်ကောင်း ရတနာကောင်းများကို ကောက်ယူနိုင်တယ်၊ ဒီတော့ အဖိုးထိုက်တန်တဲ့ ရတနာများ ကောက်ယူနိုင်ပါလျက် မယူဘဲ ကျောက်ခဲသလဲကိုသာ ယူမယ်ဆိုလျှင် 'အဖိုးထိုက်တန်လျက် မနိုက်ယူလျှင် အမိုက်နှင့်ပြင် ရှိဦးမှာတဲ့လား' ဆိုသလို ဖြစ်နေမယ်၊ အဖိုးထိုက်တန်တယ်ဆိုတာ ဘုရားမှန်၊ တရားမှန်၊ သံဃာမှန်များ ရှိနေတာကို ဆိုလိုတယ်၊ ယင်းရတနာများသည် မိမိရှေ့မှောက်သို့ ရောက်နေသည့်အချိန်၊ ဗုဒ္ဓုပ္ပါဒနဝမခေတ်ကြီးနှင့် ဆုံခိုက်အချိန်၊ ဘဝ၏အနှစ်သာရကို မရှာကြလျှင် ဘဝသံသရာတစ်လျှောက်လုံးမှာ "ငါးပါးမက သံဃာစင်ပါ မှောက်လိမ့်မယ်" "ကုန်ရှုံးတော့ တစ်ခေါက်၊ လင်ကုန်ရှုံးတော့ တစ်သက်လုံးမှောက်၊ သာသနာရှုံးတော့ တစ်သံသရာလုံး မှောက်တယ်" ဘုရားသာသနာတော်ကြီး ရှိနေသည့် ဗုဒ္ဓုပ္ပါဒနဝမခေတ်ကြီးနှင့် ကြုံတွေ့နေရတာ သက်တော်ထင်ရှား

ဘုရားပွင့်နေတာနဲ့ ကြုံရသလောက် ခရီးရောက်တယ်၊ မိမိ ကိုယ်ကို မိမိ စိစစ်ကြည့်ပါ၊ တွေးတောကြပါ၊ ဝေဖန်ကြပါ။

မြတ်စွာဘုရားကလဲ တရားတော်၏ ဂုဏ်တော်ခြောက်ပါး တို့တွင် 'ဧဟိ ပဿိက' ဂုဏ်တော်ဖြင့် သံသရာဝဲ ဂယက်ထဲ နစ်မွန်းနေတဲ့ သူတွေကို ဆွဲယူချင်လွန်းလို့၊ တောကြီးမျက်မည်း အမှောင်ထဲ အမိုက်ထဲ ရောက်နေတဲ့ သူတွေကို ကူညီချင်လွန်းလို့ လာကြစမ်းပါ၊ တရားအားထုတ် ကြည့်ကြစမ်းပါ၊ အလင်း ရောက်လျှင် ထွင်းဖေါက်၍ အမြင့်မှန် ရလာပါလိမ့်မည်ဟု ဆွဲခေါ်နေသည့် တရားဂုဏ်ကို အထင်အရှား ဟောကြားထား ပါတယ်၊ ထို့ပြင် ဘုရားဟော ကျမ်းဂန်တို့တွင်လဲ ကဿပ မြတ်စွာဘုရားလက်ထက် ဇောတိပါလလုလင်ကို ဃဋီကာရ အိုးထိန်းသည်က အတန်တန် တောင်းပန်ပြီး ဘုရားထံ ခေါ်တာ မလိုက်လို့ ဆံပင်ကိုဆွဲပြီး အတင်းခေါ်တယ်၊ အနာထပိဏ် သူဌေးကြီးလဲ သူ၏သားကို ဘုရားထံသွား၍ တရားကိုနာရန် ငွေပေးပြီး အတင်းလွှတ်တယ်၊ မြတ်စွာဘုရား ကိုယ်တိုင်လဲပဲ သူ၏ညီ နန္ဒမင်းသားကို နတ်သမီးများကို ပြပြီး၍ တရားကို အားထုတ်ခိုင်းတာတွေ အထင်အရှား ရှိပါတယ်။

ယခုခေတ် ဖြစ်နေကြတာကတော့ ဘုရားသွား၊ ကျောင်း တက်၊ တရားနာ တရားအားထုတ်ဖို့ ခေါ်ရင် အလုပ်ပိုတယ်၊ မအားဘူးတဲ့ ပြောလွှတ်လိုက်ကြတယ်၊ ပရိတ်ရွတ်ရင်၊ တရား ထိုင်ရင် ဘုန်းကြီးလုပ်တော့မလား တို့အလုပ်မဟုတ်ပါဘူးဟု

ပြောကြတယ်၊ ပွဲကြည့်ခေါ်ရင်၊ ဘိုင်စကုတ် ထိုင်ကြည့်ခေါ်ရင်၊ အရက်သောက်ခေါ်ရင် ဒါမှ မိတ်ဆွေကောင်းလို့ ပြောပြီး မင်းလို ချင်တာ တောင်းပါ၊ အစွမ်းကုန် ကူညီပါ့မယ်ဟု ပြောကြတယ်။

မိတ်ဆွေပေါင်း မှားနေကြတယ်၊ မြတ်စွာဘုရားလက်ထက်တော်က နေလို, လလို ထင်ရှားသည့် ဝိသာခါကျောင်းအစ်မကြီးဟာ သူ၏ယောက္ခမ မိဂါရသူဌေးကြီးကို တဖြည်းဖြည်း နားချပြီး တရားခမ္မ အနာခိုင်းတယ်။ ပထမတော့ ငြင်းပယ်နေသေးသော်လည်း၊ နောက်တရားရတော့ အထူးကျေးဇူးတင်ကာ ချွေးမတောင် မကပါဘူး၊ အမေပါဘဲဟု စိတ်စွဲပြီး အမိအရာ ကိုးကွယ်ထားတယ်၊ ထို့ကြောင့် ဝိသာခါကို "မိဂါရမာတာ"ဟု ခေါ်ကြတယ်။

လောကကြီးထဲရှိတဲ့ လူတွေဟာ အမှားကို အမှန်ထင် အမှန်ကို အမှားထင်၍ အမြင်မှန် မရကြသည်မှာ သညာ ဝိပလ္လာသတရားက လှည့်စားထားသောကြောင့် ဖြစ်တယ်။ ထို့ကြောင့် စွန်းလွန်းဂူ ဆရာတော်ဘုရားကြီးက 'မြင်တာကို သညာဖုံးတော့ သညာကို သက်ာရှင်းမှ ပညာဆိုတဲ့ အလင်းရောင်ကို ရနိုင်တယ်' လို့ မိန့်ဆိုထားပါတယ်၊ ဒုက္ခတုံးကြီးကို သညာဖုံးထားတော့ သုခလုံးလုံး ထင်မှတ်နေကြတယ်။ 'ဒုက္ခသအနန္တရံ သုခံ' ဆိုသည့်အတိုင်း ဒုက္ခကို ဉာဏ်ဖြင့် ဆင်ခြင်ပွားများ၍ သုံးသပ်နိုင်မှ ရင်ဆိုင်နိုင်မှ သူ့ကို မြင်အောင် ရှုနိုင်မှ ခေတ်ခွဲ ကြည့်နိုင်မှ ဒုက္ခသစ္စာဆိုတဲ့ ဒုက္ခအမှန်တရားကို မြင်

နိုင်တယ်၊ လောကဌ် သုခဟူ၍ အမှန်မရှိ၊ အစစ်မရှိ၊ အမှန် စင်စစ်ကား သုခတု၊ သုခယောင် (ဝိပရိဏာမသုခ) များသာ ရှိနေတယ်။

ဒုက္ခကို ဒုက္ခဖြင့် ရင်းနှီးပြီး ထင်အောင် မြင်အောင် ရှု နိုင်မှ သုခ၏ လမ်းစကို မှန်းဆ၍ မြင်နိုင်တယ်၊ ဒုက္ခသစ္စာလို့ ခေါ်သည့်အတိုင်း ဒုက္ခကို အမှန်ရှိသည်ဟု ဝန်ခံကတိ သစ္စာ သဘောဖြင့် ပြောနိုင် မြင်နိုင်လျှင် တရားကို မြင်ပြီဟု မှတ်ပါ။ 'ရေကြောင့်ဖြစ်သော ရွှံ့ညွန်တို့ကို ရေဖြင့်သာလျှင် ဆေးကြောမှ စင်ကြယ်စေသကဲ့သို့ 'ဒုက္ခကို လွန်မြောက်အောင် ဒုက္ခဖြင့်သာ အရင်းတည်၍ သုခကို ရအောင် ရှာရပါမယ်။

ဗုဒ္ဓဘာသာတရားကား အချောင်သမားများ၊ ရေသာခို သမားများ ကျက်စားရာ မဟုတ်၊ တကယ်တမ်း အလုပ်လုပ်တဲ့ အလုပ်သမားတို့ရဲ့ ကျက်စားရာသာ ဖြစ်တယ်။ 'အာတာပီ နိပကော ဘိက္ခု' ဆိုသည့်အတိုင်း အရိုးကြေ၍ အသားအရေတွေ ခန်းခြောက်ပြီး အကြောလောက်သာ ကြွင်းပါစေ၊ မဖြစ်မနေဆိုတဲ့ ဇွဲလုံ့လ ဝီရိယတို့ဖြင့် အားထုတ်နိုင်မှ ချမ်းသာစစ် နိဗ္ဗာန်အနှစ်ကို တွေ့မယ်၊ သိကြားမင်းက သုဝိရနတ်သားကို ပြောတယ်၊ လုံ့လဝီရိယ မကြိုးစားဘဲနဲ့ ချမ်းသာသော အရပ်ရှိလျှင် သင်လဲ သွားဖြစ်အောင် သွားပါ။ ငါကိုလည်း လိုက်ပို့ပါဟု ပြောတယ်။ (မရှိနိုင်လို့ပေါ့)။

နိဗ္ဗာန်ဆိုတာ ဝေးတာမဟုတ်၊ အမြဲမပြတ် တရပ်စပ် ဖြစ်ပျက် နေသည့် မိမိခန္ဓာကိုယ်ဆိုတဲ့ သံသရာအဆုံးနားမှာ ရှိတယ်။ ထို့ကြောင့် အဋ္ဌကထာဆရာကြီးများက "နိဗ္ဗာနံ သံသရပရိယန္တေ ဌိတော" ဟူ၍ လည်းကောင်း၊ "ခန္ဓသီသံ နိဗ္ဗာနံ" ဟူ၍လည်းကောင်း ဖွင့်ဆိုထားကြပါတယ်။ ဖြစ်သဘော ရှိသည့် ခန္ဓာနှင့် မဖြစ်သဘောရှိသည့် နိဗ္ဗာန်ဟာ အမြဲမပြတ် ဆက်စပ်နေပါတယ်။

သို့အတွက် ဖြစ်ပျက်သဘောရှိတဲ့ ဒုက္ခကို ရှုတာနှင့် မဖြစ် မပျက်သဘောရှိတဲ့ နိဗ္ဗာန်ကို မြင်လာခြင်း ဖြစ်တယ်။ ဒုက္ခ တရားကား ဖြစ်ခြင်း ဥပ္ပါဒလက္ခဏာရှိတယ်၊ နိဗ္ဗာန်တရားကား မဖြစ်ခြင်း အနုပ္ပါဒလက္ခဏာ ရှိတယ်၊ လူတကာ အမြင်မှားပြီး အထင်အရှားရှိသည်ဟု မှတ်ထင်နေကြသည့် ငါ၊ သူတစ်ပါး၊ ယောက်ျား၊ မိန်းမ၊ ပုဂ္ဂိုလ်၊ သတ္တဝါ၊ အကောင်အထည် စသည့် ပညတ်တရားကား ဖြစ်ခြင်း ဥပ္ပါဒလက္ခဏာလည်း မရှိ၊ မဖြစ်ခြင်း အနုပ္ပါဒလက္ခဏာလည်း မရှိ၊ န ဝတ္တဗ္ဗ မျှသာ ဖြစ်တယ်။

နိဗ္ဗာန်သည် ကမ္မဇ၊ စိတ္တဇ၊ ဥတုဇ၊ အာဟာရဇမျိုး မဟုတ်၊ အကြောင်းကြောင့်ဖြစ်သော အကျိုးတရားလည်း မဟုတ်၊ အကျိုးကို ဖြစ်စေတက်သော အကြောင်းတရားလည်း မဟုတ်၊ နောဝိညေယျ တရားမျှသာ ဖြစ်တယ်။ အာသာရကဋ္ဌေန အနတ္တပုဒ်ကို ဗျတိရေကနည်း ကြံ၍ သာရကဋ္ဌေန သတ္တာ ဟု ကြံဆပြီး ပြန်ရပြန်လျှင် နိဗ္ဗာန်မှာ အနှစ်သာရရှိသည့် တရား

ဖြစ်သော်လည်း. အတ္တာရှိသည်ဟုကား မယူရချေ။ အတ္တရယ်၊ ခန္ဓာရယ်၊ နိဗ္ဗာန်ရယ်- ဤသုံးတန်သည် အမှန်အားဖြင့် အချင်းချင်း သဘောမတူကြသော်လည်း ခွဲခွာလို့ကား မရချေ။ အတ္တကို ထုချေဖောက်ခွဲ ကြည့်လျှင် ခန္ဓာကို မြင်တယ်၊ ခန္ဓာကို ထုချေဖောက်ခွဲကြည့်လျှင် နိဗ္ဗာန်ကို မြင်တယ်၊ နိဗ္ဗာန်သည် မဖြစ်သဘောရှိ၍ တည်ရာမှီရာ မရှိ၊ 'ကောင်းကင် ဘယ်နေ့တည်မှာတည်သလဲ မေးရင် မရသလို' မဖြစ်လို့ မပျက်လို့ တည်ရာမှီရာ မရှိနိုင်။ နိဗ္ဗာန်ကို မရသေး မရောက်သေးဘဲနဲ့ ဘယ်လို နိဗ္ဗာန်ကို သိနိုင်သလဲ ဆိုလျှင် မိလိန္ဒာပဥှာမှာ ရှင်နာဂသိန် ဟောထားသလို မိမိမှာ လက်ဖြတ်မခံရသေးသော်လည်း လက်ဖြတ်ခံရသူတွေ အော်တာကို မြင်နေရတော့ နာကျင်သည်ဟု သိရသလို နိဗ္ဗာန်ကို မရောက်သေးသော်လည်း၊ မရသေးသော်လည်း တကယ်ယုံကြည်ထိုက်သည့် ဘုရား၊ ရဟန္တာ၊ ပုဂ္ဂိုလ်တွေက ဟောထားလို့ သိနိုင်ပါတယ်၊ နိဗ္ဗာန်ကို သိတာ ကိုယ်တွေ့လား ဉာဏ်တွေ့လားလို့ မေးလျှင် ကိုယ်တွေ့၊ ဉာဏ်တွေ့ နှစ်ပါးလုံးဟု လယ်တီဆရာတော်နှင့် ဉာဏစာရီ ဆရာတော်တို့က အမိန့်ရှိတယ်၊ နိဗ္ဗာန်ဟာ တကယ်ရှိသလား ဆိုရင် တကယ်ရှိ၊ အဟုတ်ရှိ၊ အမှန်ရှိ၊ ကေန်ရှိ ပရမတ္ထသဘောတရားတို့တွင် တစ်ပါးအပါအဝင် ဖြစ်၍ တကယ်ရှိပါတယ်၊ စိတ်က သိမြင်တဲ့ အနေအထားအားဖြင့် ထင်ရှားရှိတယ်၊ စေတသိက်တို့တွင် လောဘစသည်တို့ကား လိုချင်ခြင်းသဘော စသော

အားဖြင့် ထင်ရှားရှိတယ်၊ ရုပ်တို့တွင် ပထဝီစသည်ကား နူးညံ့မာကျောခြင်းသဘော စသောအားဖြင့် ထင်ရှားရှိတယ်။

နိဗ္ဗာန်ကား ငြိမ်းအေးခြင်းသဘောအားဖြင့် ထင်ရှားရှိတယ်၊ သို့ဖြစ်၍ ဟုတ်ကယ်ရှိသည့် တရားဟု မှတ်ရပါမည်။ သို့ပေမယ့် စိတ်၊ စေတသိက်၊ ရုပ်တို့နှင့် မတူ အထူးခြားဆန်းပြားသော သုခတရား ဖြစ်တယ်၊ အဲဒါတော့ ထူးတယ်။

ဒါဖြင့် နိဗ္ဗာန်ရောက်အောင် နိဗ္ဗာန်သို့ မျက်မှောက်ပြုနိုင်အောင် သံသရာဝဋ်ကြီးထဲမှ ဖယ်ခွာလာချင်အောင် လူ၊ နတ်၊ ဗြဟ္မာ စည်းစိမ်တွေကို ရွံ့မုန်းလာအောင် ဘယ်လိုကြံဆောင်ရပါမလဲ၊ ဘယ်လိုဝေဖန် ဘယ်လို စဉ်းစားရပါမလဲ ဆိုလျှင် ဤလောကကြီးထဲ၌ အပါယ်သတ္တဝါ၊ လူသတ္တဝါ၊ နတ်သတ္တဝါ၊ ဗြဟ္မာသတ္တဝါ ဟူသမျှသည် ငါ၊ သူတစ်ပါး၊ ယောက်ျား၊ မိန်းမ အဟုတ်အမှန်ဟု သမုတ်ခံနေကြသော ရုပ်နာမ်တို့သာ ဖြစ်ကုန်၏။ အမြဲမရှိ တဖွဲဖွဲ တမြည့်မြည့် တရိရိ ကုန်ဆုံးပျက်ပြုန်းနေသည့် ဒုက္ခဘုံကြီးသာ ဖြစ်၏။ ထွက်သက် ဝင်သက်ကလေး ကင်းသွားလျှင် ထင်းတုံးပမာ ဘာမျှ အနှစ်သာရ မရှိ၊ စက်ဆုပ်ရွံရှာဖွယ်လိလိသာ ဖြစ်၏။ အကုသိုလ်စက်လှည့်လို့ ပျက်တဲ့ဆိုတဲ့ ဒုဂ္ဂတိသို့ ရောက်သွားလျှင် ထောက်ထားမှီခိုစရာ မရှိ၊ ဘုရားမရှိ တရားမရှိ သံဃာမရှိ အကုသိုလ်ဟာ အလွန်ကြောက်စရာ ကောင်းတယ်။ သာမန်လူ မဆိုထားဘိ မြတ်စွာဘုရား၏ လက်ဝဲတော်ရံ အရှင်မောဂ္ဂလာန်တို့လို တန်ခိုးဣဒ္ဓိပါဒ် ချွန်

အရာထက် တေဒဂ်ရသည့် ပုဂ္ဂိုလ်ကြီးတောင်မှ နိဗ္ဗာန်ဝင် သည့် ဘဝကိုပင် လိုက်ပြီး နှိပ်စက်သေးတယ်။

လောကဌ် ဘဝပဒေသာခေါ် သည့် လူ့ဘဝသို့ ရောက် နေတဲ့ ပုဂ္ဂိုလ်တွေဟာ မိမိဘဝကိုပြန်၍ ဆန်းစစ်မကြည့်ကြ လို့သာ မသိတာ၊ လောကကြီးထဲမှာ နေလို့ ထိုင်လို့ ဖြစ်နေ တာဟာ အဝိဇ္ဇာက ဖုံးလွှမ်း၍ တဏှာက ဆွဲငင်ထားလို့သာ ဖြစ်တယ်၊ သေသေချာချာ ကျကျနန ကြည့်မယ်ဆိုလျှင် လူ မရှိတဲ့ ချောက်ကမ်းပါးကြီးမှာ တစ်ယောက်တည်း ထွက်ပေါက် မတွေ့၊ ထွက်၍မရ၊ ကယ်မသူ မမြင်၊ ကူချင်သူ မရှိ၊ ကြောက် ဖွယ်လိလိ ဖြစ်နေကြသည်။ ဇနီးမယား၊ သမီးသားနှင့် စီးပွား ဉစ္စာရတနာကို ...ည် အပါယ် ရောက်ရန် ငရဲပို့ရန် မှူးခေါ်မည့် ...တို့...သမားများသာ ဖြစ်ကြတယ်။

လောကဌ် မိမိအလျင် သေသွားသည့် အထက်တန်း ကျကျ မျက်နှာပန်းလှလှ နေကြရတဲ့ မင်းစိုးမဟာရာဇာ ပဂေး သူဌေးသူကြွယ်တို့မှာလည်း တဏှာ၏နောက်သို့ တကောက် ကောက် လိုက်ရင်း သေမင်း၏ ခံတွင်းသို့သာ ရောက်သွား ကြတယ်။ မိမိချစ်လှပါသည်ဆိုတဲ့ ဇနီးမယား သမီးသားတို့ကလဲ သေသွားလျှင် အမယ်လေး အလိုလေးနှင့် ငိုကြွေးမြည်တမ်းကာ သုသာန်သို့သာ ပို့ကြတယ်။

အဝတ်တစ်ထည် ကိုယ်တစ်ခုနဲ့ လူတွေစုပြီး လိုက်ပို့ ကြတာ မြေကြီးတွင်း၊ မီးပုံတွင်းသာ ဆင်းကြရတယ်၊ မဂ်

တစ်ဦးတစ်ယောက်မျှ အထူးထောက်မလို့ ကယ်တင်ပေးလို့ သေမည်ဘေးမှ လွတ်သွားသောသူ မရှိချေ။ တန်ခိုး၊ ဥစ္စာ၊ အာဏာကြောင့် မနာအောင် မသေအောင် လုပ်လို့လဲ မရချေ။ ထမင်းနှင့် သွားရေစာတို့ကို စားသောက်ပြီး ပြတင်းပေါက်က သေမင်းနောက်သို့ လိုက်ရန် စောင့်နေကြတယ်။

တချို့လူတွေ မစောင့်နိုင်လို့ သေမင်းကို သွားခေါ်နေကြတဲ့ လူတွေလဲရန်ဖြစ်၍ စစ်ဖြစ်၍ သူပုန်ထ၍ သတ်နေကြသူတွေ၊ မခံမရပ်နိုင်အောင် စိတ်ဆင်းရဲလို့ ရေထဲ ခုန်ချသူတွေ၊ ကြိုးဆွဲချသေရသူတွေဟာ အလိုလို အသေမစောင့်နိုင်လို့ သေမင်းကို သွားခေါ်ပြီး သေနေကြတာပဲ မဟုတ်ပါလား။ ဤမျှလောက် ကြောက်စရာကောင်းသည်ကို ကြံစည် တွေးတောကြရမယ်။

ဤမျှလောက် ကြောက်စရာကောင်းသည့် အိုမင်း၊ နာမင်း၊ သေမင်းဘေးတွေမှ ကင်းဝေးသွားအောင် ဝိပဿနာတရားကို အမြန်အားထုတ်ကြဖို့ပဲ ရှိတယ်။ ယင်းတရားကို အားထုတ်ကြဖို့ပဲ ရှိတယ်။ ယင်းတရားကို အားထုတ်နိုင်အောင် ဒါန၊ သီလ၊ သမထတို့လဲ မမေ့ကြနဲ့။ ဒါနကား 'ဒါနံ သမ္ပတ္တိသာဓကံ' ဆိုသည့်အတိုင်း အလုံးစုံသော စည်းစိမ်ချမ်းသာကို ပေးစွမ်းနိုင်တယ်။ သီလကား အသက်ရှည်အောင် ချမ်းသာအောင် ပေးစွမ်းနိုင်တယ်။ သမထကား ကာယကံ၊ ဝစီကံ၊ ဒုစရိုက်တွေ သာမက မနောကံဒုစရိုက်ပါ ပယ်သတ်နိုင်သောကြောင့် ဗြဟ္မာ

ပြည်အထိ အကျိုးပေးနိုင်တယ်။ ဝိပဿနာကတော့ နိဗ္ဗာန်ကို အကျိုးပေးနိုင်တယ်။

ဤသို့ အကျဉ်းအားဖြင့် စဉ်းစား၍ တရားအားထုတ်ရန် ရည်ရွယ်ပြီး သံဝေဂရဖွယ်အကြောင်း ဒါန၊ သီလ၊ ဘာဝနာမှုကို ပြုဖို့ အကြောင်းတရားကို ကောင်းစွာ နှလုံးသွင်းရတယ်။ တစ်ဘက်ရန်သူ ဝိုင်းလျက်ရှိနေသောသူသည် ရန်သူလက်အောက်မှ ထွက်ပေါက်ရှာသကဲ့သို့လည်းကောင်း မီးဝိုင်းခံရ၍ နေသောသူသည် မီးတွင်းမှ လွတ်ကင်းရန် ရှာကြံရသကဲ့သို့လည်းကောင်း၊ ကြိုးမိန့်ကျထားသော ရာဇဝတ်ကောင်သည် ကြိုးမိန့်မှလွတ်အောင် တစ်ဖန် စီမံသကဲ့သို့လည်းကောင်း မှတ်ရမယ်။ ဤဥပမာအရ ထိုသူတွေဟာ မအိပ်နိုင်၊ မစားနိုင်၊ မသွားနိုင်၊ မထိုင်နိုင်၊ ဖြစ်နေကြမည် မဟုတ်လား။ ကမ္ဘာ့ကမ္ဘာ သံသရာသံဘရာ လဆန်းတစ်ရက်က အလျဉ်မပျက် ဆက်ဆက် လာခဲ့တဲ့ အကုသိုလ် အပရာပရိယ ကံဟောင်းတွေနဲ့ နောင်ဖြစ် လတ္တံ့သော် အကုသိုလ်ကံသစ်တွေကြားမှ နှစ်ဘက်သွား အပိတ်ခံ နေရမည်ကို ကြံဆရ၍ အမှန်ဘဝကို မြင်ကြပြီး သံသရာ ခန္ဓာကြီးကို ရွံမုန်းကာ ကြောက်ရွံ့ကာ ငြီးကာ မအိပ်နိုင်၊ မစားနိုင်၊ မသွားနိုင်၊ မထိုင်နိုင် တမှိုင်မှိုင်တဝေဝေ ဖြစ်နေသည့် ယောဂီ ကောင်း သူတော်သူမြတ်လောင်းတွေ ဖြစ်နေဖို့ လိုပေတယ်။

ထို့ကြောင့် ရှေးဆရာမြတ်တို့က "ရန်သူဝိုင်းထား၊ ထို ယောက်ျားအား ပြေးသွားဖို့ရာ၊ လမ်းပေါက်သာလျက် ပြေး

မထွက်၊ လမ်းတွက်မဟုက်ချေ" ဟူ၍လည်းကောင်း၊ "မစင်လူးလျှင်၊ ထူးကြည်လင်သည့်၊ ရေစင်ရှိလျက် မဆေးရက်၊ ရေတွတ်မဟုတ်ချေ" ဟူ၍လည်းကောင်း မိန့်ဆိုကြသည်။

ကျွန်ုပ်စာရေးသူသည် ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီး ရေးသားထားသော ဝိပဿနာဆိုင်ရာကျမ်းများကိုလေ့လာကြည့်ရှု၍ ကိုယ်တိုင်လဲ မင်းကွန်းရိပ်သာ၊ မဟာစည်ရိပ်သာ၊ စွန်းလွန်းရိပ်သာ၊ ရတနာပုံရိပ်သာ၊ သဲအင်းဂူရိပ်သာ၊ ဉာဏစာဂီရိပ်သာများသို့ သွားရောက်ကာ တတ်နိုင်သမျှတရားထိုင်ခဲ့သဖြင့် မိမိအမြင်အကြား၊ တရားထင်မြင်ချက်တို့ကိုနှုတ်အားဖြင့်လည်း ဟောကြားနိုင်သမျှ ဟောကြားခဲ့ဘူး၏။ နောင်လာနောင်သားများ လိုက်နာရန်အတွက် ရည်ရွယ်ချက်ကိုအဓိကထားလျက် ဤ "ဝိပဿနာရှုနည်း ညွှန့်ပေါင်းကျမ်း" စာအုပ်ကို ရေးသားထုတ်ဝေ ဖြန့်ဖြူးလိုက်ရခြင်း ဖြစ်ပါ၏။

အထူး သတိပေးလိုသည်မှာ- ဝိပဿနာတရားကိုအားထုတ်သည့်အခါ ဘယ်ဆရာတော် နည်းမှန်သည်၊ ဘယ်လိုအားထုတ်မှ မှန်သည်၊ ကျမ်းဂန်နှင့်ညီသည် စသည်ဖြင့် ပုဂ္ဂိုလ်စွဲ၊ ဆရာစွဲ၊ နည်းစွဲမထားဘဲ မိမိစိတ်ထဲတွင် ထင်လွယ်၊ မြင်လွယ်သည့်နည်း၊ သမာဓိ မြန်မြန်ရနိုင်သော နည်းကို ရှာကြံပြီးအားထုတ်ဖို့ လိုပါသည်။ တချို့ကား အာနာပါနအားထုတ်မှထင်လွယ်၊ မြင်လွယ်ပါသည်။ သမာဓိ မြန်မြန်ရနိုင်သည်။ အာနာပါနမှာလည်း အချို့ကား ပြင်းပြင်းရှူမှ ထင်လွယ်၊

မြင်လွယ်သည်။ အချို့ကား သွားခြင်း, ထိုင်ခြင်း စသော ဣရိယာပုတ်ဖြင့် အားထုတ်မှ လက္ခဏာရေးသုံးပါး ထင်လွယ်၊ မြင်လွယ်သည်။ သမာဓိမြန်မြန် ရနိုင်သည်။ အချို့ကား အသုဘကမ္မဋ္ဌာန်းကို စီးဖြန်းမှသာ ထင်လွယ်၊ မြင်လွယ်သည် စသည်ဖြင့် ရှိပါသည်။ သို့အတွက် မိမိကြိုက်ရာ စရိုက်အားလျော်စွာ ကြည့်၍ အားထုတ်မှုပြုပါရန် တိုက်တွန်း တောင်းပန်လိုက်ပါသတည်း။

တင်မြင့်

(အစိုးရ) သာသနဓဇ သိရီပဝရဓမ္မာစရိယ

(စေတိယင်္ဂဏ) ပရိယတ္တိဓမ္မာစရိယ၊ ဂဏဝါစက

(အမျိုးသား) ပရိယတ္တိသာသနာ့လင်္ကာရကောဝိဒ

ပထမကျော်

၁၃၃၇ - ခု၊ ဝါဆိုလပြည့်နေ့၊ (၂၂-၇-၇၅)

# ၃။ လယ်တီဆရာတော်ဘုရားကြီး၏
# တရားရှုနည်း စကားပလ္လင်

ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးတို့တွင် အချို့ပုဂ္ဂိုလ်တို့သည် ဘုရား၊ တရား၊ သံဃာကို ကိုးကွယ်ကြသည်ဟု ဆိုရသော်လည်း မိမိတို့၏ အဇ္ဈတ္တသန္တာန်မှာ အနိစ္စဉာဏ်၊ ဒုက္ခဉာဏ်၊ အနတ္တဉာဏ်ကို တစ်ရံတဆစ်မျှ မရဘူးကြချေ။ ထိုသူတို့သည် မမြဲသော အနိယတ ဗုဒ္ဓဘာသာဝင်များ ဖြစ်ကြ၏။ အဘယ်ကြောင့် ဆိုသော် ယနေ့ ဂေါတမဗုဒ္ဓ၏တပည့်၊ နက်ဖြန် အခြားသော ဘုရားများ၏တပည့် ဖြစ်နိုင်၍ မိမိတို့ မိရိုးဖလာ ကိုးကွယ်ခဲ့ကြသော ဂေါတမဗုဒ္ဓကို အပြစ်ကို မြင်၍ ကဲ့ရဲ့ရှုတ်ချနိုင်သောကြောင့် ဖြစ်ပေသည်။ ယခုဘဝ နောင်ဘဝမှာတော့ ဆိုဖွယ်ရာမရှိ အသချေ်နှင့် အနန္တပင် ရှိပေလိမ့်မည်။ သို့အတွက် မမြဲသော အနိယတ ဗုဒ္ဓဘာသာဝင်များဟု ဆိုရသည်။

ထို့ကြောင့် ပဋ္ဌိသမ္ဘိဒါမဂ္ဂပါဠိတော်ကြီးမှာ 'နာနာ သတ္တာနာနံ မုခံ ဥလ္လောကန္တီတိ ပုထုဇ္ဇနာ' ဟု ဖွင့်ပြထား လေသည်။ နာနာ သတ္တာရာနံ၊ အထူးထူးသောဆရာ အထူး ထူးသောဘုရားတို့၏။ မုခံ၊ မျက်နှာကို။ ဥလ္လောကေန္တိ၊ အားထား ဟန်ကြော့ တမော့မော့ဖြင့် မျှော်ကာတိတိ မော်သာကြည့်ကြ ကုန်၏။ ဣတိ၊ ထို့ကြောင့်။ ပုထုဇ္ဇနာ၊ ပုထုဇဉ်တို့ မည်ကုန်၏တဲ့။

ပုထုဇဉ်သတ္တဝါ အနန္တ မှန်သမျှတို့သည် အနမတဂ္ဂ သံသရာ၌ ကိုးကွယ်ရာဌာန မမြဲသောကြောင့် သည်နေ့တစ်မျိုး၊ နက်ဖြန်တစ်မျိုး၊ သည်လတစ်မျိုး၊ နောက်လတစ်မျိုး၊ သည်နှစ် တစ်မျိုး၊ နောက်နှစ်တစ်မျိုး သည်ဘဝတစ်မျိုး၊ နောက်ဘဝ တစ်မျိုး၊ အမျိုးမျိုးအဖုံဖုံ ကိုးကွယ်ရာ ဘုရားအစားစား ရှိကြ ကုန်၏။ ပြောင်းလဲနိုင်ကြကုန်၏။ ဘုရားစစ် ဘုရားမှန်ကို ကိုးကွယ်ရသော ဘဝကား အလွန်နည်းပါးလှ၏။ အယူမှား၊ အမြင်မှား၊ အထင်မှား၊ ဘဝနှင့်သာ အချိန်ကုန်ခဲ့ကြ၏။ သက္ကာယဒိဋ္ဌိ အမှောက်အမှားကြီးက လှည့်စားထားသောကြောင့် ကျတ်တွေ၊ သရဲတွေ ဖန်ဆင်းသော ရွာ၊ ဘီလူးသဘက်တွေ ဖန်ဆင်းထားအပ်သော ရွာများမှာ ရောက်သွားသော ခရီးသည် ကဲ့သို့ အလွန်ကြေ... ...ကဲ့ဖွယ်၊ ထိတ်လန့်ဖွယ်၊ အံ့သြဖွယ် ကောင်းလေစွ။

ကိုးကွယ်ရာ ဘုရားပြောင်းလျှင် ကိုးကွယ်ရာ တရားလဲ ပြောင်းလဲသွားတော့တာပဲ၊ ဂုံခါ ဂေါတမဗုဒ္ဓ ပညတ်တော်မူ

လိုသော ယောဂီပုဂ္ဂိုလ်သည် ကမ္မဋ္ဌာန်းဆရာထံ နည်းခံ၍ တောအရပ်မှာ ဖြစ်စေ၊ သစ်ပင်ရင်းမှာ ဖြစ်စေ၊ ဆိတ်ငြိမ်သော တစ်နေရာမှာ ဖြစ်စေ နေ၍ ထက်ဝယ်ဖွဲ့ခွေ ကိုယ်နေဖြောင့် ဖြောင့် ကြောင့်ကြမရှိ သတိတရားဖြင့် ဝင်သက် ထွက်သက်ကို မပျက်မပြတ် ရှုမှတ်ရမည်။ အထူးဖော်ပြ လိုသည်မှာ ဤနေရာ၌ အဋ္ဌကထာ ဆရာမြတ်တို့ကား 'ပလ္လင်္ကံ အာဘုဇိတွာ'ဟု ဆိုထား သောကြောင့်သာလျှင် ထက်ဝယ်ဖွဲ့ခွေ ထိုင်နေမှုကို ရေးသား ထားခြင်း ဖြစ်ပါသည်။ အမှန်မှာ သွားလျက်သော်လည်းကောင်း၊ ရပ်လျက်သော်လည်းကောင်း၊ လျောင်းလျက်သော်လည်း ကောင်း၊ ဣရိယာပုတ်လေးပါးတို့တွင် တစ်ပါးပါးဖြင့် တရား အားထုတ်နိုင်ပါသည်။

ထို့အပြင် အထူးမှတ်သားဖို့ရာမှာ သမထအလုပ်ကို ရည်စူး၍ ဆိတ်ငြိမ်ရာအရပ်ကို ဆိုထားသည်။ ဝိပဿနာ အလုပ်ကတော့ ဆိတ်ငြိမ်ရာမှာ ပေါက်ရောက်ပြီးစီးနိုင်သည် မဟုတ်၊ ပါရမီဉာဏ်သာ အဓိက ဖြစ်သည်။ ထို့ကြောင့် လူထဲသူထဲ တရားနာရင်း တရားပေါက်သွားတဲ့သူတွေ အများ ကြီးရှိသည်။ တစ်ခါတစ်ခါ အိမ်မှာ နေရင်း ထမင်းချက်ရင်းနှင့်ပင် တရားပေါက်သွားသော ပုဂ္ဂိုလ်များ ကျမ်းဂန်တို့တွင် အထင် အရှား တွေ့မြင်ရပါသည်။

ရှုမှတ်ပုံ ပါဠိတော်နည်းလာ အပိုင်းလေးပိုင်းကို ရေးဦးစွာ တင်ပြပါမည်။

'သတိမြဲရာ၊ ပထမမှာ၊ ဒုမှာ ရှည်တိုသိ။ လုံးစုံလင်းရာ၊ တဋ္ဌသာ၊ စမှာ ငြိမ်းစေဘိ' ဟူသော ဆောင်ပုဒ်အရ ပထမ ရှုမှတ်ခါစမှာ ထွက်သက် ဝင်သက်တို့၏ အတိုအရှည်ကို နှလုံးမသွင်းသေးဘဲ စိတ်ကို နှာသီးဖျား၌ ဖြစ်စေ အထက်နှုတ်ခမ်း၌ဖြစ်စေ ခိုင်မြဲစွာ ထား၍ ဝင်လေ ထွက်လေတို့၏ ထိမှု၊ ခိုက်မှုတို့ကို အာရုံစိုက်၍ ဝင်လာပြီ၊ ထွက်လာပြီဟု နှုတ်က ဆိုစရာမလို။ စိတ်ထဲမှာသာ မှတ်သားပြီး ဝင်တိုင်း ထွက်တိုင်း၊ ဝင်တိုင်း ထွက်တိုင်း သတိမလွတ်စေဘဲ သိအောင် အားထုတ်ရပါမည်။ တစ်နာရီ၊ နှစ်နာရီ စသည်ဖြင့် တတ်စွမ်းသမျှ ကာလပတ်လုံး မနားဘဲ တစ်စပ်တည်း အားထုတ်ပါ၊ ညောင်းရင်လဲ မပြင်နဲ့၊ ယားရင်လဲ မကုတ်နဲ့၊ ဝင်သမျှ ထွက်သမျှ တစ်ခုမှ မလွတ်ရအောင် သတိဆောင်၍ သိအောင် ရှုမှတ်ရမည်၊ စိတ်ကို နှာသီးဖျား၌ထား၍ ရှုမှတ်လို့ လွယ်လျှင် နှာသီးဖျား၌ ထားပါ၊ သို့မဟုတ် အထက်နှုတ်ခမ်းဖျား၌ ထား၍ ရှုမှတ်လို့လွယ်လျှင် အထက်နှုတ်ခမ်းဖျားမှာ ထားပါ။ အချို့ကား ရင်ထဲမှာလည်း ထား၍ ရှုမှတ်ကြသေး၏။

ဒုတိယအချက်- တက်၍ ရှုမှတ်ရမည်မှာ ပထမ ရှုမှတ်လို့ နှာသီးဖျား၌ နှုတ်ခမ်းဖျား၌ ဝင်လေ ထွက်လေများ ဝင်တိုင်း ထွက်တိုင်း သတိပြုမှု အားကောင်း၍ မလွတ်တမ်း ပိုင်အောင် နိုင်အောင် ရှုမှတ်နိုင်မည်ဆိုလျှင် မိမိရှုသော ဝင်သက် ထွက်သက်ကို ရှည်လျှင် ရှည်မှန်း သိအောင် သတိထားပြီး ရှည်တယ်လို့ ရှုမှတ်ရမည်။

တိုလျှင် တိုမှန်းသိအောင် သတိထားပြီး တိုတယ်လို့ ရှုမှတ်ရမည်။ ရှုမှတ်နေသော ယောဂီပုဂ္ဂိုလ်၏ စိတ်ထဲမှာ ရှည်သောအလှည့် တိုသောအလှည့် သိနေရသည်။ ရှည်မှု တိုမှုကို တစ်ခုမျှ မလွတ်အောင် ရှုမှတ်ရမည်၊ ရှည်သည် တိုသည်ဆိုသည်မှာ ထွက်သက်ဝင်သက် အထွက်နှေးသည်ကို ရှည်သည်ဟု ဆိုသည်၊ အမြန်ထွက်သည်ကို တိုသည်ဟု ဆိုသည်။

အချို့ပုဂ္ဂိုလ်များမှာ ပင်ကိုအတိုင်း တစ်မိနစ်လျှင် အကြိမ်ပေါင်း (၃၈) စက္ကန့်လောက် ရှုသည်၊ အချို့မှာ (၄၀)လောက် ရှုသည်။ အရှည် အတို မညီကြ။

တတိယအချက်- ထိုထက်တက်၍ ရှုမှတ်ရန်မှာ အရှည်အတိုကို ပိုင်ပိုင်နိုင်နိုင် ရှုမှတ်လို့ နိုင်ပြီးနောက် နှာသီးဖျားနှုတ်ခမ်းဖျားမှ ချက်သို့ကျအောင် ကိုယ်ကာယအတွင်း၌ ဝင်သက်ဆိုလျှင် နှာသီးဖျား နှုတ်ခမ်းဖျားအစ၊ လည်ချောင်းအလယ်၊ ချက်အဆုံး သုံးပါးလုံး၌ ထင်လင်းစွာ စိတ်ထဲမှာ မြင်လာအောင် ရှုမှတ်ရမည်။ ထွက်သက်ဆိုလျှင် ချက်အစ လည်ချောင်း အလယ်၊ နှာသီးဖျား၊ နှုတ်ခမ်းဖျားအဆုံး သုံးပါးလုံး၌ ထင်လင်းစွာ စိတ်ထဲမှာ မြင်လာအောင် ရှုမှတ်ရမည်။

စတုတ္ထအချက်မှာ ထိုသို့ အစ အလယ် အဆုံး သုံးပါးလုံး ထင်ရှားအောင် ပိုင်ပိုင်နိုင်နိုင် ရှုမှတ်ပါ။ ရှုဖန်များလျှင် ထွက်သက် ဝင်သက်တို့သည် တဖြည်းဖြည်း တစ်စတစ်စ သိမ်မွေ့၍ လာကြလိမ့်မည်။ အချို့လည်း လူက သိမ်မွေ့အောင် အားထုတ်

ရသည်။ အချို့မှာတော့ လူက အထူးလုပ်မနေရ၊ သူ့အလိုလို သိမ်မွေ့လာပြီး ထွက်သက် ဝင်သက်မှ ရှိသေးရဲ့လား၊ ရှူခြင်း၊ ရှိုက်ခြင်းမှ ရှိသေးရဲ့လားလို့ ကိုယ့်ကိုယ်ကို အထင်မှား လောက်အောင် ပျောက်၍ သွားပြီဟု ထင်ရလောက်အောင် ဖြစ်လာတတ်သည်။ ထိုသို့ ထင်သောအခါ စိတ်သည် အလွန် ပေါ့ပါး၍ သွားပြီး ခန္ဓာကိုယ်ကြီးလည်း လေထဲတွင် ပျံ့လွင့် သကဲ့သို့ ထင်ရသည်။ ဤကား ပါဠိတော်နည်းတည်း။

* * * * *

## ၄။ အဌကထာနည်း

တစ်ဖန် အဌကထာအလို ပထမဂဏနာနည်းမှာ 'အနှေး အမြန်၊ အစဉ်အမှန်၊ နှစ်တန်ရေတွက်နည်း ' ဆိုသည့်အတိုင်း အနှေးရေတွက်နည်း၊ အမြန်ရေတွက်နည်း' ဟူ၍ နှစ်မျိုးရှိသည်။ ထိုနှစ်မျိုးတွင် နှာသီးဖျားမှာဖြစ်စေ၊ နှုတ်ခမ်း ဖျားမှာဖြစ်စေ၊ စိတ်ကိုစိုက်ထား၍ ထွက်သက် ဝင်သက် နှစ်ပါးကို ထွက်တယ်၊ ဝင်တယ်ဟု နှလုံးသွင်းသောအခါ အစ၌ စိတ်မငြိမ် မသက် ဖြစ်နေသေး၍ ဝင်တိုင်း ထွက်တိုင်း မထင်ရှားနိုင်၊ မမှတ်မိနိုင် သေးသဖြင့် မထင်ရှားသော ထွက်သက် ဝင်သက်ကို မရေ တွက်ဘဲ ထင်ရှားသော ထွက်သက် ဝင်သက်ကိုသာ ရေတွက်၍ ရှုသောနည်းသည် အနှေးရေတွက်နည်းဟု ဆိုရသည်။ ရေတွက်ပုံမှာ တစ်၊ နှစ်၊ သုံး၊ လေး၊ ငါးဟု ငါးတွင် အဆုံးထား၍ ရေတွက်နည်း တစ်ဝါရ၊ တစ်မှစ၍ ခြောက်တွင် တစ်ဝါရ၊ တစ်မှစ၍ ခုနစ်တွင် တစ်ဝါရ၊ တစ်မှစ၍ ရှစ်တွင် တစ်ဝါရ၊ တစ်မှစ၍ ကိုးတွင် တစ်ဝါရ၊ တစ်မှစ၍ တစ်ဆယ်တွင် တစ်ဝါရ ဟူ၍ ခြောက်ဝါရတို့တွင် ရေတွက် ရ၏။

ထိုသို့ ခြောက်ဝါရ ရသည့်တိုင်အောင် ရေတွက်ပြီးလျှင် တစ်ဖန်ပြန်၍ ပထမဝါရသို့ ပြန်ရှုပါ။ ထိုသို့ ခဏခဏ ရှုမှတ်ပြီး နေသားကျလာသော် စိတ်ကို ရှေးဦးစွာ နှာခေါင်းဝသို့ စိုက်ထား၍ ထွက်သက် ဝင်သက် နှစ်ပါးတို့တွင် ထင်ရှားရာ တစ်ခုခုကို တစ်ဟု ရေတွက်ရာ၏။ နှစ်ခုလုံး ထင်ရှားသည်ချည်း ဖြစ်လာလျှင် အစဉ်အတိုင်း တစ်၊ နှစ်။ သုံး၊ လေး၊ ငါးဟု ရေတွက်ရာ၏။ မယင်းရှားသည်ချည်း ဖြစ်ပေါ်လျှင် ရပ်တန့်၍ ထင်ရှားသောအချက် ပေါ်လာမှ နှစ်စသည်တက်၍ ငါးသို့ ကျလျှင် တစ်ကပြန်စရ၏။ ထိုနည်းအတူ တစ်ဆယ်ဝါရတိုင်အောင် ထင်ရှားသော ထွက်သက် ဝင်သက်တို့ကိုသာ ကောက်၍ ရေတွက်ရသောကြောင့် နှေးသော ရေတွက်နည်းဟု ဆိုရသည်။

အမြန်ရေတွက်နည်းကား ထိုသို့ ဆိုအပ်ခဲ့ပြီးသည့်အတိုင်း ရေတွက်၍ ရှုမှတ်ဖန်များလတ်သော် ထင်ထင်ရှားရှား ရေတွက်ရသော အချက်တို့သည် များ၍များ၍ လာလိမ့်မည်။ တစ်၊ နှစ် စသော မှတ်ချက်တို့လည်း အမြဲမပြတ် အလပ်မရှိဘဲ အမြဲ မှတ်နိုင်လာလိမ့်မည်။ တစ်ခုခုကိုမျှ အမှတ်မလွတ်ဘဲ ဖြစ်နေလိမ့်မည်၊ ထွက်သက်ဝင်သက် အစဉ်နှင့်တစ်နှစ်စသော ဂဏန်းအစဉ်ကို မခုန်မကျော် အချော်အလပ်မရှိ၊ တစ်ဆက်တည်း ထပ်ခနဲ ချပ်ခနဲ တိတိကျကျ မိမိရရ အသားကျသွားသလို ဖြစ်လာလိမ့်မည်။

တစ်နှစ်စသော ဂဏန်းများ နှုတ်ကရွတ်စရာ မလို၊ စိတ်ထဲကသာ ရေတွက်လျှင် ပြီးပါသည်။ အာရုံမြန်မြန် ထင်သလောက် သတိက တိခနဲ ချပ်ခနဲ လိုက်မှတ်ဖို့သာ အရေးကြီးပါသည်။

ဤကား အမြန်ရေတွက်နည်းတည်း။

ထို့နောက် မရေတွက်သော်လည်း ရေတွက်သည့်နည်းတူ နှာခေါင်းဝ၌ ထွက်သက် ဝင်သက်ကို ထိတိုင်းထိတိုင်း အသိနှင့် သတိသည် မြဲပြီး စွဲပြီးနေသဖြင့် နှလုံးသွင်း၍ နေသမျှ ကာလပတ်လုံး ထွက်သက် ဝင်သက် တစ်ချက်မျှ အသိနှင့် သတိကင်း၍ လွတ်သွားရခြင်း မရှိပေ။ ထိုအခါ ဂဏနာနည်းဖြင့် ရေတွက်၍ ရှုမှတ်ရန် မလိုတော့ပေ။

ဒုတိယအချက် အနုဗန္ဓနာနည်းမှာ 'အမြဲအမြန်၊ အတွယ်သန် တစ်ဖန်ဖွဲ့ထားနည်း' ဆိုသည့်အတိုင်း ထိရာဌာန နှာသီးဝ၌ စိတ်ကိုစိုက်ထားပြီး ထွက်သက်ဝင်သက် အစဉ်အတိုင်း တစ်ကြိမ်မျှ မလွတ်စေရဘဲ အစဉ်မပြတ် သတိချပ်လျက် ဖွဲ့စည်းထားသဖြင့် အစဉ်တွယ်ကပ်နေအောင် အားထုတ်ရသည့်နည်း ဖြစ်သည်။

ရေတွက်မှု မရှိဘဲလျက် ထိမှု၊ သိမှု အစဉ်မှတ်၍ နေအောင် အဖန်ဖန် အထပ်ထပ် ဝင်နေတယ် ထွက်နေတယ်ဟု အမှတ်မပြတ်စေဘဲ ပဋိဘာဂနိမိတ်ပေါ်၍ လာသည့်တိုင်အောင် ရှုမှတ်၍ နေရမည်ဟု ဆိုလိုသည်။ ထိုသို့ ဆိုအပ်ခဲ့ပြီးသော ဂဏနာနည်းနှင့် အနုဗန္ဓနာနည်း နှစ်ခုစလုံး ထိရာဌာနကို မလွတ်ရသေးပါ။

ပဋိဘာဂနိမိတ် ထင်ပြီးသည့်နောက်မှာ အဋ္ဌကထာ နောက်ဆုံးနည်းဖြစ်သည့် ထပနာနည်းဖြင့် အားထုတ်ရမည်။ အားထုတ်ပုံမှာ ဆိုအပ်ပြီးသည့်အတိုင်း ထင်မြင်လာသော ပဋိဘာဂနိမိတ်ကို မကွယ်ပျောက်စေမူ၍ ထင်ထင်ရှားရှား ပွင့်လင်း၍သွားအောင် အာရုံကို စူးစူးစိုက်စိုက် အင်တိုက် အားတိုက် ဖိဖိစီးစီး စိတ်ကိုထား၍ အားထုတ်ခြင်းကို ထပနာ နည်းဟု ခေါ်သည်။

ထပနာနည်းသို့ ရောက်သောအခါ ဆုတ်ယုတ်ကြောင်း နေရာဌာနစသော အသပ္ပါယ (၇)ပါးကို ရှောင်ကြဉ်၍ တိုးပွား ကြောင်း နေရာဌာနစသော သပ္ပါယ (၇)ပါးကို မှီဝဲကာ အသုံး အဆောင်ဝတ္ထု သန့်ရှင်းခြင်း စသော အပ္ပနာကောသလ္လ (၁၀)ပါးနှင့် ပြည့်စုံစေရာ၏။ ဤကား သမထစခန်းဖြစ်သည့် သမာဓိရအောင် အားထုတ်သော နည်းတည်း။

ဤကဲ့သို့ အားထုတ်၍ သမာဓိကောင်းလာသောအခါ သမာဓိစခန်းမှ ဝိပဿနာလမ်းသို့ တက်နည်းမှာ ရေပွက်ကဲ့သို့ ခဏခဏ မပြတ်မစဲ တဖွဲဖွဲ ဖြစ်ပျက်နေသော ထွက်သက် ဝင်သက် ဖြစ်မှုကို သိနေအောင် စိတ်တို့သည် အမြဲမရှိ ကင်း ပျောက်ချုပ်ကွယ်၍ သွားကြ၏။ ချမ်းသာမရှိ၊ ဆင်းရဲဘိ၏။ အနှစ်သာရ ဘာမျှ မရှိ၊ အနိစ္စ၊ ဒုက္ခ၊ အနတ္တသဘော လက္ခဏာ ရေးသုံးပါး ရှေ့သွားပြု၍ ရှုရမည်။

ဤနေရာ၌ ရုပ်နှင့်နာမ် နှစ်တန်တို့တွင် အဘယ်ကို အစ ပြု၍ ရှုရမည်နည်းဟု မေးစရာရှိသည်။ ရုပ်သည် နာမ်ထက်

ဝိပဿနာရှုရာမှာ ဉာဏ်၌ ထင်ရှားလွယ်သောကြောင့် ရုပ်ကို အစပြု၍ ရှုခြင်းသည် ပေါက်ရောက်လွယ်သည်။

ရုပ်ကို ရှုရာ၌လည်း "ဘူတံ ဘူတတော ဝိပဿတိ" ဆိုသည့် ဒေသနာတော်အရ ထွက်သက်၊ ဝင်သက် ကာယဂတာ အာနာပါနသတိသည် သမာဓိရလွယ်သောကြောင့်လည်း ကောင်း ထင်လွယ် မြင်လွယ်သောကြောင့်လည်းကောင်း ယခုအခါ ရိပ်သာများ၌ အာနာပါနသတိကိုသာ အားထုတ်ကြသည် များ၏။

ကာယဂတာသတိဟု ဆိုအပ်သော ထွက်သက် ဝင်သက်ကို ရှုမှတ်လို့ အညောင်းအညာဟု ဆိုအပ်သော ဝေဒနာ ပေါ်လာသောအခါ ထိုဝေဒနာသို့ လိုက်၍ ရှုမှတ်လျှင် ဝေဒနာ နုပဿနာ ဖြစ်ပါသည်။ ရှုမှတ်ရင်း ကြံစည်တွေးတောသော စိတ်ကို လိုက်၍ ရှုမှတ်လျှင် စိတ္တာနုပဿနာ ဖြစ်လာပါသည်။ ကာမဝိတက်စသော ဆန့်ကျင်ဘက် နီဝရဏတရားများ ဖြစ်ပေါ် လာလျှင်လည်း ထိုတရားတို့သို့ လိုက်၍ ရှုမှတ်လျှင် ဓမ္မာနု ပဿနာ ဖြစ်ပေါ်လာပါသည်။

သို့ဖြစ်၍ ကာယာနုပဿနာကို အားထုတ်လျှင် ကျန် ဝေဒနာနုပဿနာ၊ စိတ္တာနုပဿနာ၊ ဓမ္မာနုပဿနာတို့သို့လည်း ရှုမှတ်သည်ဟု ခေါ်ရတော့သည်။

ထို့ပြင် ထိုသတိပဋ္ဌာန်လေးပါးကို ပွားများရှုမှတ် နေသည် ဆိုလျှင် အတူတကွ သဟဇာတဖြစ်ကြသော သမ္မပ္ပဓာန်လေးပါး၊

ဣဒ္ဓိပါဒ်လေးပါး၊ ဣန္ဒြေငါးပါး၊ ဗိုလ်ငါးပါး၊ ဗောဇ္ဈင်ခုနစ်ပါး၊ မဂ္ဂင်ရှစ်ပါး၊ တရားတို့ကိုလည်း ပွားများ အားထုတ်နေသည်ဟု ဆိုရတော့သည်။

အဘယ့်ကြောင့် ဆိုသော် သတိပဋ္ဌာန် လေးပါးတို့ကို ထူထောင်၍ အားထုတ်နေသော သူသည် တွန့်တိုဆုတ်နစ်ခြင်း မရှိသော ဝီရိယဖြစ်နေသဖြင့် သမ္မပ္ပဓာန် လေးပါး ပြည့်စုံနေတော့သည်သာတည်း။

အားထုတ်လိုသော ဆန္ဒ၊ ကြိုးစားသော ဝီရိယ၊ ကြံစည်သောစိတ်၊ အလင်းရောင်ရသော ပညာတို့နှင့်တကွ ပြီးစီးပေါက်ရောက်နေသောကြောင့် ဣဒ္ဓိပါဒ်လေးပါး ပွားများနေသည်ဟု ဆိုရတော့သည်။

ထို့အတူ စိတ်ကို အစိုးရသောကြောင့် ဣန္ဒြေငါးပါး နှင့်လည်း ပြည့်စုံတယ်၊ နီဝရဏတရားတို့ မတုန်မလှုပ်နိုင်သောကြောင့် ဗိုလ်ငါးပါးတို့နှင့်လည်း ပြည့်စုံတယ်၊ မဂ် ဖိုလ် နိဗ္ဗာန်ရောက်ကြောင်း မဂ္ဂင်ရှစ်ပါး ပွားများနေသည်ဟူ၍လည်း ဆိုနိုင်တယ်။ သို့အတွက် ထွက်သက် ဝင်သက်ဟု ဆိုအပ်သော အာနာပါနသတိကို [illegible]ကောင်း၍ အားထုတ် ရှုမှတ်နေလျှင် ယောဂီပုဂ္ဂိုလ်၏ ပါရမီအလျောက် တစ်ရက်၊ နှစ်ရက်၊ တစ်လ၊ နှစ်လ၊ တစ်နှစ်၊ နှစ်နှစ်နှင့် မဂ်ဖိုလ်သို့ ရောက်၍ နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင် ကြပါသည်။

သည်ဘဝ မျက်မှောက်မပြုနိုင်စေကာမူ . . . .

(၁) ရတနာသုံးပါးကို အလျင်ကထက် ပို၍ ကြည်ညိုခြင်း၊ ကြည်ညိုတတ်ခြင်း။

(၂) သေရမည့်ဘေးကို တရားကို အားမထုတ်ခင်က လောက် မကြောက်ခြင်း။

(၃) မတရားသော ဝိသမလောဘ၊ အဓမ္မရာဂ မဖြစ်တော့ခြင်း။

(၄) ရသမျှနှင့် ရောင့်ရဲနိုင်ခြင်း။

(၅) ကုသိုလ်၌ မွေ့လျော်ခြင်းစသော အကျိုးတရားများကတော့ တရားကို အားထုတ်သူတိုင်း ခံစားရမည်။

နိဗ္ဗာန်သို့ သွားရန် လက်မှတ်ရပြီးသော အရိယာပုဂ္ဂိုလ်တို့သည်လည်း သတိပဋ္ဌာန်လေးပါးကို အာဟာရပြုလျက် နေကြကုန်၏။ ထို့ကြောင့် မြတ်စွာဘုရားကလည်း. . . .

"သဗ္ဗတ္ထာဟံ ဘိက္ခဝေ သတိ ထပေတဗ္ဗာ"

'ဘိက္ခဝေ၊ ငါ၏ချစ်သားတို့၊ အခါခပ်သိမ်း သတိတရားဆိုတဲ့ ရှုမှတ်မှုကို ထားရမည်' ဟု ဟောကြားတော်မူခဲ့ပါသည်။

အမှန်သို့ ရောက်ကြောင်းလမ်းက တစ်လမ်းသာ၊ အမှားသို့ ရောက်ကြောင်းလမ်းများက များပါဘိဟု ဆိုလိုပါသည်။

ဧကော ဓမ္မော ဆိုတာလဲ သတိပါပဲ၊ မြန်မာလူမျိုးများလဲ 'သတိဆိုတာ ပိုသည်မရှိဘူး၊ လိုသည်သာ ရှိတယ်' ဟု ပြောကြားပါတယ်။

'စတုန္နံ ဘိက္ခဝေ အရိယသစ္စာနံ ယထာဘူတံ အဒဿနာ ဒီဃမဒ္ဓါနံ သန္ဓာဝိတံ သံသရိတံ မမဉ္စေဝ တုမှာကဉ္စ'

'ငါ၏ ချစ်သားတို့၊ အရိယာသစ္စာတရားလေးပါးတို့ကို သင်ကြားသိ မသိခြင်းကြောင့်၊ ကျင့်ကြံသိ မသိခြင်းကြောင့်၊ ထိုးထွင်းသိ မသိခြင်းကြောင့် ငါဘုရားအားလည်းကောင်း၊ သင်တို့အားလည်းကောင်း ဤသို့ ရှည်မြင့်စွာသော ကာလပတ်လုံး သံသရာ ချောက်ကမ်းပါး၌ ပြေးသွားခဲ့ရလေပြီ၊ ကျင်လည်ကျက်စားခဲ့ရလေပြီ'

ဒီတော့ လမ်းမှန်ကို သိလိုလျှင် ငါဘယ်ကလာသလဲ၊ ငါဘယ်သွားရဦးမှာလဲ၊ ငါသေလျှင် ဘာဖြစ်မလဲ၊ ဘာမှမဖြစ်၊ ပြတ်သွားမှာလားဟု တွေးတော ယုံမှားနေလျှင်ဘာမှ အကျိုးမရှိ၊ သိချင်လျှင် သစ္စာလေးပါးကို သိအောင် လုပ်ကြပေတော့၊ တရားအားထုတ်နေလျှင် အာစာရအရိယာ ဖြစ်တော့သည်။

ရုပ်နာမ်မြင်လျှင် ဒဿနအရိယာ ဖြစ်တော့သည်။ စူဠသောတာပန်ဟု ခေါ်ရသည်၊ စိတ်ဓာတ်အသိဉာဏ်ပြောင်း၍ အသွင်ပြောင်းသွားလျှင် လိင်္ဂအရိယာဖြစ်တော့သည်။ မဇ္ဈိမသောတာပန်ဟု ခေါ်ရသည် ဒိဋ္ဌိ ဝိစိကိစ္ဆာပြုတ်ပြီး အချုပ်

နိဗ္ဗာန်ကို မြင်လျှင် ပဋိဝေဓအရိယာ မဟာသောတာပန်ဟု ခေါ်ရတော့သည်။

ထို့ကြောင့် ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီးက-

(၁) လိုချင်ဖြစ်ချင်၊ စွဲနေလျှင်၊ ဖြစ်အင် သမုဒယ၊
(၂) ရသာဖြစ်လာ၊ ဒုက္ခသာ၊ မှတ်ပါဆင်းရဲပ၊
(၃) မလိုမချင်၊ မြတ်မဂ္ဂင်၊ အစဉ်ပွားများကြ၊
(၄) မလိုချင်မှု၊ မဖြစ်ရ၊ နိဗ္ဗာနဟုမှတ်၊
(၅) အာသာမပြေ၊ အာရုံတွေ၊ လိုလေမဆုံးပ၊
(၆) တဖြစ်မစဲ၊ တစ်သက်လဲ၊ ဝဋ္ဋထဲနစ်မည်မှတ်၊
(၇) ဘဝများစွာ အခါခါ၊ စာတတ်ဘယ်သူပ၊
(၈) နတ်ဆေးစက္ခု၊ ကွင်း၍ရှု၊ မြင်မှု ဘီလူးမှတ်
ဟူ၍ မိန့်ဆိုထားပါသည်။

* * * * *

---

# (၅) စွန်းလွန်းဆရာတော်ဘုရားကြီး၏ ဝိပဿနာရှုနည်း

## ပုစ္ဆကိစ္စများ

ကျွန်ုပ် စာရေးသူ၏ အလွန် ရင်းနှီးသော ဓမ္မမိတ်ဆွေ ဒေါ်လှခင်နှင့်အတူ ရန်ကုန်မြို့ စွန်းလွန်းဂူရိပ်သာသို့ ရောက်၍ ဆရာတော်ကြီး၏ နိဿရည်းကို ခံယူရင်း တရားအားထုတ် ခဲ့သဖြင့် ရရှိခဲ့ သိရှိခဲ့သမျှ ရေးသားဖော်ပြပါမည်။

တရားကို အားမထုတ်မီ ပုစ္ဆကိစ္စများကို ပြုလုပ်ရန်မှာ အကျွန်ုပ်သည် ရတနာသုံးပါး၊ ဆရာမိဘတို့နှင့်တကွ အနန္တ သတ္တဝါ အပေါင်းတို့၏အပေါ်၌ သံသရာဘဝ အဆက်ဆက်မှ ယနေ့ကျအောင် ကာယကံ၊ ဝစီကံ၊ မနောကံတို့ဖြင့် ပြစ်မှား မိခဲ့သော် ထိုအပြစ်များကို သည်းခံခွင့်လွှတ်ကြပါရန် တောင်းပန် ပါ၏။ မိမိအပေါ် ပြစ်မှားမိခဲ့ကြသော အပြစ်များကိုလည်း သည်းခံပါ၏။

ဘုန်းတော်ကြီးမြတ်သော မြတ်စွာဘုရား၊ တပည့်တော်၏ ခြေဝါးပါး ရုပ်နာမ်နှစ်ပါးကို တရားအားထုတ်တဲ့အခါ နိဗ္ဗာန်ကို ညွှန်ပြ၍ မြတ်စွာဘုရားအား လှူဒါန်းပါ၏၊ အရှင်ဘုရား၊ ကမ္မဋ္ဌာနာစရိယ ဆရာတော်ကြီးအားလည်း လှူဒါန်းပါ၏ ဆို၍ ကျွန်ုပ်အားထုတ်ကျင့်ကြံရသော ကုသိုလ်အဖို့ကို သုံးဆယ့်ဘစ်ဘုံ ကျင်လည်ကုန်သော သတ္တဝါအပေါင်းတို့အား အမျှပေးဝေပါကုန်၏။ သူတော်ကောင်း သူမြတ်လောင်းတို့ ပို့သသော မေတ္တာ၏ ကုသိုလ်ကံအဖို့ကိုလည်း ကျွန်ုပ်က ခံယူ၍ ကျွန်ုပ်ပေးဝေအပ်သော ကုသိုလ်အဖို့ကိုလည်း သာဓု အနုမောဒနာပြုကြပါရန် အမျှပေးဝေပါ၏။ အမျှ - အမျှ - အမျှ ယူတော်မူကြပါကုန်လော့။

ဤသို့ ပုဗ္ဗကိစ္စများကို ပြောဆိုပြုလုပ်ပြီးလျှင် မိမိကြိုက်နှစ်သက်သော ဣရိယာပုတ်ဖြင့် ထိုင်ပါ၊ ကြာကြာထိုင်နိုင်သော ဣရိယာပုတ်ဖြင့် ထိုင်ပါ။

'ဥဇုံ ကာယံ' ဆိုသည့်အတိုင်း ခါးကို မတ်မတ်ထားပါ။ လက်နှစ်ဘက်ကို တောင့်တောင့်ထားလျက် လက်ဝဲလက်ဝါးပေါ်မှာ လက်ယာလက်ဝါး ထည့်ပါ၊ လက်ချင်းတော့ ယှက်မထားပါနှင့်။ အားယူရန် လိုအပ်က ဆုပ်ကိုင်နိုင်အောင် ထားရပေမည်။

လက်မောင်းများကို ကိုယ်နှင့်ကပ်၍ ခပ်ကျယ်ကျယ် ခပ်တင်းတင်းထားပါ။ ဦးခေါင်းကို နောက်မလန်ပါစေနှင့်၊ အသင့်ဖြစ်ပြီဆိုလျှင် မျက်စိမှိတ်၍ ပါးစပ်ပိတ်ပြီး ဝင်သက်က စ၍

ညြင်းပြင်းရှုပါ။ တတ်နိုင်ပါက ဆိတ်ငြိမ်၍ လေလုံသောနေရာ၌ ထိုင်လျှင် ပို၍ကောင်းသည်။ တစ်ဦးတည်းထိုင်လျှင် ပို၍ ကောင်းသည်။

မည်သည့်အခါမဆို မိမိနှင့် သင့်လျော်သောအခါ အားထုတ်ပါ။ ကြိုက်နှစ်သက်သော ကြာကြာထိုင်နိုင်သော ဣရိယာပုတ်နှင့် ထိုင်ပြီးနောက် 'ညောင်းရင် မပြင်နှင့်၊ ယားရင် မကုတ်နှင့်၊ နေရာ မရွှေ့နှင့်' လုပ်ငန်းပြီးသည်အထိ တစ်ဆက်တည်း အားထုတ်ရမည်။

အားထုပ်ပုံမှာ ထွက်သက်ဝင်သက် နှစ်မျိုးတို့တွင် ဝင်သက်က စ၍ ရှုရပါမည်။ ရှုသည့်အခါ နှာသီးဖျား၊ နှုတ်ခမ်းဖျား သို့မဟုတ် တစ်နေရာရာ၊ ဝင်လေထွက်လေတို့ ထိသွားသောအခါ သိသာပါလိမ့်မည်။

သိသည့်အပေါ်၌ သတိကြပ်ကြပ် ရှုမှတ်လျက် ခပ်ပြင်းပြင်း ခပ်တင်းတင်း ခပ်မြန်မြန် ရှုပါ။

ခပ်ပြင်းပြင်း ခပ်တင်းတင်း ရှုရခြင်းမှာ ပြင်ပက အသံများ မကြားရအောင် စိတ်အာရုံ အခြားသို့ ရောက်မသွားအောင် သမာဓိ မြန်မြန်ရအောင်၊ ပေါ်လာသည့်ဝေဒနာ နိုင်နင်းစွာ သတိပြုနိုင်အောင် ပြင်းပြင်းတင်းတင်း ရှုရှိုက်ခြင်းဖြစ်ပါသည်။

"ထိမှု၊ သိမှု၊ ထိုနှစ်ခု၊ သတိ ကြပ်ကြပ်ပြု" လို့ ဆရာတော်ဘုရားကြီး အမိန့်ရှိသည့်အတိုင်း နှာသီးဖျား၊ နှုတ်ခမ်းဖျားမှာ ဝင်လေ ထွက်လေ တိုး၍ ထိသွားသည်ကို သိလိမ့်မည်။

ထိုသိသည့်အပေါ်၌ သတိကို ကြပ်ကြပ်ပြုရမည်။ ဝီရိယ စိုက်၍ စိတ်ကို တင်းတင်းထား၍ အားပြုရမည်။ အခြားအာရုံ မရောက်ပါစေနှင့်၊ ဖြစ်သလို ချောင်ချောင်နေမည်ဟု အားမ လျှော့ပါနှင့်ဟု ဆိုလိုပါသည်။

သတိပြုသည့်အခါ ဝင်လေထွက်လေ နောက်သို့ လိုက် မသွားပါနှင့်၊ လေလုံးသဏ္ဍာန်သို့လည်း လိုက်မသွားပါနှင့် ထိမှု သက်သက်ကိုသာ သတိပြုပါ။

ရှုသည့်အခါ ရေကို စုပ်တံဖြင့် ဆွဲငင်ယူလိုက်သကဲ့သို့ ရှိုက်လေ များများပါအောင် ဝင်သက်ကိုသာ ဂရုစိုက်ပြီး ကပ်ဆွဲပါ၊ ထွက်လေကတော့ သူ့အလိုလို ထွက်လာလိမ့်မည်။ ထွက်သက်ကိုသာ ဂရုစိုက်ပြီး ဇာပ်တွဲရခြင်းမှာ သမာဓိရင့်သန် လွယ်ပါသည်။

ဝေဒနာလည်း ကောင်းစွာ တက်စေပါသည်။ ဝင်သက်ကို ဂရုစိုက်၍ ရှုမှ ဝင်သက်နှင့် ထွက်သက် မျှသွားပါသည်။

ဤနေရာတွင် ကျမ်းဂန်များ၌ လွှဆွဲသကဲ့သို့ အဆက် မပြတ် ထိ၍ထိ၍ "ရှူးရှဲ ရှူးရှဲ မြည်မြည် သွားကြောင်း" ဆိုလိုပါသည်။ ခြေလက်၊ ဦးခေါင်းနှင့်ကိုယ်ကို မလှုပ်ဘဲ ငြိမ်ငြိမ် ရှုပါ၊ သို့မှသာလျှင် သမာဓိအဖြစ် မြန်ပြီး ဝေဒနာကောင်းစွာ တက်လိမ့်မည်။

ခပ်သန်သန် ခပ်ပြင်းပြင်း ရှုနေသည့်အခိုက် အစတွင် ရင်ထဲ၌ မောကျပ်ကျပ် ဖြစ်လာတတ်သည်။ ထိုသို့ ဖြစ်လာလျှင်

အရှူမရပ်ပါနှင့်၊ အရှူမလျော့ပါနှင့်၊ ထွက်သက်ကို လွန်စွာ မှုတ်ထုတ်နေခြင်းကြောင့် ဝင်သက်ကို အလွန်တိုစွာ ရှူနေခြင်းကြောင့် ထွက်သက်ဝင်သက်ကို အလွန်တိုစွာရှူနေခြင်းကြောင့် ဝင်သက်ထွက်သက် မမျှ၍ မောကျပ်ကျပ်ဖြစ်သည်ဟု မှတ်ပါ။ အမောနှင့် အညောင်းအားကို ပြေပျောက်နိုင်သော ဆေးမှာ ခပ်သန်သန် ခပ်ပြင်းပြင်း ခပ်တင်းတင်း ရှူလိုက်ခြင်းပင် ဖြစ်ပါသည်။

နှာသီးဖျား နှုတ်ဖျားကို လေတိုးထိသည့် အပေါ်၌သာ သတိပြုပါ၊ ရှုမှတ်ပါ၊ ဘဝင် ရင်ညွန့် စသော အခြားဌာနများ၌ သတိစိုက်ရန် မလိုပါ။ ရှူရန် အချိန်ကို မပိုင်းဖြတ်ပါနှင့်။ ခပ်ပြင်းပြင်း ရှူသည့်အခါ ကိုက်ခဲမှုဝေဒနာ ပူနွေးမှုဝေဒနာများ တက်လာပေလိမ့်မည်။

ထိုဝေဒနာများကို သတိကပ်လိုက်ပါ၊ အရှူမရပ်ပါနှင့် အရှူ ရပ်လိုက်မည်ဆိုလျှင် ဝေဒနာများသည် လျှောဆင်းသွားတတ်သည်။ ရှူနေခိုက် တက်လာသော ဝေဒနာ၏ သုံးပုံနှစ်ပုံလောက်ထိ လျှောဆင်းသွားတတ်သည်။

ဝေဒနာသည် လုံလောက်ပြီဟု ယူဆလျှင် အရှူရပ်လိုက်ပါ။ အရှူရပ်ပြီး နာရီဝက်လောက် လေးဆယ့်ငါးမိနစ်လောက်၊ တစ်နာရီလောက် သတ်မှတ်ပြီး အချိန်စေ့လျှင် တခြားတစ်ဦးက လာ၍ သတိပေးရန် စီစဉ်ထားနိုင်ပါသည်။

အရှူရပ်ရန် ပန်းဝင်ခါနီးတွင် အချက်လေးငါးဆယ်ခန့်လောက် သန်သန်မြန်မြန် ပြင်းပြင်းတင်းတင်း ရှူလိုက်ပါ။

ထို့နောက်မှ ဝင်သက်နှင့် ဆတ်ခနဲအောင့်ပြီး ခန္ဓာကိုယ် တစ်ခုလုံး ခြုံပြီး သတိပြုပါ။ သတိထားပြီးမှ ခေတ္တအနားယူပါ။ အရှူကို ဝင်သက်နှင့် ဆတ်ကနဲရပ်၊ အသက်ကို အောင့်ထား၊ ကိုယ်ရောစိတ်ပါ ကျုံ့ကျုံ့မြန်မြန်ထားပြီး ရှူလိုက် ရှိုက်လိုက် လုပ်ပါ။ ထိုအခါ နာကျင်ကိုက်ခဲပြီး စူးရှပူအေးခြင်း စသော ဝေဒနာများ ပေါ်ပေါက်လာလိမ့်မည်။

ထိုသို့ ပေါ်ပေါက်လာသောအခါ အထင်ရှားဆုံးသော ဝေဒနာကို ကြပ်ကြပ် သတိပြုနေခြင်းသည် ကျမ်းဂန်တို့၌ လာသော ကပ်ရှုခြင်းပင် ဖြစ်သည်။

ထို့ကြောင့် ဆရာတော်ကြီးက "သာသာထိတော့ သာသာသိ၊ နာနာထိတော့ နာနာသိသည်"ဟု မိန့်ဆိုပါသည်။

ပို၍လည်း မသိပါနှင့်၊ လို၍လည်း မသိပါနှင့်၊ အစစ် အမှန်ကိုသာ သိပါစေ၊ ဖြစ်ပေါ်သမျှကို ဖြစ်ပေါ်သည့် အတိုင်းသာ သိပါစေ၊ ဖြစ်ကာမတ္တမျှသာဟူ၍ သိပါ။

ငါ့ခြေ၊ ငါ့လက်၊ ငါ့ကိုယ်၊ ငါနာသည်ဟု ငါမပါ, ပါစေနှင့်၊ မဆိုင်ချင်ပါနှင့်၊ မပိုင်ချင်ပါနှင့်၊ ဤကားရုပ်၊ ဤကားနာမ်၊ ဤကား အနိစ္စ၊ ဤကား ဒုက္ခ၊ ဤကား အနတ္တဟူ၍လည်း ပါးစပ်ကလည်း မရွတ်ဆိုပါနှင့်၊ စိတ်ကလည်း မတွေးတော ပါနှင့် အမည်တပ်၍ ဝေဖန်ခန့်ခွဲ တွေးတောခြင်းသည် ပညတ်သာ ဖြစ်ပါသည်။

ဝေဒနာကား ဝိပဿနာလမ်းပေါ်မှာ ရင်ဆိုင်ရသည့် မရှောင်သာသော သတိပဋ္ဌာန် ဖြစ်လေသည်။ ထိုဝေဒနာကို အောင်မြင်နိုင်အောင် မလျှော့သော လုံ့လဥဿာဟဖြင့် အားထုတ်ရသည်။

ဝေဒနာသည် အနိစ္စသဘောဖြစ်၍ တစ်နေ့ကုန်ခြင်း၊ တစ်နေ့ဆုံးခြင်း၊ ချုပ်ခြင်း၊ ပြတ်ခြင်း၊ ရပ်ခြင်းသို့ ရောက်ပေလိမ့်မည်။

ကုန်ခြင်းဆိုသည်မှာ . . . . တဖြည်းဖြည်း ယုတ်လျော့ပြီး ပျောက်ကွယ်သွားခြင်းကို ဆိုလိုသည်။

ဆုံးခြင်းဆိုသည်မှာ . . . ကြိုးစကို အစမှ အဆုံးထိ လိုက်သည်ရှိသော် ဆုံးသွားသကဲ့သို့ ဖြစ်သည်ကို ဆိုသည်။ ချုပ်ခြင်း ဆိုသည်မှာ . . . ဆီကုန်ခန်းသော မီးလျှံမှာ ချုပ်ငြိမ်းသွားသကဲ့သို့ တစ်မုဟုတ်ချင်း ပျောက်သွားသည်ကို ဆိုသည်။

ပြတ်ခြင်း ဆိုသည်မှာ . . . ကြိုးကို ဓားဖြင့် ခုတ်ဖြတ်လိုက်သကဲ့သို့ တစ်မုဟုတ်ချင်း ပျောက်ကွယ်သွားသည်ကို ဆိုသည်။ လောင်တော်မူ၏။

ရပ်ခြင်း ဆိုသည်မှာ ချားရဟတ်ကို လှည့်လိုက်တဲ့အခါ အရှိန်ကုန်တော့ ရပ်သွားသကဲ့သို့ ဖြစ်သွားသည်ကို ဆိုသည်။

ဝေဒနာနှင့် ရင်ဆိုင်ရသော ယောဂီတို့သည် ဝေဒနာကို တစ်ပိုင်းတစ်စ ချန်လှပ် မထားသင့်ပေ။ ဝေဒနာကုန်အောင် ဆုံးအောင်၊ ချုပ်အောင်၊ ပြတ်အောင်၊ ရပ်အောင် လုပ်ရပေမည်။

ဝေဒနာ ကုန်ဆုံးချုပ်ပြက်၊ ရပ်သွားသောအခါ အလွန်ချမ်းသာသော ငြိမ်းအေးမှုကို ရရှိသည်။

ထို့ကြောင့် မြတ်စွာဘုရားက 'ဝေဒနာနံ ခယာ ဘိက္ခု နိစ္ဆာတော ပရိနိဗ္ဗုတော' ဟု ဟောတော်မူ၏။ ဘိက္ခု၊ ဝိပဿနာရှုနေသော ယောဂီပုဂ္ဂိုလ်သည်။ ဝေဒနာနံ၊ ဝေဒနာတို့၏။ ခယာ၊ ကုန်ခြင်း ဆုံးခြင်း ချုပ်ခြင်း ပြတ်ခြင်း ရပ်ခြင်းကြောင့်။ နိစ္ဆာတော၊ တောင့်တ ဆာလောင်ခြင်း ကင်းပျောက်သွားသည် ဖြစ်၍၊ ပရိနိဗ္ဗုတော၊ ခန္ဓာဝဋ်ကိန်း သံသရာအပြတ် ငြိမ်းသဖြင့် ဓာတ်သိမ်းသွားရတော့သတည်း။

ဝေဒနာချုပ်ငြိမ်းသွားလျှင် တောင့်တအားသာ ကင်းသွားသည်ဖြစ်၍ စိတ်အလွန်သန့်ရှင်းသွား၏။ အစစအရာရာ တဏှာအားသာ မတောင့်တဘဲ ရောင့်ရဲသွား၏။ ရောင့်ရဲခြင်း 'သန္တုဋ္ဌိ ပရမံ ဓနံ' ဆိုသည့်အတိုင်း အလွန် မွန်မြတ်ချမ်းသာသော အဖြစ်သို့ ရောက်သွား၏။

ဤနေရာ၌ 'ပရိနိဗ္ဗုတော' အရ သာမာန်ယောဂီပုဂ္ဂိုလ်တို့မှာတော့ ခန္ဓာဓာတ်သိမ်း အပြတ်ငြိမ်းသည့် ပရိနိဗ္ဗာန်ကို မယူရ၊ တောင့်တမှုတွေ၊ ကြောင့်ကြမှုတွေ၊ ငိုကြွေးမှုတွေတို့မှ အေးငြိမ်း မှုကိုသာယူပါ။ ဘုရားရဟန္တာများမှာတော့ အဆုံးစွန် ပရိနိဗ္ဗာန် စံဝင်တော်မူသည်ကို ယူရသည်။

ဒုက္ခဝေဒနာကို ပိုင်အောင် နိုင်အောင် ထိုင်ရသည်။ ဒုက္ခဝေဒနာကိုပိုင်မှ သုခဝေဒနာကို နိုင်မည်။ ထို့ကြောင့် လောကဓံ

တရားရှုစ်ပါးတွင် ဆင်းရဲတာကို ခံနိုင်ရည်ရှိကြသည်။ ချမ်းသာတာကိုတော့ မခံနိုင်ကြဘူး ဆိုတာပါပဲ။

ဒုက္ခဝေဒနာမှာ လေးမျိုးလေးစားရှိသည်။ ပြုပြင်စီရင်တဲ့ သင်္ခါရဒုက္ခ၊ ဖောက်ပြန်တဲ့ ဝိပရိဏာမဒုက္ခ၊ ကပ်၍နှိပ်စက်တဲ့ သံတာပနဒုက္ခ၊ စိတ်ဆင်းရဲ ကိုယ်ဆင်းရဲတဲ့ ဒုက္ခဒုက္ခတာ ဟူ၍ လေးမျိုးရှိသည်။

ညောင်းခြင်း၊ ညာခြင်း၊ နာခြင်း၊ ကိုက်ခဲခြင်း၊ ပူခြင်း အေးခြင်းသည် ဒုက္ခပဲ၊ တရားအားထုတ်၍ အချိန်ကြာလာသော အခါ ထိုညောင်းခြင်း ညာခြင်း နာကြင်ကိုက်ခဲခြင်း စသည် ဖြစ်လာ၍ မခံသာအောင် ဖြစ်နေတော့ ကိုယ်ခန္ဓာကို ပြင် ချင်သည့် စိတ်ကို အာရုံပါးသို့ လွှတ်သည်။ သို့သော် ထိုသို့ ပြုပြင်လိုက်လျှင် အဘယ်မှာ သမာဓိ ရင့်သန်နိုင်ပါတော့ မည်နည်း။

သမာဓိမရင့်သန်လျှင် အဘယ်မှာ မဂ် ဖိုလ် နိဗ္ဗာန်ကို ရနိုင်တော့မည်နည်း။

ထို့ကြောင့် စွန်းလွန်းဆရာတော်ကြီးက 'မခံသာ၊ မှန်ပါဘိ သည်တရား ခံသာလျှင် သံ့ရောကြောဟု မျောလိမ့်အများ' ဟူ၍ မိန့်ကြားတော်မူပါသည်။

ဝေဒနာပြင်းပြစွာ တက်၍ သတိမကပ်နိုင်ဖြစ်သည့်အခါ ကိုယ်နှင့်စိတ်ကို ကျုံ့ကျုံ့ထား၊ ငြိမ်ငြိမ်နေပြီး အောင့်၍

လိုက်ရာ၏၊ အောင့်၍လိုက်သည် ဆိုသည်မှာ အသက်ကို အောင့်ထားခြင်းကို ဆိုသည်။

အသက်ကို အောင့်ထားလိုက်ဆိုသဖြင့် လုံးဝအသက်မရှူရ မဆိုလိုပါ။ အပ်ပေါက်ထဲသို့ အပ်ကိုထိုးသည့်အခါ လွယ်ကူစွာ ဝင်ရန် အသက်အောင့်ပြီး ထိုးရသကဲ့သို့ သဘောမျိုးကို ဆိုပါသည်။

ဝေဒနာပေါ်၌ သတိနှင့် ဝေဒနာကပ်သွားအောင် ချပ်ခနဲနေအောင် အသက်အောင့်ပြီး ကပ်ထားလိုက်ပါဟု ဆိုလိုသည်။

အသက်အောင့်၍ လိုက်သော်လည်း မခံနိုင်လျှင် နောက်ထပ်တစ်ဆင့် တောင့်၍လိုက်ပါ။ ကိုယ်လက်ခေါင်း ခြေတို့ကို လျော့လျော့ပေါ့ပေါ့ မထားဘဲ ကြပ်ကြပ်မတ်မတ် ထား၍ တောင့်လိုက်ပါဟု ဆိုလိုသည်။ အလုပ်ကိစ္စတစ်ခုခုကို အားခွန်စိုက်၍ လုပ်ရသည့်အခါ ကိုယ်လက်ဟောင့်၍ အားခဲ၍ လုပ်ရသကဲ့သို့ လက်ချင်းလှဲ့သူ နပန်းလုံးသူတို့သည် တောင့်ထားရသကဲ့သို့ တောင့်ထားလိုက်ပါဟု ဆိုလိုပါသည်။

အောင့်လိုက် တောင့်လိုက် အောင့်လိုက် တောင့်လိုက်လို့မှ မရရင် တင်းလိုက်ရာ၏။ တင်းလိုက်ရာ၏ ဆိုသည်မှာ စိတ်ကို တင်းလိုက်ရမည်ဟု ဆိုလိုသည်။

တရားထိုင်တုန်းမှာ ထချင်စိတ်များ တော်ချင်စိတ်များ ပေါ်လာမည်။ ထိုစိတ်များကို မထချင် မတော်ချင်အောင်

တင်းထားရမည်။ ကြံ့ခိုင်သော စိတ်ဓာတ်နှင့် ဝေဒနာပေါ် အောင် သတိကပ်ရမည်။ ခပ်သန်သန်၊ ခပ်တင်းတင်း၊ ခပ်ပြင်းပြင်း ဝေဒနာကို လိုက်ရမည်။

အောင့်လိုက်၊ တောင့်လိုက်၊ တင်းလိုက်လို့မှ ဝေဒနာ ပြင်းထန်နေသေးလျှင် ဝေဒနာကုန်အောင်၊ ဆုံးအောင်၊ ချုပ်အောင်၊ ပြတ်အောင်၊ ရပ်အောင် မလိုက်နိုင်သေးလျှင် နောက်တစ်ဆင့်မြှင့်ပြီး အားထုတ်ရမည်။

ဘယ်လို မြှင့်ရမလဲဆိုသော် ကိုယ်ရောစိတ်ရော ကျုံ့ပြီး ဝေဒနာကို သတိကပ်ကာ တွန်းလိုက်ရမည်။ တွန်းလိုက်ရမည် ဆိုသည်မှာ ကိုယ်ဖိရင်ဖိ စိတ်ကို အားမာန်တင်းပြီး ဇောနှင့် တွန်းလိုက်ရန် ဆိုလိုသည်။

ဝေဒနာ၏ဖိအားကို သတိတရားဖြင့် ပြန်လှန်တွန်းကန် လိုက်ရမည်ဟု ဆိုလိုသည်။ ဤကဲ့သို့ အောင့်လိုက်၊ တောင့်လိုက်၊ တင်းလိုက်၊ တွန်းလိုက်ပြုလုပ်ခြင်းဖြင့် ဝေဒနာကုန်ဆုံး ချုပ်ပြတ်၊ ရပ်အောင် လုပ်လိုက်ခြင်းပင် ဖြစ်သည်။

ဝေဒနာလိုက်သည့် အခါတွင် အထက်က ဆိုအပ်ခဲ့ ပြီးသော နည်းများဖြင့် အားထုတ်ဖော်ကာမူ ဇောကို အသုံးမချရ ရင်လည်း လျော့ရဲရဲဖြစ်နေတတ်သည်။ ဇောကို အသုံးချဖို့ ဆိုသည်မှာ မဆုတ်မနစ်သော လုံ့လဖြင့် ဝေဒနာ၌ သတိ ကပ်ထား ဇောတင်းထားရမည်။

ဇောကို အေးမနေရ၊ ဇောအေးသွားလျှင် ရောထွေးတတ်သည်။ ဇောတင်းမှ သဘောရှင်းသည်။ သမ္မာဇဉ်ဉာဏ်ယှဉ်၍ သတိကြပ်ကြပ် ရှိလျှင် အဘိဇ္ဈာ ဒေါမနဿကင်း၍ ပြင်းထန်သော ဝေဒနာကို ငါနာသည်၊ ငါညောင်းသည်၊ ငါကိုက်သည်ဟု မဖြစ်စေဘဲ၊ ငါမပါသော ပညာသားပါသော ဝေဒနာဖြစ်လာအောင် သည်းခံနိုင်လေအောင် ကြိုးစားရပါမည်။

ဝေဒနာနုပဿနာဖြစ်သည့် စေတသိကဝေဒနာကား လွန်စွာ သိမ်မွေ့လှသောကြောင့် ကာယိကဒုက္ခကဲ့သို့ အောင့်လိုက်၊ တောင့်လိုက်၊ တင်းလိုက်၊ တွန့်လိုက် မဖြစ်ချေ။ အသိအမှတ်ဖြစ်သာ ကပ်ထားရမည်။ ပြင်းထန်သော လုံ့လဖြင့် ကြိုးပမ်းရမည်။ ကာယိကဒုက္ခကဲ့သို့ ခပ်သန်သန်၊ ခပ်တင်းတင်း လိုက်ရမည်။ နာမ်တရားဖြစ်၍ ရုပ်တရားကဲ့သို မလွယ်သော်လည်း ယောဂီမှာ ကာယိကဒုက္ခကို အသားကျအောင် အားထုတ်ခဲ့သော အရှိန်ကြောင့် စေတသိကဝေဒနာကိုလည်း ကောင်းစွာ သတိဖြင့် ရှုမှတ်နိုင်ကြသည်။

စေတသိကဝေဒနာ ပေါ်ပေါက်သည့်အခါ စေတသိက်ချည်းသက်သက်ပပေါ်ဘဲ ကာယိကဒုက္ခဖြစ်သည့် ဝေဒနာနှင့် တွဲဖက် ပေါ်လာတတ်သည်။ ဤနေရာ၌ ကာယိကဒုက္ခ၊ **ကာယိကဝေဒနာ** ဆိုသည်မှာ ရုပ်ဆင်းရဲသည်ကို ဆိုလိုသည်။ **စေတသိကဒုက္ခ**၊ စေတသိကဝေဒနာဆိုသည်မှာ စိတ်ဆင်းရဲ

သည်ကို ဆိုလိုသည်။ ထိုဝေဒနာနှစ်ပါးလုံး ကုန်အောင်၊ ဆုံးအောင်၊ ချုပ်အောင်၊ ပြတ်အောင်၊ ရပ်အောင် လိုက်နိုင်ဖို့ လိုပေသည်။

ရှုရင်း မှတ်ရင်း ဝေဒနာလိုက်ရင်းနှင့် အမရောင်အဆင်း ကလင်းနိမိတ်များ ပေါ်လာလျှင် ထိုအာရုံများနောက်သို့ မလိုက်ဘဲ စိတ်မဝင်စားဘဲ ပင်ကိုယ်ထက်ပို၍သာ ခပ်တင်းတင်း ခပ်ပြင်းပြင်း ရှုပြီး ထိမှု သိမှုကို သတိကြပ်ကြပ် ပြုပါ။

ဝေဒနာလိုက်လာလျှင် ဝေဒနာထဲသို့ စိတ်စွဲအောင် အားထုတ်ပါ။ တစ်ခါတစ်ရံ ဝေဒနာကို ရှုမှတ်နေရင်းပင် ဝေဒနာတွင်းမှ ထိုးဖေါက်၍ ကြည်ကြည်လင်လင် ထင်ထင်ရှားရှား ပေါ်လာတတ်သည်။

ထိုအခါ မြင်သည့်နိမိတ်ကို မြင်ကာမတ္တမျှပင် ထားရမည်။ မည်သို့ပင်ဖြစ်စေ၊ မဂ်ဖိုလ်ကို ရလိုသော ယောဂီပုဂ္ဂိုလ်သည် အခြားအာရုံများကို လျစ်လျူရှု၍ ထိမှု သိမှုသို့သာ သတိကြပ်ကြပ်ပြု အားထုတ်ရပေမည်။

ထို့ကြောင့် စွန်းလွန်းဆရာတော်ကြီးက "ထိမှု သိမှု၊ ထိုနှစ်ခု၊ သတိကြပ်ကြပ်ကပ်။ " ဟူ၍ မိန့်ဆိုလေသည်။

ဝေဒနာလိုက်ပုံမှာ ယုန်လိုက်သော ဥပမာနှင့် တူသည်။ အထက်အညာဒေသတွင် ယုန်လိုက်သောအခါ ယုန်တစ်ကောင် တွေ့ပြီဆိုပါတော့၊ တွေ့လျှင် ယုန်ကို မျက်ခြည်မပြတ် တစ်ချိုမှ

တစ်ချိုသို့ သူပြေးရင် သူ့နောက်က လိုက်ကြရသည်။ လိုက်သည့်အခါ နောက်ဆုံး ဝပ်ကျင်းတွင် ပြန်ဝင်သည်အထိ လိုက်ပြီးလျှင် ဝပ်ကျင်းမှ မောမှဖမ်းမိသကဲ့သို့ ဝေဒနာလိုက်သော ယောဂီပုဂ္ဂိုလ်သည်လည်း ထိုနည်းတူ ဝေဒနာတစ်ခုပေါ်ရာ ဖြစ်ပျက်ရာသို့ အစဉ်အတိုင်း ကုန်ခြင်း၊ ဆုံးခြင်း၊ ချုပ်ခြင်း၊ ပြတ်ခြင်း၊ ရပ်ခြင်း တိုင်အောင် လိုက်ရသည်။

ခန္ဓာကိုယ်တစ်ခုလုံးရှိ ဝေဒနာများသည် သမာဓိအားကောင်းလာသော ယောဂီပုဂ္ဂိုလ်အား သတိထားလိုက်တိုင်း ထားလိုက်တိုင်း ပျောက်ပျက်ကုန်ဆုံးသွားသောအခါ သူ့အလိုအလျောက် ဟဒယဝတ္ထုပေါ်တွင် ငါးကြင်းမြီးခတ်သကဲ့သို့ တဖျတ်ဖျတ် ဝေဒနာတစ်ခု ပေါ်လာသည်။

ထိုသို့ ပေါ်လာသောအခါ ခန္ဓာကိုယ်တွင် အခြားဝေဒနာများ မပေါ်တော့ဘဲ တစ်ကိုယ်လုံးခြုံ၍ အကြီးဆုံး အဆင်းရဲဆုံး ဒုက္ခဝေဒနာအဖြစ်ဖြင့် ရပ်တည်လာသည်။

ထိုအခါကျမှ ရုပ်နာမ်တို့၏ ဉပါဒ်, ဌီ, ဘင်အဖြစ် ဖြစ်လိုက်ပျက်လိုက် ဖြစ်လိုက် ပျက်လိုက်နှင့် အလွန်ဆင်းရဲစွာ ဖြစ်ပေါ်နေသည်ကို တွေ့ရသည်။ ရင်ဆိုင်ရသည်။ ထိုရုပ်နာမ်တို့၏ ဖြစ်ပျက်မှုသည် နိုင်သောသူက ရှုံးသောသူကို တစ်နည်းအားဖြင့် ပါးကွက်အာဏာသားတို့က ရာဇဝတ်ကောင်ကို နိုင်ချင်တိုင်း နိုင်နေသလို နှိပ်စက်ချင်တိုင်း နှိပ်စက်ကြသလို ခန္ဓာကိုယ်ကြီး၏ ဒုက္ခကို မုချပိုင်ပိုင် ဆင်းရဲတုံးကြီးအဖြစ် နှိပ်စက်ခံနေရတဲ့ ရာဇဝတ်ကောင်ကြီးအဖြစ်ကို သိလာရသည်။

ဝေဒနာကို ကုန်ဆုံးချုပ်ပြတ် ရပ်သည့်တိုင်အောင် လိုက်ရသကဲ့သို့ လိုက်သည့်အခါ စိတ္တာနုပဿနာစခန်းသို့ ရောက်တတ်သည်။ အေးငြိမ်း ကြည်လင် စင်ကြယ်နေသည့် မေတ္တာစိတ်အစစ်ကို ရသည်။ ပါးစပ်မှ မရွတ်ဆိုရဘဲ စိတ်ထဲကသာ သတ္တဝါအပေါင်း ချမ်းသာစေကြောင်း မေတ္တာထားရသည်။

ဤမေတ္တာကို ခံယူရသော သတ္တဝါတို့သည် အလွန်တရာမှ အကျိုးသက်ရောက်သွားသည်။ အဘယ်ကြောင့်ဆိုသော် ထိုမေတ္တာစိတ်သည် တဏှာကင်း၍ သန့်ရှင်းသောကြောင့် ဖြစ်သည်။

ဤစိတ္တာနုပဿနာစိတ်ကို အခြေခံပြီး ကမ္မဋ္ဌာန်းအာရုံသတ်မှတ်၍ လုပ်ရသောကြောင့် စိတ္တာနုပဿနာဟု ခေါ်သည်။

ဓမ္မာနုပဿနာ သတိပဋ္ဌာန်သည် သူ့သဘောကို သူဆောင်၍ သုခဒုက္ခကို လျစ်လျူရှုနေသည်။ ဝေဒနာနုပဿနာ၊ စိတ္တာနုပဿနာတို့၏ နောက်ပိုင်း၌ ပေါ်လာတတ်သော တရားဖြစ်သည်။ အလွန်သိမ်မွေ့သည်။ ၎င်းသည် နီဝရဏများနှင့် ခန္ဓာငါးပါး၊ အတွင်းအာယတနခြောက်ပါး၊ အပြင်အာယတနခြောက်ပါး၊ ဗောဇ္ဈင်ခုနစ်ပါး၊ သစ္စာလေးပါးတို့ကို အာရုံပြုသော ကမ္မဋ္ဌာန်းဖြစ်သည်။

ဥပမာ- ဝီရိယသမ္ဗောဇ္ဈင်သော်လည်းကောင်း၊ ပဿဒ္ဓိသမ္ဗောဇ္ဈင်သော်လည်းကောင်း ပေါ်လာသည့်အခါ ဝီရိယ၏ အားသဘော၊ ပဿဒ္ဓိ၏ ငြိမ်းချမ်းသော သဘောများကိုသာ သိနေသည်။

ဓမ္မာနုပဿနာသည် မဂ်ရရန်အကြောင်း သတိပဋ္ဌာန် ဖြစ်သည့်အားလျော်စွာ ဝေဒနာနုပဿနာကို ပြင်းထန်စွာ အားထုတ်ထားသော ယောဂီအဖို့မှာ ဝေဒနာနုပဿနာကြောင့် ဖြစ်ပေါ်လာသော အကျိုးတရားဟု ဆိုရသည်။

အမှန်မှာ ကာယာနုပဿနာ၊ ဝေဒနာနုပဿနာ၊ စိတ္တာနုပဿနာနှင့် ဓမ္မာနုပဿနာတို့မှာ သီးခြားစီ ပေါ်ကြသော တရား မဟုတ်ကြ၊ တစ်ပြိုင်တည်း ပေါ်ကြ၍ တစ်ပြိုင်တည်း အားထုတ်ရသော တရားများ ဖြစ်ကြသည်။

သို့သော် ကိုယ်ကာယ ကဲသည့်အခါ ကာယာနုပဿနာဟု ခေါ်ရသည်။ ဝေဒနာကဲသည့်အခါ ဝေဒနာနုပဿနာဟု ခေါ်ရသည်။ စိတ်ကဲသည့်အခါ စိတ္တာနုပဿနာဟု ခေါ်ရသည်။

ဥပမာ- အဖျော်ရည်တွင် သံပုရာ ကဲသည့်အခါ ချဉ်သည်၊ ဆားကဲသည့်အခါ ငန်သည်၊ သကြား ကဲသည့်အခါ ချိုသည်ဟု ခေါ်ရသကဲ့သို့ပင်တည်း။

သတိပဋ္ဌာန်လေးပါးနှင့် ပြည့်စုံလျှင် သမ္မပ္ပဓာန်လေးပါး၊ ဣဒ္ဓိပါဒ်လေးပါး၊ ဣန္ဒြေငါးပါး၊ ဗိုလ်ငါးပါး၊ ဗောဇ္ဈင်ခုနစ်ပါး၊ မဂ္ဂင်ရှစ်ပါးတို့နှင့် ပြည့်စုံကြတော့သည်သာတည်း။

ပြည့်စုံပုံ အကြောင်းအရာကို ဆရာတော်ကြီး ကိုယ်တိုင် ဟောကြားသော တရားတော်ထဲမှာ ကြည့်ကြပေတော့။ တရား အားထုတ်သည့်အခါ လျှော့လျှော့ပျော့ပျော့ အားမထုတ်ပါနှင့်၊

ပြင်းပြင်းထန်ထန် ဇွဲသန်သန်ဖြင့် အားထုတ်ရန်လိုသည်။ အရိုး၊ အကြော၊ အရေကြွင်းပါစေ၊ အသွေးအသားတွေ ခြောက်ခန်းပါစေ၊ ရအပ်သော တရားကို မရမချင်း မထဟု နှလုံးပိုက်ကာ အားထုတ်ပါ။

ဗုဒ္ဓဘာသာတရားသည် အချောင်သမား ရေသာခိုသမားတို့၏ အရာမဟုတ်။ တကယ်လုံ့လ ကြိုးကုတ်အားထုတ်ရသော အလုပ်ဖြစ်၍ တကယ်အဖိုးတန်သော မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်၊ နိဗ္ဗာန်သို့ ရောက်ရ ခံစားရမည့် အလုပ်ကြီး ဖြစ်ပါသည်။ ဤကား အားထုတ်ပုံ အကျဉ်းမျှ ဖော်ပြလိုက်ပါသတည်း။

* * * * *

## ၆။ ဝိပဿနာတရားတော်ကြီး

စွန်းလွန်းဆရာတော်ကြီး ဟောကြားတော်မူအပ်သော တရား တော်များအနက် တရားအားထုတ်ပုံနှင့် ပတ်သက်သော အချက်အလက်များကို အကျဉ်းချုပ်အားဖြင့် ယောဂီများ မှတ်သားရန် ဆက်လက် ဖော်ပြပါမည်။

လောကကြီးအတွင်း မှီတင်းနေထိုင်ကြသော သတ္တဝါတွေဟာ ကာမဂုဏ်ငါးပါး အာရုံများ၏ နောက်သို့သာ တကောက်ကောက် လိုက်နေကြတာတွေကို တွေ့မြင်ပြီး မနေနိုင်တော့၊ အတုန်လှုပ်ကြီး တုန်လှုပ်ပြီး လူတွေကြားထဲမှာ မနေချင်အောင် မနေနိုင်အောင် ဖြစ်လာတယ်။ မနေချင်ရင် ဘာလုပ်မလဲလို့ စဉ်းစားပြီး မိမိ၏ ရန်သူ အစစ်ကို စနစ်တကျ ဆန်းစစ်ပြီး လိုက်ကြည့်လိုက်တော့ လောဘ၊ ဒေါသ၊ မောဟ၊ မာန၊ ဒိဋ္ဌိဆိုသည့် တရားတွေကို မြင်လာတယ်။

ဒီတရားတွေဟာ သံသရာဘဝ အဆက်ဆက်မှာ မပြတ်နှိပ်စက်နေတဲ့ တရားတွေဘဲ၊ အဲဒီအထဲမှာ တစ်ခါပြန်ပြီး စစ်လိုက်ပြန်တော့ လောဘတရားဟာ အဓိကရန်သူကြီးပဲလို့ တစ်ဖန် မြင်လာပြန်တယ်။ အဲဒီလောဘတဏှာကို မသတ်လျှင် နောက်ထပ်လည်း ထပ်ကာထပ်ကာ နှိပ်စက်နေဦးမှာပဲလို့ သိတယ်။ ဒီလောဘဟာ အိုဘေး၊ နာဘေး၊ သေဘေးကြီး အရင်းခံဘဲ၊ ဒီတဏှာ လောဘကို ဘယ်လို သတ်ရမလဲလို့ ကြံစည်မိတယ်။

အဲဒီလို ကြောက်စရာ လန့်စရာကောင်းတဲ့ ဘေးကြီးတွေဟာ အကျိုးတရားပဲ၊ သူ၏အကြောင်းကို ရှာသတ်မှ ဖြစ်မယ်။ လူချမ်းသာ၊ နတ်ချမ်းသာ၊ ဗြဟ္မာချမ်းသာတွေ ဆိုတာလဲ ခဏပဲ၊ သခ်ိတနယ်မှာသာ ချမ်းသာတယ်လို့ ထင်နေကြတယ်။ ပရမတ်သဘောနဲ့ အမှန်ကြည့်မယ်ဆိုလျှင် ဘာမှနှစ်သက်စရာ ခင်မင်စရာ မရှိဘူး။ တစ်နေ့ကျပြန်၍ အပါယ်သို့ ကျဦးမှာပဲ။

ကုသိုလ်ကံ အကျိုးပေးတော့ အလိုပြည့်ပြီး ပြုံးပြုံးပြုံးပြုံးနဲ့ ပျော်မဆုံး ဖြစ်နေကြတယ်။ အကုသိုလ်ကံ စက်လှည့်လိုက်တော့ ရှုံ့မဲ့ရှုံ့မဲ့နဲ့ ပျက်တဲ့ကုန်ကဲ့လို့ အတုံ့အလှည့် ခံကြရတယ်။

ဒီဘဝမှာပင် အထင်အရှား တွေ့နေကြတဲ့သူတွေ များပါတယ်။ ကံကျိုးလျှင် ကံဆယ်ဖို့၊ ကံပေါက်လျှင် ကံဖါဖို့ အရေးကြီးတယ်၊ ဒါမှ ကံဆင့်ပြီး အမှန်မြင်လာမယ်။

ကံကျိုးလျှင် ကံဆယ်၊ ကံပေါက်လျှင် ကံဖာတယ် ဆိုတာ လူ့ဘဝကြီးရလာတဲ့အခါ ဒါန၊ သီလ၊ ဘာဝနာမှုတို့ကို ပြုလုပ်တာကို ဆိုတာပဲ၊ အပါယ်ငရဲကျသွားလျှင် အဘယ်မှာ ပြုနိုင်တော့မှာလဲ၊ စဉ်းစားကြည့်ကြပါ၊ ဝေဖန်ကတိပြုကြပါ။ ဒီကုသိုလ်တရားတွေကို မေ့ပစ်ပြီး ဇနီးမယား သမီးသားနှင့် စီးပွားဥစ္စာတို့ကိုသာ အားကိုးနေလျှင် ငါးပေါက်မှားပြီး ငါးပါး မှောက်လိမ့်မယ်။ အားကိုးမှားနေ ကြတယ်နော်၊ စီးပွားဥစ္စာ အဆင်ပြေလာပြန်တော့ ငါလည်လို့ ငါ ပါးလို့၊ ငါနပ်လို့ဟု အထင်ကြီးပြီး အမြင်နည်းနေကြတယ်။

ဘာပြုလို့ အထင်မှားနေကြသလဲ ဆိုလျှင် အမှန်တရားကို မသိကြလို့ ဖြစ်တယ်၊ အဲဒါကြောင့် ဆရာတော်ဘုရားကြီးက 'မသိလို့ လိုချင်၊ လိုချင်လို့ စွဲလမ်း၊ စွဲလမ်းလို့ ပြုလုပ်၊ ပြုလုပ်လို့ ရရှိ၊ ရရှိတော့ ခံကြရတာပဲလို့' ဟောကြားတော်မူတယ်။

မသိတာက အဝိဇ္ဇာ၊ လိုချင်တာက တဏှာ၊ စွဲလမ်းတာက ဥပါဒါန်၊ ပြုလုပ်တာက သင်္ခါရ၊ ၄င်းတို့ ပေါင်းမိတော့ ဇာတိ တရားကြီး ပေါ်လာတယ်။ ပေါ်လာတော့မှာပေါ့၊ သညာ ဝိပလ္လာသတရားက လိမ်ထားတာကိုး၊ လှည့်စားထားတာကိုး၊ လိမ်ထားတာ လှည့်စားထားတာပဲ အဟုတ်ကြီးထင်ပြီး လုပ် ချင်နေကြတယ်၊ စဉ်းစားကြပါ၊ ဝေဖန်ကြည့်ကြပါ၊ ရှိတာကို ကြဉ်၊ မရှိတာကို မြင်တတ်တဲ့ ပုထုဇဉ်အကန်းတွေနော်။

မြတ်စွာဘုရားက အနိစ္စလို့ ဟောတယ်၊ သညာက နိစ္စလို့ လိမ်ထားတယ်၊ မြတ်စွာဘုရားက ဒုက္ခလို့ ဟောတယ်၊

သညာက သုခလို့ လိမ်ထားတယ်၊ မြတ်စွာဘုရားက အနတ္တလို့ ဟောတယ်၊ သညာက အတ္တလို့ လိမ်ထားတယ်။ မြတ်စွာဘုရားက အသုဘလို့ ဟောတယ်၊ သညာက သုဘလို့ လိမ်ထားတယ်၊

အဲဒီလို သညာတရားက နိစ္စ၊ သုခ၊ အတ္တ၊ သုဘလို့ လိမ်ထားတာကို မြတ်စွာဘုရားက သတိပဋ္ဌာန်လေးပါးဖြင့် သက်ကြောင်းအောင် ရှင်းတော်မူတယ်။

ကာယာနုပဿနာဖြင့် သုဘထင်တာကို အသုဘအစစ်ပါဟု ရှင်းထားတယ်။ ဝေဒနာနုပဿနာဖြင့် သုခထင်တာကို ဒုက္ခအစစ်ပါဟု ရှင်းထားတယ်။ စိတ္တာနုပဿနာဖြင့် နိစ္စထင်တာကို အနိစ္စ အစစ်ပါဟု ရှင်းထားတယ်။ ဓမ္မာနုပဿနာဖြင့် အတ္တထင်တာကို အနတ္တအစစ်ပါဟု ရှင်းထားတယ်။

ထို့ကြောင့် သံသရာဝဋ်ကောင်မှ လွတ်သွားအောင် အသိဉာဏ်ဖြင့် သတိပဋ္ဌာန်တရားကို အားထုတ်ကြပါလို့ ဆိုလိုတယ်၊ သတိပဋ္ဌာန်တရားဖြင့် ဘယ်လို ရှင်းထားသလဲဆိုတော့ ထိမှုသဘောကို သတိပြုနေတာက ကာယာနုပဿနာလို့ ခေါ်တယ်

ခံစားမှုကို လိုက်လျော သတိပြုနေတာက ဝေဒနာနုပဿနာလို့ ခေါ်တယ်။ အာရုံသို့ လိုက်သိမှုသဘောကို လိုက်လျော သတိပြု မိနေတာက စိတ္တာနုပဿနာလို့ ခေါ်တယ်။ နှောင့်ယှက်နေသည့် နီဝရဏတွေကို သတိပြုမိနေတာက ဓမ္မာနုပဿနာလို့ခေါ်တယ်၊ အဲဒီလို သတိဆိုတဲ့ အမှတ်

တရားက ရှင်းပေးလိုက်တော့ ထင်းခနဲလင်းကနဲ အမှန်တရား ပေါ်လာတယ်။ သက်ဝင်း သွားတယ်။ အနိစ္စကို အနိစ္စမှန်း၊ ဒုက္ခကို ဒုက္ခမှန်း၊ အနတ္တကို အနတ္တမှန်း သိလာတယ်၊ သိတော့ သမ္မသနဉာဏ် ဖြစ်ပေါ်တော့တာပဲ။

သမ္မသနဉာဏ်ဖြင့် ရုပ်နာမ်ခန္ဓာတို့ကို ဆင်ခြင် သုံးသပ်သော် အဖြစ်အပျက်ကို ရှုတဲ့ ဥဒယဗ္ဗယဉာဏ်၊ အပျက်ကိုသာ ရှုတဲ့ ဘင်္ဂဉာဏ်၊ ကြောက်မက်ဖွယ်ဟု ရှုတဲ့ ဘယဉာဏ်၊ အပြစ်ကို ရှုတဲ့ အာဒီနဝဉာဏ်၊ တေဘူမကသင်္ခါတရားကို ငြီးငွေ့တဲ့ နိဗ္ဗိန္ဒာဉာဏ်၊ ဝဋ်ဒုက္ခမှ အလျင်အမြန် လွတ်လိုတဲ့ မုဉ္စိတုကမျတာဉာဏ်၊ နောက်သို့ တစ်ဖန်ပြန်၍ ရှုသော ပဋိသင်္ခါဉာဏ်၊ သင်္ခါရတရားကို တွယ်တာမှုမရှိဘဲ လျစ်လျူ ရှုသော သင်္ခါရုပေက္ခာဉာဏ် ဖြစ်ပြီးတော့ ဝိပဿနာဉာဏ်နှင့် ဖြစ်လတ္တံ့သော မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်အားလျော်သော အနုလောမဉာဏ်စဉ်တက်ပြီး မဂ်ဉာဏ်, ဖိုလ်ဉာဏ်သို့ ဆိုက်ရောက် တော့တာဘဲ။

တရားအားထုတ်တဲ့အခါ ဝိသုဒ္ဓိ (၇)ပါး ဖြစ်ပုံကတော့ တောင် ကြည့်မြောက်ကြည့် မကြည့်လို့ ဣန္ဒြေလုံလျှင် သီလ ဝိသုဒ္ဓိပါဘဲ၊ ဝေဒနာဖြစ်ပေါ်လာတော့ စိတ်က ဝေဒနာအပေါ် စိုက်ပြီး ကြည်လင်နေသော စိတ္တဝိသုဒ္ဓိ၊ သီလကလဲ လုံခြုံ စိတ်ကလဲ ကြည်လင် စင်ကြယ်နေတော့ အမြင်မှန်ရလာတာဟာ ဒိဋ္ဌိဝိသုဒ္ဓိလို့ ခေါ်တယ်။ တရားကို အမှန်မြင်လာပြန်တော့

ါသည် ရှေးက တစ်ခုခု ဖြစ်ဖူးသလား၊ နောက်ကော ဖြစ်ဦး
မှာလားဆိုတဲ့ ယုံမှားမှုတွေ ကင်းသွားတာကို ကင်္ခါဝိတရဏ
ဝိသုဒ္ဓိလို့ ခေါ်တယ်။

ဤဝိသုဒ္ဓိစခန်းသို့ ရောက်သောအခါ စိတ်ဓါတ်ကြည်လင်
သောကြောင့် ဩဘာသဆိုတဲ့ အရောင်အဝါ ထွက်လာတယ်၊
အလွန်ကြည်အိုတဲ့ ပီတိဖြစ်လာတယ်၊ ငြိမ်းချမ်းတဲ့ ပဿဒ္ဓိ
ဖြစ်လာတယ်၊ သက်ဝင်ယုံကြည်တဲ့ အဓိမောက္ခ ဖြစ်လာတယ်၊
အားပေးတဲ့ ဝီရိယ ဖြစ်လာတယ်၊ တစ်ကိုယ်လုံး အေးမြ
ချမ်းသာသော သုခဖြစ်လာတယ်။ ဝရဇိန်လက်နက်၊ မိုးကြိုးစက်
ကဲ့သို့ ထက်မြက်သော ဝိပဿနာဉာဏ် ဖြစ်လာတယ်။ အာရုံ၌
စွဲမြဲစွာတည်သော သတိဆိုတဲ့ ဥပဋ္ဌာနလဲ ဖြစ်လာတယ်။
ဖြစ်ပျက်မှုတရားတွေ အလွန်ထင်နေရကား အသင့်အားဖြင့်
ရှုတတ်သော တတြမဇ္ဈတ္တုပေက္ခာ ခေါ်သည့် ဥပေက္ခာလဲ
ဖြစ်လာတယ်၊ ဝိပဿနာဉာဏ်ကို နှစ်သက်နေတဲ့ နိကန္တိ
ခေါ်သည့် တဏှာလဲ ဖြစ်ပေါ်လာတယ်။

ဤလို နှစ်သက် ဝမ်းမြောက်နေတာဟာ လမ်းမှန်
မဟုတ်ဘူး၊ မဂ်မဟုတ်ဘူး၊ ဝိပဿနာကို ညစ်ညူးစေတတ်သော
ဘေးရန်တွေပဲဟု စိတ်ထဲက ခန္ဓာပေါ်မှာ အာရုံပြန်ပြီး သိမ်း
လိုက်တော့ မဂ္ဂါမဂ္ဂဉာဏဒဿနဝိသုဒ္ဓိ ဖြစ်ပေါ်လာတာပဲ။

ထို့နောက် အာရုံက အထက်သို့ သွားလိုက်၊ အောက်သို့
ကျလိုက်ဖြစ်နေတော့ ဇောကို တင်းလိုက်တာဟာ မဂ်သို့ ရောက်

ကြောင်း ပဋိပဒါဉာဏဒဿနဝိသုဒ္ဓိ ခေါ်တာပဲ၊ အဲဒီနောက် မဂ်ဉာဏ်ဟာ ဉာဏဒဿနဝိသုဒ္ဓိခေါ်တာပဲ၊ အဲဒီဉာဏ်ဖြစ်လာတော့ ပရိက်၊ ဥပစာ၊ အနုလုံခေါ်သည့် စိတ်သုံးပါးက ကိလေသာကင်းအောင် ဖယ်ရှားလိုက်တော့ နိဗ္ဗာန်ကို မြင်တဲ့စိတ်ဖြစ်ပေါ်လာတာပါပဲ။

သံသရာစက်ကြီး ပြတ်ချင်ကြရင် သံသရာဝဋ်မှ လွတ်ချင်ကြရင် မိမိကိုယ်လဲ မချစ်ကြနဲ့၊ သူတစ်ပါးကိုလဲ မချစ်ကြနဲ့၊ ချစ်ရင် ငါးပေါက်မှားပြီး ငါးပါးမှောက်လိမ့်မယ်။

ငါးပေါက်ဆိုတာ ကာယတံခါး တစ်ပေါက်၊ စက္ခုတံခါး တစ်ပေါက်၊ သောတတံခါး တစ်ပေါက်၊ ဃာနတံခါး တစ်ပေါက်၊ ဇိဝှါတံခါး တစ်ပေါက်၊ အဲ့ဒါ ငါးပေါက်ပဲ။

ဒီ ငါးပေါက်ထဲမှာ ကာယတံခါးပေါက်သည် စက္ခုတံခါးစသော တံခါးလေးပါးတို့အတွက် ဝိပဿနာရှုရာတွင် ယောဂီပုဂ္ဂိုလ်၏ဉာဏ်တွင် ထင်လွယ် မြင်လွယ်သည်၊ သမာဓိရလွယ်သည်၊ နာမရူပပရိစ္ဆေဒဉာဏ်ကို ရင့်သန်စေသည်။

ထို့ကြောင့် ကာယတံခါးပေါက်က စောင့်ပြီး သံသရာစက်ကြီးကို ဖြတ်ရတယ်။ ဘယ်လို ဖြတ်ရသလဲဆိုတော့ ခန္ဓာပေါ်မှာ သမာဓိတရားကြောင့် ဖြစ်ပေါ်လာတဲ့ ဝေဒနာကို သတိနှင့် လိုက်ပြီး သုံးသပ်ရတယ်၊ သုံးသပ်တော့ ဖဿ ဖြစ်လာတယ်။ ဖဿဖြစ်တော့ ဝေဒနာ ဖြစ်လာတာပဲ၊ ဝေဒနာ ဖြစ်လာရင် တဏှာ ဥပါဒါန် စသည် မဖြစ်ရအောင် သတိနှင့်ကပ်၍

ရှုရပါတယ်။ ကပ်၍ရှုလိုက်တဲ့အခါ ဝေဒနာပညာ ဖြစ်လာပြီး တစ်ခါတည်း ဥဒယဗ္ဗယဉာဏ် ရင့်သန်လာတော့တာပဲ။

ထိုဉာဏ်ရင့်သန်လာပြီဆိုရင် သင်္ခါရုပေက္ခာဉာဏ်ထိ တက်လာပါတယ်၊ ထို့နောက် ပရိကံ၊ ဥပစာ၊ အနုလုံခေါ်သည့် စိတ်သုံးပါးက ကိလေသာတရား စင်သွားအောင် လုပ်လိုက်တော့ ဂေါတြဘူက နိဗ္ဗာန်သို့ ညွတ်ပြီ၊ ထိုနိဗ္ဗာန်ကို အမှီသဟဲပြုကာ မဂ်က သံသရာဝဋ်ထဲက မထွက်ချင်တဲ့ တဏှာစသော ကိလေသာတို့ကို အကြွင်းမဲ့ ပယ်သတ်လိုက်တဲ့အခါ နိဗ္ဗာန်သို့ ဆိုက်ပြီး သံသရာစက်ကြီး ပြတ်သွားတာပါပဲ။

သောတာပန်က အပါယ်သံသရာမှ ပြတ်တယ်၊ သကဒါဂါမ်က ကာမဘုံ ၁စိတ်တစ်ဒေသ သံသရာမှ ပြတ်တယ်၊ အနာဂါမ်က အလုံးစုံသော ကာမဘုံ သံသရာမှ ပြတ်တယ်၊ ရဟန္တာက အလုံးစုံသော သုံးဆယ့်တစ်ဘုံ သံသရာမှ ပြတ်တယ်လို့ ဟောတော်မူပါတယ်။

ဤသည်ကား စွန်းလွန်း ဆရာတော် ဘုရားကြီး၏ ဝိပဿနာရှုနည်း အကျဉ်းတည်း။ ။

* * * * *

— —

# ၇။ မင်းကွန်းဆရာတော်ဘုရားကြီး၏ ဝိပဿနာရှုနည်း (စကားပလ္လင်)

ကျွန်ုပ်သည် လွန်ခဲ့သော အနှစ်(၃၀)ကျော်လောက်က နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ ဘာသာပြန် အယ်ဒီတာအဖြစ်ဖြင့် အစိုးရအမှုထမ်းစဉ် ရန်ကုန်မြို့၊ ဘုန်းကြီးလမ်း၊ အမှတ် (၇၅)နေ သီလဝတီတိုက်၊ ကျောင်းအမကြီးများဖြစ်ကြသော ဒေါ်သီလ၊ ဒေါ်စောတို့က မိမိအပေါ် မောင်အရင်းအချာနှင့် မခြား ယခု ဘဝ, နောင်ဘဝတို့၌ ကောင်းစားရေးကို လိုလားကြသဖြင့် "မောင်တင်မြင့်ကို တိုက်တွန်းလိုပါတယ်၊ အစ်မတို့ ညီအစ်မ နှစ်ယောက်လဲ မကြာခင်က မင်းကွန်းရိပ်သာသို့ သွား၍ တရား

အားထုတ်ခဲ့သဖြင့် အလွန်တရာမှ ကျေးဇူးများခဲ့ကြတယ်၊ မောင်တင်မြင့်လဲ မင်းကွန်းရိပ်သာမှာ တတ်နိုင်သလောက် သွားရောက်၍ တရားအားထုတ်စေချင်ပါတယ်၊ မင်းကွန်း ဝိပဿနာကျောင်းမှာ စားစရိတ်လဲ အသင်းက ထောက်ပံ့တယ်၊ အခြားကုန်ကျမယ့် စရိတ်များလဲ ဘယ်လောက်ကုန်ကုန် အစ်မ တို့က ကုသိုလ်ပြုပါမယ်" ဟု သူတို့ တိုက်သို့ ရောက်တိုင်း ရောက်တိုင်း တိုက်တွန်းတောင်းပန်ကြတယ်။

ထိုသို့ တိုက်တွန်းဖန်များတော့ စဉ်းစားမိတယ်၊ "ငါဟာ ပိဋကတ်ကျမ်းဂန်များကိုတော့ သူများထက် မသာတောင် တတ်သင့်သလောက် တတ်မြောက်အောင် သင်ကြားပို့ချခဲ့တယ်။ ဒါနကုသိုလ်များလဲ မိမိစွမ်းအားအလျောက် ပြုလုပ်ခဲ့တယ်၊ သီလ ကုသိုလ်လဲ အမြဲ မစောင့်နိုင်ပေမယ့် တတ်နိုင်သလောက် ဆောက်တည်ခဲ့တယ်။

သို့သော် ဘာဝနာကုသိုလ်တော့ တစ်ခါမျှ အားမထုတ် ရသေးဘူး၊ ရဟန်းအဖြစ်မှ လူ့ဘောင်သို့ သက်ဆင်းပြီး မကြာခင် ရန်ကုန်မှ မိမိရပ်ရွာ ဖလံခုံသို့ ပြန်ရင်း ရွှေဘို၊ လိပ်ခြင်းရွာသို့ ရောက်သောအခါ နောင်တော်အရင်းဖြစ်သော မန္တလေးမြို့၊ မစိုးရိမ်ကျောင်းတိုက်၊ ပိဋကတ်ကျောင်းဆရာတော် သကျသီဟ ဓမ္မာစရိယ ဦးစာရိန္ဒနှင့် တွေ့ဆုံတယ်။

ထိုအခါမှာလဲ နောင်တော်ဖြစ်တဲ့ ဦးစာရိန္ဒက "ငါ့ညီ မောင်တင်မြင့်ကို တိုက်တွန်းရဦးမည်၊ ငါဟာ အစကတော့ ယခု

ခေတ်မှာ 'ဝိပဿနာတရား ပြနေကြတာတွေဟာ လိမ်စား ညာစား နေကြတာတွေပဲလို့ ထင်မိတယ်၊ ရဟန်းအမကြီးက တိုက်တွန်းလို့ မကြာမီက ဆိပ်ခွန်ရွာတွင် တရားပြနေသော ဦးသောဘဏထံ နည်းခံပြီး သွား၍အားထုတ်တယ်၊ အလွန် အကျိုးများပါတယ်၊ စာထဲက သိနေတာဟာ စာသိပဲ ရှိတယ်၊ မပိုင်ဘူး၊ ကိုယ်တွေ့သိ မဟုတ်ဘူး၊ တရားအားထုတ်ကြည့်မှ အသိမှန် အမြင်မှန် ပေါ်လာတယ်၊ သင်ထားတဲ့စာများလဲ တစ်နေ့တစ်ခြား သဘာဝကျကျ သိလာတယ်။ ဒီတော့ မင်းလဲ တရားအားထုတ်ဖို့ ကောင်းတယ်" ဟု တိုက်တွန်းခဲ့ဖူးတယ်။ (ထိုစဉ်က မဟာစည်ဆရာတော် ဦးသောဘဏမှာ ဆိပ်ခွန်မှာပင် ရှိသေးသည်။)

မိမိအပေါ် ပစ္စုပ္ပန်အကျိုး၊ သံသရာအကျိုးကို လိုလား ကြသော ပုဂ္ဂိုလ်တို့၏ တိုက်တွန်းချက်များကို စဉ်းစားပြီး 'လသာတုန်း ဗိုင်းငင်' ဆိုသလို ဒီတစ်ခါ အားမထုတ်ဖြစ်ခဲ့လျှင် နောင်တွင် လွယ်ချင်မှလွယ်မည်၊ သေဘေးကလည်း စိတ်ချရတာ မဟုတ်ဘူး၊ ဖြုတ်ခနဲ သေချင် သေနိုင်တယ်၊ သေခါနီးကျမှ ဘာဝနာတရား အားမထုတ်ခဲ့ရပါသေးလားဟု နောင်တတရား ရနေလို့ အပိုပဲ၊ လူဖြစ် ရှုံးသွားလိမ့်မယ်' ဟု မိမိကိုယ်ကို ဆုံးမပြီး စိတ်တုံးတုံးချကာ တရားအားထုတ်ရန် အဓိဋ္ဌာန်ပြုလိုက်ပါသည်။ အဓိဋ္ဌာန် ဆုံးဖြတ်ချက်ကို ချပြီးနောက် မကြာမီ ကျောင်းအမကြီး ဒေါ်သီလ၊ ဒေါ်စောတို့ထံ သွားပြီး ခန့်ခံလိုက်ပါသည်။

ခွင့်ရတယ် ဆိုလျှင်ပဲ ချက်ချင်း ကျောင်းအမကြီးတို့ထံ သွားပြောရာ စောင်၊ ခြင်ထောင်မှစ၍ စားစရာ၊ သောက်စရာ အပြည့်အစုံနှင့် ညီအမနှစ်ယောက်စလုံး မင်းကွန်းရိပ်သာသို့ လိုက်ပို့ကြပါသည်။ ရောက်သည့်နေ့မှာပင် တိုက်အုပ်ဆရာတော် ဦးဝါယမိန္ဒထံတွင် နည်းခံပြီး တရားအားထုတ်ခဲ့ပါသည်။

* * * * *

## ၈။ မင်းကွန်းတရားရှုနည်း နိဿရည်း

တရားကတော့ သထုံ ပထမမင်းကွန်း ဆရာတော် ဘုရားကြီးနည်းအတိုင်း ထိုင်လျှင် ထိုင်တယ်၊ အိပ်လျှင် အိပ်တယ်၊ သွားလျှင် သွားတယ်၊ စားလျှင် စားတယ်၊ အမြဲမပြတ် သတိကပ်ပြီး ရှုမှတ်ရတာပါပဲ။

ရန်ကုန် မဟာစည်ဆရာတော်နည်းနှင့် မင်းကွန်းဆရာ တော်နည်းမှာ သိပ်မထူးခြားလှချေ။ သထုံ မင်းကွန်း ဆရာတော် ကြီး၏ တပည့်ချည်းဖြစ်၍ အတူတူပင်ဖြစ်ပါသည်။

ထိုင်တယ်၊ အိပ်တယ်၊ သွားတယ်၊ စားတယ်လို့ အားထုတ် ရသောနည်းမှာ ကာယာနုပဿနာ ဣရိယာပထနည်းပဲ ဖြစ်ပါတယ်။ သွားတဲ့အခါ ကြွတယ်၊ လှမ်းတဲ့အခါ ချတယ်လို့ မှတ်ရပါတယ်။ သွားတုန်းလာတုန်း အခိုက်အတန့်မှာ အာရုံ တစ်ခုခု မြင်ပြန်ရင်လဲ မြင်တယ် မြင်တယ်လို့ မှတ်၊ ကြားပြန် ရင်လဲ ကြားတယ် ကြားတယ်လို့ မှတ်၊ နံပြန်ရင်လဲ နံတယ် နံတယ်လို့ မှတ်၊ အစားတစ်ခုခု စားပြန်တော့လဲ စားတယ်လို့ မှတ်။

ထို့ထက် အမှတ်စိပ်ပြီး စားမယ်လို့ ဇွန်းကို ကိုင်လျှင် ကိုင်တယ် ကိုင်တယ်လို့ မှတ်၊ ဟင်းကို ခပ်လိုက်တဲ့အခါ ခပ်တယ်လို့ မှတ်ရှုရပါတယ်၊ အားထုတ်သည်မှစ၍ (၁၁) ရက်လောက်အထိ ဟိုဟိုဒီဒီ အာရုံတွေများပြီးလျှင် တစ်ခါတစ်ခါလဲ အိမ်သို့ ရောက်ပြီး ထင်သလောက် အမှတ်မစိပ်နိုင်ဘူး၊ သမာဓိ မရနိုင်ဘူး၊

စက္ခုံ စ ပဋိစ္စ ရူပေ စ ဥပ္ပဇ္ဇတိ စက္ခုဝိညာဏံ' ဟု ဆဆက္ကသုတ် ဒေသနာတော်လာသည့်အတိုင်း ကောင်းသည့် အာရုံ တွေ့တွေ့၊ မကောင်းသည့်အာရုံ တွေ့တွေ့၊ ကောင်း, မကောင်းသည့်အာရုံ တွေ့တွေ့၊ မြင်တယ် မြင်တယ်လို့ မှတ်ဖန်များတော့ ကမ္မဋ္ဌာန်းအာရုံ စိပ်စိပ်ပြီးလာတော့ မြင်ထိပျက် မြင်သိပျက်တွေ ပေါ်လာတယ်။

မြင်တဲ့အဆင်းက ရုပ်၊ သိတာက နာမ်ပဲဟု ရုပ်နှင့်နာမ် ခွဲခြားသိလာတယ်၊ ရှုတဲ့အခါ မြင်တဲ့အဆင်းပဲ ရှုရှု၊ သိတဲ့နာမ်ပဲ ရှုရှု၊ တစ်ခုခု သိအောင် မိအောင် ရှုရတယ်၊ မရှုမိလျှင် ဖဿကြောင့် ဝေဒနာ၊ ဝေဒနာကြောင့် တဏှာဖြစ်လာတယ်။

တဏှာမဖြစ်အောင် အသိအမှတ်နှင့် မပြတ်ရှုတော့ တစ်ခုနဲ့တစ်ခု တသဘောနဲ့ တသဘော ပြောင်းလဲသွားတာလေးတွေ တွေ့ရတယ်၊ တဏှာဖြစ်ရင် ဥပါဒါန်၊ ကံ၊ သင်္ခါရ တွေ ဖြစ်လာလိမ့်မယ်၊ သတိကြပ်ကြပ်ထား ရှုပါ။ ဝေဒနာ ပညာ ဖြစ်အောင် အားထုတ်ပါ။

ပရမတ္ထသဘောတို့၏ တစ်ခုနဲ့တစ်ခု သူ့အလိုလို ပြောင်းလဲသွားတာလေးတွေ တွေ့ ဘူ ဝေဒနာ တဏှာမဖြစ်ဘဲ

တဏှာ ရပ်စဲသွားမယ်၊ တဏှာချုပ်တော့ နောင်ဘဝပေါင်း အသချေ်ဖြစ်နေမည့် ဥပါဒါန်ကံတွေလဲ ချုပ်သွားတာပဲ။

သို့အတွက် ကောင်းတဲ့အာရုံ တွေ့သော်လည်း တဏှာ မဖြစ်တော့ဘူး၊ မကောင်းတဲ့အာရုံ တွေ့သော်လည်း ဒေါသ မဖြစ်တော့ဘူး၊ ကောင်း, မကောင်းတဲ့ အာရုံတွေ့သော်လည်း မောဟ မဖြစ်တော့ဘူး၊ အဲဒီလို သတိနှင့် မပြတ်ရှုလိုက်တော့ မြင်တာလဲ မြင်တာမတ္တမျှပဲ၊ ဒါကြောင့် 'ဒိဋ္ဌေ ဒိဋ္ဌမတ္တံ' ဟု ဟောကြားထားပါတယ်။

ချုပ်ရုံတင် မကဘူး၊ တရားထူးတွေတောင် ပေါ်လာတယ်၊ ဘယ်လို ပေါ်လာသလဲ ဆိုတော့ မြင်တယ် မြင်တယ်၊ မြင်သိ ပျက် မြင်သိပျက်လို့ အမှတ်နဲ့ ရှုလိုက်တော့ ဒီအမှတ်အတွင်းမှာ မဂ္ဂင်ရှစ်ပါး ပါလာတယ်၊ ပါလာပုံမှာ နာမ်ရုပ်တို့၏ ဖြစ်ပျက် နေတာကို အမှန်သိ အမှန်မြင်လာတာက သမ္မာဒိဋ္ဌိမဂ္ဂင် ဖြစ်တယ်၊ ဖြစ်ပျက်အပေါ် စိတ်ကလေး တင်ထားလိုက်တော့ သမ္မာသင်္ကပ္ပမဂ္ဂင် ဖြစ်လာတယ်၊ အဲဒီ ဂ္ဂင်နှစ်ပါးဟာ ပညာ မဂ္ဂင်လို့ ခေါ်ရတယ်။ စိတ်က တည်လို့ ကမ္မဋ္ဌာန်းအာရုံကို မှတ်လို့ရတာ၊ စိတ် မတည်ရင် မှတ်လို့မရဘူး၊ အဲဒီစိတ် တည်လာတာဟာ သမ္မာသမာဓိမဂ္ဂင်ပဲ။

စိတ်ကလေး တခြားမသွားအောင် တည်နေအောင် ဆွဲ ဆောင်တဲ့ လုံ့လက သမ္မာဝါယာမမဂ္ဂင်ပဲ၊ မှတ်လို့ ရနေတာက သမ္မာသတိမဂ္ဂင်ပဲ၊ စိတ်တည်ကြည်တာက သမ္မာသမာဓိမဂ္ဂင်ပဲ၊ အဲဒီမဂ္ဂင်သုံးပါးကို သမာဓိမဂ္ဂင်လို့ ခေါ်ရတယ်။

အဲဒီလို မပြတ်မှတ်ရင်း, မှတ်ရင်း ဝိပဿနာဉာဏ်တွေလဲ ဖြစ်ပေါ်လာတာပဲ၊ ဘယ်လိုဖြစ်လာသလဲဆိုရင် မြင်တယ်၊ မြင်တယ်လို့ မှတ်၊ မှတ်ရင်း, မှတ်ရင်းနဲ့ မြင်တဲ့အဆင်းက ရုပ်၊ မြင်တာက ရုပ်၊ သိတာက နာမ်လို့ ခွဲခြားလိုက်နိုင်ရင် နာမရူပပရိစ္ဆေဒဉာဏ် ဖြစ်ပြီလို့ ဆိုနိုင်တယ်၊

ထိုနာမရူပပရိစ္ဆေဒဉာဏ်က သက္ကာယဒိဋ္ဌိကို ပယ်တယ်၊ မြင်တဲ့စိတ်ကလေး ဖြစ်ပေါ်ဖို့ရာမှာ စက္ခုအကြည်ဓာတ်ရယ်၊ မြင်တဲ့ အဆင်းရုပ်ရယ်၊ အလင်းရောင်ရယ်၊ နှလုံးသွင်းရယ်- ဤ လေးပါးအကြောင်းများကြောင့် စက္ခုဝိညာဉ်စိတ်ကလေး ဖြစ်ပေါ်လာတယ်လို့ သိလိုက်ရင် ပစ္စယပရိဂ္ဂဟဉာဏ် ဖြစ်နေ ပြီလို့ ဆိုနိုင်တယ်။

အဲဒီပစ္စယပရိဂ္ဂဟဉာဏ်က ဝိစိကိစ္ဆာကို ပယ်တယ်၊ ပယ်တယ် ဆိုပေမယ့် ပုထုဇဉ်ဖြစ်နေသေးတော့ အကြွင်းမဲ့တော့ မပယ်နိုင်သေးဘူးပေါ့၊ ဒါပေမယ့် တဒင်္ဂအားဖြင့် ပယ်နိုင် တယ်ဆိုတော့ သောတာပန်စခန်း ရောက်နေပြီလို့ ဆိုနိုင်တယ်။

ဖြစ်ပေါ်လာပြီးတော့ ပျက်ပျက်သွားလို့ မမြဲတဲ့ အနိစ္စ လက္ခဏာ၊ မပျက်မစီးအောင် အောင့်အည်းမရလို့ ပျက်ပျက် သွားတဲ့ ဒုက္ခလက္ခဏာ၊ ပျက်ပျက်နေလို့ ကိုယ့်အလိုမကျတဲ့ အနတ္တ လက္ခဏာတွေ ဖြစ်လာရင် သမ္မသနဉာဏ် ဖြစ်နေပြီလို့ ဆိုရတယ်။

ထိုသမ္မသနဉာဏ် ဖြစ်ပေါ်လာတော့ တဏှာ, မာန, ဒိဋ္ဌိ ဆိုတဲ့ ငါစွဲ ဂါဟသုံးပါး လာတော့တယ်။ 'ကိုယ်မှာ မတတ်၊ စာမှာ တတ်၊ ဂါဟက်ကိုက်တတ်သည်' ဆိုသည်မှာ ဒီဂါဟတွေပဲ၊

အနိစ္စလက္ခဏာဖြင့် မာနစွဲပြုတ်သွားတယ်၊ ဒုက္ခလက္ခဏာဖြင့် တဏှာစွဲ ပြုတ်သွားတယ်၊ အနတ္တလက္ခဏာဖြင့် ဒိဋ္ဌိစွဲပြုတ်သွားတယ်၊ ရုပ်နာမ်တို့၏ ရေပွက်ပမာ ဖြစ်ပြီး ပျက်ပျက်သွားလို့ မှမြဲတဲ့ အနိစ္စလက္ခဏာ၊ ဆင်းရဲတဲ့ ဒုက္ခလက္ခဏာ၊ အစိုးမရ အလိုမလိုက်တဲ့ အနတ္တလက္ခဏာတို့ကို သာမညလက္ခဏာလို့ ခေါ်တယ်။

ဖြစ်ပျက်, ဖြစ်ပျက်နေတာကတော့ သင်္ခတလက္ခဏာလို့ ခေါ်တယ်၊ ရုပ်ခန္ဓာအစုအဝေးကြီး တစ်ခုလုံး၏ အချမ်းအပူ စသော အကြောင်းတို့ကြောင့် ဖောက်ပြန်တဲ့သဘောကိုတော့ ရုပ္ပနလက္ခဏာ၊ နာမ်ခန္ဓာ အစုအဝေးကြီးတစ်ခုလုံး၏ အာရုံသို့ ညွတ်ညွတ်သွားတဲ့ နမနလက္ခဏာတို့ကိုတော့ သဘာဝလက္ခဏာလို့ ခေါ်တယ်။

ရုပ်တို့တွင် ပထဝီစသည်တို့၏ ကက္ခဠလက္ခဏာများ၊ နာမ်တို့တွင် စိတ်၏ အာရမ္မဏဝိဇာနနလက္ခဏာ၊ ဖဿစသည်တို့၏ ဖုသနလက္ခဏာစသည်တို့ကို ဝိသေသလက္ခဏာလို့ ခေါ်ရတယ်၊ လက္ခဏာကို သိမှ သဘောကို သိတယ်၊ သဘောကို သိမှ ပရမတ်ပေါ်တယ်၊ ပရမတ်ပေါ်မှ ပညာတ်ပုပသွားမယ်၊ ဒါကြောင့် လက္ခဏာတို့ကို သိဖို့လဲ အရေးကြီးပါတယ်။

ဝိပဿနာဉာဏ်စဉ် ဖြစ်ပွားပုံကို ကြည့်မယ်ဆိုလျှင်လဲ ထိုသို့ဆိုအပ်ခဲ့ပြီးသော သမ္မသနဉာဏ်ဖြစ်ပြီးနောက် အဖြစ်အပျက်ကို ရှုတဲ့ ဉဒယဗ္ဗယ်ဉာဏ် ဖြစ်တယ်။ ဤနေရာ၌ အထူးမှတ်ဖို့လိုသည်မှာ ကာလသုံးပါးဖြင့် ဖြစ်ပျက်ကို မြင်တာက သမ္မသနဉာဏ်၊ ပစ္စုပ္ပန်ကာလဖြင့် ဖြစ်ပျက်ကို မြင်တာက ဉဒယဗ္ဗယဉာဏ်ဟု ခွဲခြားမှတ်ပါ။

ထို့အပြင် သောတာပန်ဖြစ်ပြီးနောက် သကဒါဂါမ် ဖြစ်အောင်၊ သကဒါဂါမ်ဖြစ်ပြီးနောက် အနာဂါမ်ဖြစ်အောင်၊ အနာဂါမ်ဖြစ်ပြီးနောက် ရဟန္တာဖြစ်အောင်ဟာ ဉဒယဗ္ဗယဉာဏ်က စပြီး အားထုတ်ရပါတယ်။

ဉဒယဗ္ဗယဉာဏ် ဖြစ်ပြီးသည့်နောက် အပျက်သာထင်သည့် ဘင်္ဂဉာဏ်၊ ကြောက်စရာထင်သည့် ဘယဉာဏ်၊ သံသရာဝဋ်၏ အပြစ်တွေကို တရေးရေးထင်သည့် အာဒီနဝဉာဏ်၊ သံသရာဝဋ်ကို ငြီးငွေ့လာသည့် နိဗ္ဗိန္ဒဉာဏ်၊ ဉနိဗ္ဗန္ဒဉာဏ်ကို ဖြစ်လာပြီးဆိုလျှင် ပုထုဇဉ်သာ ရှိသေးသော်လည်း အရိယာတို့၏ စိတ်ကို ဖြူစင်သွားလို့ အရိယာဖြစ်နေလို့ လိင်အရိယာလို့ ခေါ်တယ်။

ဉနေရာမှာ အရိယာလေးမျိုး ခွဲခြားသိဖို့ လိုတယ်။

(၁) ဝိပဿနာတရား စပြီး အားထုတ်နေတယ် ဆိုလျှင် အာစာရအရိယာလို့ ခေါ်တယ်။

(၂) အားတုတ်လို့ ရုပ်နာမ် ကွဲသွားပြီလား ဆိုလျှင် ဒဿနအရိယာလို့ ခေါ်တယ်။

(၃) သံသရာဝဋ်ဒုက္ခကို ငြီးငွေ့လာသည့် နိဗ္ဗိန္ဒဉာဏ် ဖြစ်လာပြီးဆိုလျှင် လိင်အရိယာလို့ ခေါ်တယ်။

(၄) မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်ဆိုက်၍ သောတာပန် ဖြစ်သွားတော့ ပဋိဝေဓအရိယာလို့ ခေါ်တယ်။

ကိဉ္စိ ဘဝံ နာဘိဝဒိ။ ကိဉ္စိ ဘဝံ၊ ဘယ်လိုချမ်းသာတဲ့ ဘဝမျိုးကိုမှ။ နာဘိဝဒိ၊ လိုချင်ဇောဖြင့် မမက်မောတော့ပြီလို့ ဆိုထားတယ်။

ထို့နောက် သံသရာဘဝတွေကို ရွံ့မုန်းလာပြီး သံသရာမှ လွတ်ချင်တဲ့ မုစ္စိတုကမျတာဉာဏ် ဖြစ်လာတယ်၊ နောက်တော့ ဝိပဿနာတွေ၏ အာရုံတွေကို ထပ်ရှုမှ လွတ်မည်ထင်၍ ထပ်ရှုချင်တဲ့ ပဋိသင်္ခါရတရားတွေဟာ အစဉ်အတိုင်း ပေါ်လာတယ်။

ထို့နောက် သူ့အလိုလို၊ သူ့သဘောအလျောက် ကုန်ကြပျက်ကြတဲ့ သင်္ခါရတရားတွေကို လျစ်လျူရှုတဲ့ သင်္ခါရုပေက္ခာဉာဏ်၊ ရှေ့ဝိပဿနာဉာဏ်စဉ်နှင့် နောက် ဝိပဿနာမဂ်ဉာဏ် ဖိုလ်ဉာဏ်တို့အားလျော်စွာ အနုလောမဉာဏ်တွေ ဖြစ်ပြီး ဂေါတြဘူဉာဏ်က ညွှတ်ပေးလိုက်တော့ မဂ်ဉာဏ်က ကိလေသာတွေကို အကြွင်းမဲ့ သတ်ပြီး နိဗ္ဗာန်ကို မျက်မှောက်ပြု သွားတာပဲ။

အထူးမှတ်သားရန်မှာ ဝိပဿနာဉာဏ် (၁၆)ပါးတွင်

၁။ နာမရူပပရိစ္ဆေဒဉာဏ်၊

၂။ ပစ္စယပရိဂ္ဂဟဉာဏ်၊

၃။ သမ္မသနဉာဏ်၊

၄။ ဥဒယဗ္ဗယဉာဏ်၊

၅။ ဘင်္ဂဉာဏ်၊

၆။ ဘယဉာဏ်၊

၇၊ အာဒီနဝဉာဏ်-တို့ကို တရုဏဝိပဿနာလို့ ခေါ်ကြတယ်။ ၎င်းဉာဏ်ကိုပင် ယထာဘူတဉာဏ်လို့လဲ ခေါ်ရသည်။ ကျန်သော-

၁။ နိဗ္ဗိဒါဉာဏ်၊

၂။ မုစ္စိတုကမျတာဉာဏ်၊

၃။ ပဋိသင်္ခါဉာဏ်၊

၄။ သင်္ခါရုပေက္ခာဉာဏ်၊

၅။ အနုလောမဉာဏ်

၆။ ဂေါတြဘူဉာဏ်၊

၇။ မဂ်ဉာဏ်၊

၈။ ဖိုလ်ဉာဏ်၊

၉။ ပစ္စဝေက္ခဏာဉာဏ်တို့ကို ဗလဝဝိပဿနာလို့ ခေါ်ကြတယ်။

ဝိပဿနာဆိုတာ ရုပ်တရားတွေကို ရှေ့ပြေးအဖြစ်၊ နာမ်တရားတွေက နောက်လိုက်အဖြစ်ဖြင့် ရှေ့သွား နောက်လိုက် အနေပြုလုပ်ပြီး မပြတ် ရှုမှတ်နေတာပဲ ဖြစ်တယ်။

အထူးအားဖြင့် မည်သည့်ဝိပဿနာ ဆရာတော်ကြီး၏ နည်းပင် ဖြစ်စေ၊ သမာဓိရအောင် အရင်လုပ်ရတာချည်းပဲ၊ သတိ ခိုင်လျှင် သမာဓိပိုင်သည်၊ သမာဓိပိုင်လျှင် ဝိပဿနာနိုင်သည်။

ဝိပဿနာပညာ နိုင်နိုင်နင်းနင်း ဖြစ်လာလျှင် ဝိဇ္ဇာအလင်း ဓာတ် ပေါ်လာမည်သာ ဖြစ်သည်။ ပရမတ္ထဓမ္မေ ဒိဋ္ဌေ ပညတ္တိ- နိရောဓော နာမရူပေ ဒိဋ္ဌေ ဒိဋ္ဌိနိရောဓော' ဆိုသည့်အတိုင်း ပရမတ်ပေါ်လျှင် ပညတ်ချုပ်တယ်၊ နာမ်ရုပ်မြင်လျှင် ဒိဋ္ဌိ ချုပ်တယ်၊ အဖြစ်ကို မြင်လျှင် ဥစ္ဆေဒဒိဋ္ဌိ ချုပ်တယ်၊ အပျက် မြင်လျှင် သဿတဒိဋ္ဌိ ချုပ်တယ်။

## ၉။ အနှောင့်အယှက်တရားသုံးပါး

တရားအားထုတ်တဲ့အခါ အနှောင့်အယှက်ဖြစ်တဲ့ တရားတွေကို သတိထားရမယ်၊ ဘယ်တရားတွေလဲ ဆိုလျှင်-

"ငါအားထုတ်နေတာ ဟုတ်မှ ဟုတ်ရဲ့လား၊ စာပေတွေကတော့ ဒီလို ဆိုထားတယ်၊ စာပေကျမ်းဂန်နှင့်ကော ညီရဲ့လား" ဟု တွေးတောခြင်း ဥဒ္ဓစ္စ၊ သို့လော သို့လော ယုံမှားဖြစ်ပြီး ပူပန်တဲ့ နီဝရဏကုက္ကုစ္စ၊ "ငါဟာ ဉာဏ်ရှိသူ၊ ကံရှိသူ၊ ဇွဲလုံ့လရှိသူဖြစ်လျက် အဘယ်ကြောင့် မရရှိဘဲ ရှိရမည်နည်း" ဟု မာန်မာနထားခြင်း၊ ဤတရားတွေဟာ တရားအထင်အမြင် နှောင့်ယှက်စေတဲ့ တရားတွေတဲ့၊ ဒါတွေကို မဖြစ်အောင် သတိထားရမယ်။

ပိဋကတ်သုံးပုံဆောင် မဟာသီဝမထေရ်ကြီးဟာ သူ စာချပေးလို့ တတ်မြောက်သွားတဲ့ တပည့်တွေ သုံးသောင်းတောင်ရှိတယ်၊ ထိုတပည့်တွေဟာ တရားအားထုတ်ကြတော့ အားလုံး ရဟန္တာတွေ ဖြစ်ကြတယ်။ ငါစာချပေးတဲ့ ငါ့တပည့်တွေတောင် အာသဝေါကုန်ခန်း ရဟန္တာတွေ ဖြစ်သေးတာပဲ၊ ငါအားထုတ်ရလျှင် သုံးရက်တည်းနှင့် ရဟန္တာ ဖြစ်စေရမည်ဟု မာန်မာနကြီးထားပြီး အားထုတ်ရာတွင် နှစ်ပေါင်း ၃၀-ကြာသည့်တိုင်အောင် မရဘဲ ဖြစ်နေ၍ ငိုနေတယ်။

ဒီတော့ အနီးရှိ နတ်သမီးက တရားအားထုတ်ကာ ငိုနေရသလား၊ ငိုနေလို့ တရားရမယ်ဆိုလျှင် တပည့်တော်မတို့လဲ နေ့တိုင်း ငိုနေမှာပဲလို့ ပြောင်သလို လှောင်သလို ပြောမှ သတိ တရားကို ရပြီး တရားကို ဆက်လက်အားထုတ်လို့ အာသဝေါ ကုန်ခန်း၍ ရဟန္တာဖြစ်သွားပါတယ်၊ အဲဒီဝတ္ထုမှာ မာနတရားကို မရနိုင်အောင် တားဆီးနေတယ်၊ သတိထားကြ။

တရားအားထုတ်တယ်ဆိုတာ သံသရာကို ချဲ့ထွင်နေတဲ့ တဏှာ မာန ဒိဋ္ဌိတရားတွေကို သတ်ဖို့ပဲ၊ ၎င်းတရားတွေဟာ သံသရာကို ရှည်အောင် ချဲ့ထွင်နေတဲ့ ပပဉ္စတရားလို့ ခေါ်တယ်။

ဒီတရားသုံးပါးဖြစ်လာအောင် ဘယ်သူတွေက လုပ်ပေးနေ သလဲ ဆိုလျှင်-

(၁) အမှန်ကို မသိအောင် ဖုံးလွှမ်းထားတဲ့ အဝိဇ္ဇာ၊

(၂) လမ်းမှန်မဟုတ်သည်ကို စဉ်းစားကြံစည် အားပေး နေတဲ့ အယောနိသော မနသိကာရ၊

(၃) ရုပ်နာမ်တို့ကို အဟုတ်အမှန်အတိုင်း မသိဘဲ ငါဟု ထင်မှတ်နေတဲ့ အသ္မိမာန၊

(၄) ဒုစရိုက်သုံးပါးကို ပြုလုပ်ရန် မရှက်တဲ့ အဟိရိက၊

(၅) ဒုစရိုက်တရားသုံးပါးကို ပြုလုပ်ရန် မကြောက်တဲ့ အနောတ္တပ္ပ၊

(၆) စိတ်မငြိမ်သက် ဟိုရောက်ဒီရောက် ပျံ့လွင့်နေတဲ့ ဥဒ္ဓစ္စ၊

ဤတရား (၆)ပါးက မြှောက်စားပင့်ကော် လုပ်ထားတယ်။

အဲဒီတရားတွေကို နာကြားပြီး ကျွန်တော်လဲ တရှူး ဆက်လက် အားထုတ်နေတာ ၁၅-ရက်လောက် ကြာသွားတယ်၊ ဘာမှတော့ အကြောင်းမထူး၊ တရားထူး မတွေ့သေးဘူး၊ သမာဓိတော့ တစ်ရက်ထက်တစ်ရက် ရင့်သန်ပြီး တရားထိုင် လိုက်တယ်ဆိုလျှင် တစ်ခါတည်း ကမ္မဋ္ဌာန်းအာရုံထဲ စိုက်သွား တာပဲ ရှိတယ်၊ အစကလို ဟိုရောက် ဒီရောက် ကမောက်ကမ တွေတော့ မတွေးနိုင်တော့ဘူး။

မြင်လာတဲ့ အာရုံတွေလဲ မြင်ကာမတ္တမျှနှင့်ပင် ချုပ် သွားတယ်၊ ကြားလာရတဲ့ အာရုံတွေလဲ ကြားကာမတ္တမျှ ချုပ်သွားတာပဲ၊ မြင်တာဟာ မည်သူမည်ဝါ ယောကျ်ား၊ မိန်းမ ရယ်လို့ အမှတ်အသား မရှိတော့ဘူး၊ ကြားလာတဲ့ အသံတွေလဲ မည်သူ့အသံ၊ ယောကျ်ားအသံ၊ မိန်းမအသံရယ်လို့ အမှတ် အသား မထားတော့ဘူး၊ မရှိတော့ဘူး၊ ဒီလောက်ပဲ ရှိသေးတယ်။

၁၅-ရက်လွန်မြောက်၍ ၁၆-ရက်နေ့ ရောက်သောအခါ စကြံလျှောက်ရင်း ကြွတယ်၊ လှမ်းကယ်၊ ချတယ်ဟူသော **အမှတ်က တဖြည်းဖြည်း စိပ်လာပြီး အခြားအာရုံတွေ လုံးဝ မရောက်တော့ဘူး။**

ကမ္မဋ္ဌာန်းအာရုံသာ စိတ်ကစွဲနေတယ်၊ ဒီလို စွဲရင်းနှင့် မိမိခန္ဓာကိုယ်ထဲမှာရှိတဲ့ အူတွေ၊ အသည်းတွေ မြင်ရသလို ဖြစ်လာတယ်၊ ဒါပေမယ့် စိတ်က မလျှော့ဘဲ ဇွဲနဘဲဖြင့် ထပ်ပြီး တော့သာ အမှတ်ကို သတိပြုတယ်၊ သတိပြု အမှတ်ပြု နေတုန်းပင် ဖြုန်းခနဲဆို မတ်တပ်ရပ်ရင်း သတိလစ်ပြီး မေ့သွားသလို ဖြစ်သွားတယ်၊ ခန္ဓာကိုယ်ကြီးလဲ မရှိတော့ဘူး၊ ပျောက်သွားတယ်လို့ ထင်ရတယ်။ လူကလဲ လဲကျ မသွားဘူး၊

အေးငြိမ်းချမ်းသာလိုက်တာလဲ ရှေးက တစ်ခါမှ မဖြစ်ဘူး, မကြုံဘူးတဲ့ ချမ်းသာအထူးကို ခံစားလိုက်ရတယ်။

ငါဟာ တရားထူးတွေ့တာပဲလို့ အထင်စွဲပြီး ၄င်းနေ့ညနေမှာပင် ဝမ်းမြောက်ဝမ်းသာနဲ့ မင်းကွန်းရိပ်သာသို့ လိုက်ပို့ကြတဲ့ အစ်မကြီးတွေကို သတိရ၍ ကျေးဇူးတင်ပြီး ပြောချင်လို့ စောင့်နေတယ်။

သူတို့ကလဲ နေ့စဉ်ပဲ အခြေအနေ ဘယ်လိုနေသလဲဆိုတာ သိချင်လို့ ထောက်လှမ်းနေကြတယ်။ နေ့ရှိသရွေ့ ညနေတိုင်း ညနေတိုင်း ရိပ်သာတစ်နေရာမှာ နေပြီး ကြည့်ကြတယ်၊ ခါတိုင်းတော့ သူတို့ကို မြင်ပေမယ့် တရားအားထုတ်တဲ့ အလုပ်ပျက်မှာစိုးလို့ မခေါ်ဘူး။

သူတို့ကလဲ နှုတ်ဆက်ဖို့တောင် လာမတွေ့ဘူး၊ အဲဒီနေ့ကျတော့ မပြောရရင် မနေနိုင်ဘူး၊ ပြောကို ပြောချင်တယ်၊ ပြီးပြီဟယ်ဆိုလျှင် လှမ်းခေါ်ပြီး မိမိဖြစ်ပျက်ပုံကို အကုန်ပြောပြလိုက်တယ်။

သူတို့လဲ တရားအားထုတ်ထားကဲ့ သူတွေဖြစ်တော့ ဝမ်းသာလို့ မဆုံး တပြုံးပြုံးနဲ့ သဘောကျပြီး ပြန်သွားကြတယ်။

ထို့နောက် တိုက်အုပ်ဆရာတော် ဦးဝါယမိန္ဒထံ သွားပြီး အကျိုးအကြောင်း လျှောက်ထားတယ်၊ ဆရာတော်က တစ်မဂ်တစ်ဖိုလ် ရတယ်လို့များ ထင်မှတ်သွားလို့တာ မသိဘူး။ ဒကာကြီး အပါယ်လမ်းပိတ်သွားပြီလို့ အမိန့်ရှိတယ်။

ဤကား မင်းကွန်းဝိပဿနာတရား အကျဉ်းချုပ်ကို ကိုယ်တွေ့ ဝိပဿနာနှင့် ထုတ်ဖော်ရေးသားလိုက်ခြင်း ဖြစ်ပါသတည်း။

## ၁၀။ မဟာစည်ဆရာတော်ဘုရားကြီး၏ ဝိပဿနာရှုနည်း (စကားပလ္လင်)

ကျွန်ုပ်စာရေးသူသည် မဟာစည်ဆရာတော်ကို ၁၂၉၀-ပြည့်လောက်ကစ၍ သိပါသည်။ ထိုစဉ်က ရွှေဘိုမြို့၊ ပခန်းကျောင်းတိုက်မှာ ကျေးဇူးရှင် သုဓမ္မာဝင် ပခန်းဆရာတော်ဘုရားကြီးနှင့် ကျေးဇူးရှင် ပခန်းတိုက်အုပ် ဆရာတော် နောင်တော် ဦးဉာဏဝံသတို့ထံ စာသင်နေတုန်း ဖြစ်ပါသည်။ အထက်ပါနှစ်တွင် ရွှေဘိုကျောင်း ဆရာကြီး ဦးပြည့်စုံကျောင်းမှာ ပထမကြီးတန်း အတူဖြေရသည့်အတွက် ဆိပ်ခွန်ရွာက ဦးသောဘဏဟု သိပါသည်။

ဦးသောဘဏမှာ အကျင့်သီလနှင့် ပြည့်စုံ၍ ဉာဏ်မှာလဲ အလွန်ထက်သန်သည့် ပုဂ္ဂိုလ်ဖြစ်ကြောင်း နောင်တော်က ပြောပြ၍ သိရပါသည်။

ထို့နောက် ကျွန်ုပ်လည်း သာမဏေဘဝနှင့် ပထမကြီးတန်း ဆက်လက်ဖြေဆိုနိုင်ရန် ရည်သန်၍ မန္တလေးမြို့၊ မစိုးရိမ် ကျောင်းတိုက်သို့ ရောက်သွားပါသည်။ ဦးသောဘဏလည်း မော်လမြိုင်မြို့၊ သထုံမြို့တို့မှာ သီတင်းသုံးနေကြောင်း သိရ ပါသည်။ နှစ်ပေါင်း ၃၀-ကျော်လောက် မတွေ့ရတော့ပါ။

ထို့နောက် ကျွန်ုပ်လည်း ရဟန်း ၁၂-ဝါရတွင် လူဝတ် ကြောင်လဲပြီး နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှာ ဘာသာပြန် အယ်ဒီတာအဖြစ် အမှုထမ်းနေစဉ် ဦးနုနှင့် ဗုဒ္ဓဘာသာအဖွဲ့ ဥက္ကဋ္ဌကြီး ဆာဦးသွင်တို့ သွားရောက် ပင့်လျှောက်ကြသဖြင့် ယခု သာသနာ့ရိပ်သာရောက်မှ ထပ်မံဖူးမြင်ရပြန်ပါသည်။ ဦးနုက မိမိအား တရားအားထုတ်ရန် ပြောဖူးသည်။ စားသောက် နေထိုင်ရေးမှစ၍ အစစအရာရာ အဆင်မပြေသေးသဖြင့် နှောင့်နှေးကြန့်ကြာသွားပါသည်။ ၁၃၂၉-ခုကျမှ ဦးနုက ဦးဓမ္မဇေဘွဲ့အမည်ဖြင့် ရဟန်းပြုနေစဉ် သွားရောက် ဖူးမြင် သောအခါ မိမိအား တရားအားထုတ်ရန် ထပ်မံပြောပြန်ပါသည်။ အားထုတ်ရင်လည်း ဉာဏ်စဉ် နာပြီးသည့်တိုင်အောင် အားထုတ် ပါဟု အမိန့်ရှိပါသည်။

“တပည့်တော် လွန်ခဲ့သော ဆယ်နှစ်လောက်က မင်းကွန်း ဝိပဿနာကျောင်းတိုက်သို့ သွားရောက် အားထုတ်ဖူးကြောင်း” လျှောက်ထားသော်လည်း ကျေနပ်ဟန် မတူပါ။ ဦးတင်မြင့် တရားအားထုတ်ဖို့ ကုန်ကျစရိတ်ကို သူ၏ မဟာစည်ရိပ်သာ ထောက်ပံ့ရေးရန်ပုံငွေမှာ ထုတ်ယူပါလို့လည်း ပြောပါသည်။

ဤသို့ ဝန်ကြီးချုပ်ဘဝနှင့်တစ်ခါ၊ ရဟန်းဘဝနှင့် တစ်ခါ နှစ်ခါ ရှိနေတော့ အားထုတ်ရန် ရည်သန်ပြီး ဇနီးဖြစ်သူ မစိန်လှနှင့် သားကြီးဖြစ်သူ (ယခု ကာကွယ်ရေးဝန်ကြီးဌာန လေတပ်တွင် အရာခံဗိုလ် အဆင့်အတန်းရှိသော လေကြောင်း အချက်ပြ အမှုထမ်းနေသည့်) မောင်စိန်တင်နှင့် ဦးမိုးမြင့် ကျူရှင်ကျောင်းအုပ် (တက္ကသိုလ်မ်ဂ်းယဉ်) သားလတ်တို့နှင့် တိုင်ပင်ကြည့်ရာ “အဖေ အားထုတ်ဖြစ်အောင် အားထုတ်ပါ။ အဖေ့မှာလည်း အစာအိမ်ရောဂါရှိနေတော့ အသက်လည်း ရှည်ချင်မှ ရှည်မည်၊ သေချင်ရင် ရုတ်တရက် သေသွားနိုင် ပါသည်။ သေခါနီး တရားအားမထုတ်လိုက်ရဘူးဟု နောင်တ ရနေမယ်၊ စရိတ်စကကိုလည်း ဦးနုထံ ယူမနေပါနှင့်၊ ကျွန် တော်တို့ မိသားစု စားရေးသောက်ရေး ချွေတာ စုဆောင်းပြီး ထောက်ပံ့ပါမယ်” ဟု ပြောကြသည်။

ဒါနဲ့ အကြောင်းကတော့ ညီညွတ်နေပြီဟု သဘောရကာ တရားအားထုတ်ရန် ဆုံးဖြတ်လိုက်ပါသည်။ ၁၃၂၉-ခုနှစ်၊

တန်ခူးလဆန်း (၄) ရက် (၁-၄-၆၈) နေ့တွင် ကျေးဇူးရှင် မဟာစည် ဆရာတော်ထံသွား၍ (၈)ပါးသီလ ခံယူပြီးလျှင် တိတ်ခွေဖြင့် အသံသွင်းထားသော မဟာစည် ဆရာတော်၏ တရားပြနည်းကို ဖွင့်ပြဟောပြောပါသည်။

တရားပြနည်း အကျဉ်းချုပ်မှာ ထိုင်ပြီး အားထုတ်မယ် ဆိုရင် ယောကျ်ားဆိုရင် တင်ပျဉ်ခွေပြီး ထိုင်ပါ၊ မိန်မဆိုလျှင် မိန်းမထိုင် ထိုင်ပြီး ကိုယ်ကိုမတ်မတ်၊ လက်ကိုတော့ တောင့်တောင့်ထားပြီးလျှင် မျက်စိမှိတ်ကာ ငြိမ်သက်စွာဖြင့် ဝင်သက်က စပြီး ရှုလိုက်ရင် ဗိုက်က ဖောင်းလာလိမ့်မယ်၊ ဖောင်းလာရင် ဖောင်းတယ်လို့မှတ်၊ လေပြန်၍ ယုတ်လိုက်တဲ့အခါ ပိန်လာလိမ့်မယ်၊ ပိန်လာရင် ပိန်လာတယ်လို့ မှတ်၊ ဖါးစပ်က ဆိုဖို့ မလိုဘူး၊ စိတ်ထဲ မှတ်ရုံပဲ။

အဲဒီလို ဖောင်းတယ် ပိန်တယ်လို့ မှတ်ဖန်များတော့ မခံသာလို့ ဝေဒနာလေးတွေ ဖြစ်ပေါ်လာလျှင် သူဖြစ်ပေါ်ရာမှာ အာရုံစူးစိုက်ပြီးတော့ လိုက်မှတ်ရတယ်၊ နာရင် နာတယ်လို့မှတ်၊ အောင့်ရင် အောင့်တယ်လို့မှတ်၊ ညောင်းရင် ညောင်းတယ်လို့ မှတ်၊ ကျင်ရင် ကျင်တယ်လို့မှတ်၊ ကိုက်ခဲရင် ကိုက်ခဲတယ်လို့ မှတ်၊ ညောင်းလို့ မပြင်နဲ့၊ မောရင် မောတယ်လို့မှတ်၊ မောလို့ မရပ်နဲ့ ဖြစ်ပေါ်လာတဲ့ ဝေဒနာလေးတွေကို ဖြစ်တိုင်း ဖြစ်တိုင်း လိုက်၍ ရှုမှတ်နေရပါတယ်၊ ဘာထူးဝေဒနာမပေါ်ရင် အစက

စပြီးမှတ်တဲ့၊ ဖောင်းတယ်၊ ပိန်တယ်၊ ဖောင်းတယ်၊ ပိန်တယ်လို့လဲ ပြန်မှတ် ရမယ်။

သမာဓိရပြီး ဉာဏ်အားပြည့်တဲ့ အခါမှာဆိုရင် ဒီလိုစူးစိုက်ပြီး မှတ်နေရာမှ ကိုယ်ထဲက မခံသာမှု ဝေဒနာလေးတစ်ခု ဖြစ်လာလိုက်ရင် ဒီက သိမှတ်တဲ့ စိတ်ကလေးတစ်ခုက ဖြစ်လိုက်ရင်း၊ ဟိုက မခံသာမှု ဝေဒနာလေးတစ်ခု ဖြစ်လာလိုက်ရင်း ဒီက သိမှတ်တဲ့ စိတ်ကလေးတစ်ခုက ဖြစ်လိုက်ရင်းနှင့် ဖြစ်တိုင်း ဖြစ်တိုင်း အခံရခက်တာလေးတွေကို တစ်ပိုင်းစီ တစ်ပိုင်းစီ ပိုင်းခြားပြီးတော့ သိနေတယ်။

ဝေဒနာလေးတွေသာ မဟုတ်ဘူး၊ မှတ်နေတဲ့အသိဉာဏ်ကလေးတွေကလဲ မှတ်သိပြီးရင် ပျောက်သွားရင်း မှတ်သိပြီးရင်း ပျောက်ပျက်ရင်း ခဏမဆဲ တသဲသဲ ဖြစ်ပျက်ပြီးနေတော့ မမြဲပုံတွေဟာ ထင်ရှားပါတယ်။

ဝေဒနာသာ မဟုတ်သေးဘူး၊ ဝေဒနာမှတပါး မြင်တာတွေ ကြားတာတွေ၊ နံတာတွေ၊ စားတာတွေ၊ ထိတာတွေ၊ သိတာတွေ ဖြစ်တဲ့ ဒွါရခြောက်ပါးမှ ကျလာသမျှ အာရုံတွေကိုလဲ သူတို့ကျလာတိုင်း ကျလာတိုင်း ရှုမှတ်ပြီးတော့ သိနေရတယ်၊ အာရုံက ကျလိုက်ရင်လဲ အဲဒါ ရှုမှတ်ပြီး သိလိုက်ရင်းနဲ့ တဖန် ပျောက်သွားပြန်တယ်၊ ပျောက်သွားတော့ တခြားအာရုံတွေ ပေါ်လာပြန်တယ်၊ ပေါ်လာတဲ့အာရုံတွေ လိုက်မှတ်နေရတယ်။

အဲဒီလို မပြတ်မစဲ တသဲသဲရှုမှတ်ပြီး ဝိညာဉ်က တသိထဲသိနေရတယ်၊ ရုပ်ပဲဖြစ်ဖြစ် ဝေဒနာသညာ သင်္ခါရတို့ပဲ ဖြစ်ဖြစ် ဖြစ်တိုင်း ဖြစ်တိုင်းကို မမေ့မပျောက်၊ အလွတ်မရှိဘဲ အကုန်လုံး အမှတ်ကပ်ပြီး သိနေရတယ် စသည်ဖြင့် ဟောပြောပြသပါတယ်။

* * * * *

## ၁၁။ တရားအစစ်ခံပုံ

တရားအားထုတ်၍ ဖြစ်ပေါ်လာပုံကို ဖော်ပြပါမည်။ ထိုအခါက ရဟန်းတော်များနှင့် လူယောကျ်ားများအား တရားစစ်တဲ့ ကမ္မဋ္ဌာနာစရိယ ဆရာတော်မှာ ဆရာတော် အရှင်ပဏ္ဍိတ ဖြစ်သည်။ ဆရာတော် အရှင်ပဏ္ဍိတသည် ပိဋကတ်ကျမ်းဂန်နှင့် ဂန္ထန္တရ အဝဝတို့တွင် ကျွမ်းကျင်၍ အကျင့်သိက္ခာ အနေအထိုင် ကျစ်လျစ်သိပ်သည်း သပ်ရပ်ပြီး အလွန်ကြည်ညို ချင်စဖွယ် တင့်တယ်သော ပုဂ္ဂိုလ်ထူးတစ်ပါး ဖြစ်ပါသည်။

တရားအားထုတ်၍ ၃-ရက်၊ ၄-ရက်လောက် ရှိလျှင် ဆရာတော် အရှင်ပဏ္ဍိတထံ တရားထိုင်နေသော ပုဂ္ဂိုလ်များ တရားအစစ်ခံကြရသည်။ ကျွန်ုပ်လည်း ဆရာတော်ထံ ရောက်သောအခါ 'တစ်နေ့ဘယ်နှစ်ကြိမ် တရားထိုင်သလဲ၊ စင်္ကြံကော ဘယ်နှစ်ခါ လျှောက်သလဲ' ဟု မေးပါ၏။

'တပည့်တော် တရားထိုင်သည်မှ စ၍ ယနေ့တိုင်အောင် တစ်နေ့လျှင် ခြောက်ကြိမ် တရားထိုင်၍ ခြောက်ကြိမ် စကြံ့ လျှောက်ပါသည်' ဟု လျှောက်သည်။

'ယခု တရားထိုင်သည့်အခါ မိမိခန္ဓာကိုယ်နှင့် မှတ်သိစိတ် တခြားစီထင်ပါကြောင်း၊ အမှတ် မပျက်တာလဲ များပါသည်' ဟု လျှောက်သည်။

တစ်ကြိမ်ထိုင် တစ်ကြိမ် စင်္ကြံလျှောက် တစ်နာရီလောက် ကြာပါသည်။ 'ဒကာကြီးဖြစ်ပုံမှာ တရားသား ပါပါတယ်၊ အမှတ်မပြတ်အောင် ကြိုးစားပါ ' ဟု အမိန့်ရှိပါသည်။

ထို့နောက် သုံးရက်လောက်ရှိလျှင် တစ်ခါသွားအစစ်ခံရ ပြန်ပါသည်။ 'တပည့်တော် တရားမှတ်ရင်း မှတ်ရင်းနဲ့ မျက်စိ ဖွင့်ပြီး ကြည့်လိုက်တဲ့အခါ လက်မောင်းသားတွေ ကြည့်လိုက်ရင် ရိပ်ရိပ် ရိပ်ရိပ်နဲ့ လှိုင်းတပိုး ထ, သလို မြင်ရသည်။ အုတ်နရံကို ကြည့်လိုက်ပြန်ရင်လဲ လေတိုက်လို့လှုပ်သလို တရိပ်ရိပ်နဲ့ တွေ့နေ ရသည်။ လူသံ ငှက်သံတွေ ကြားပြန်ရင်လဲ အသံလောက်သာ အာရုံရောက်ပြီး မိန်းမပဲ၊ ယောကျ်ားပဲ၊ ရေကြက်သံပဲ၊ ဘုတ် သံပဲဟု အာရုံမစွဲဘဲ ကြားသည့်အာရုံသာ ရောက်ပါသည်'ဟု လျှောက် ထားသည်။

ဆရာတော်က 'တရားအတော်တက်နေပြီ၊ ဆက်ပြီးကြိုး စားပါ၊ နောက်ကျ ဒီလို အဘယ်ကြောင့်ဖြစ်လာတယ်ဆိုတာ ရှင်း လင်းပြမယ်' လို့ အမိန့်ရှိပါသည်။

တရားအားထုတ်၍ (၁၀) ရက်လောက် ရောက်လာသော အခါ "တပည့်တော် မျက်စိကြည့်ရတာ ခါတိုင်းထက် ပို၍ ကြည်လင်သည်။ တရားထိုင်၍ ပြီးခါနီး တစ်နာရီနီးနီးလောက်မှာ တစ်ကိုယ်လုံးစိမ့်၍ တဖိန့်ဖိန့်နဲ့ ချမ်းလာနေပါသည်၊ ရေငတ်တဲ့ အခါ ရေသောက်ရသလို၊ နေပူထဲမှာ အပူခံနေရာမှ နေရိပ်သို့ ရောက်၍ ခိုလှုံရသလို ဖြစ်နေပါသည်၊ နောက်ဆုံး အလွန်တရာ နှစ်သက်စရာ လိုချင်စရာကောင်းတဲ့ ပုဂ္ဂိုလ်၊ သတ္တဝါ၊ အရာဝတ္ထု တွေတောင် အလကားပဲ၊ ဘာမှ နှစ်သက်စရာ မဟုတ်ဘူး၊ ခင်မင် စရာမဟုတ်ဘူး လိုချင်စရာ မဟုတ်ဘူး၊ ဖြစ်ပြီး ပျက်စီးနေတဲ့ အရာဝတ္ထုတွေပဲ၊ ချောတာ လှတာဆိုတာလဲ မိမိတို့က ထင်နေ တာပဲ၊ အမှန်စင်စစ်တော့ ချောတာ လှတာဘာမှ မရှိပါဘူးဟု ထင်နေပါသည်၊ ဘုရား" ဟု လျှောက်ထားသည်။

ဆရာတော်က "အမှတ် ကျဲနေသေးတယ်၊ ဒါထက်ကဲပြီး အမှတ်မကျဲရအောင် ကြိုးစားပါ၊ ဒါပေမယ့် တစ်နေ့ထက်တစ် နေ့တော့ တရားတက်လာတယ်၊ ပုဂ္ဂိုလ်၊ သတ္တဝါ၊ အရာဝတ္ထု တွေဟာ ပညတ်ပဲ၊ ပညတ်ပေါ်လျှင် ပရမတ်ငုပ်တယ်၊ ဖြစ်ပျက် နေတဲ့ တရားသဘောလေးတွေ အပေါ်မှာသာ အာရုံက စိုက် ရမယ်" ဟုပြောပါသည်။

ထို့နောက်(၁၅)ရက်လောက် ရောက်တဲ့အခါ "တရားထိုင် နေစဉ်တွင် အကြိမ်(၂၀) လောက် မိမိရှေ့မှောက်မှာ ဝင်းခနဲ့ လက်ခနဲ့နှင့် အရောင်တွေရပါသည်။ မိမိခန္ဓာကိုယ်ကြီးမှာလည်း

တည်ရာမရှိတဲ့ ကောင်းကင်ပြာမှာ ထိုင်နေရသလို ငြိမ့်ခနဲ ငြိမ့်ခနဲနှင့် နေပါသည်။ တရားအားထုတ်ရတာလဲ ပျင်းရိခြင်း၊ ထိုင်းမှိုင်းခြင်း မရှိဘဲ အလွန်အရသာ ရှိသလို ဖြစ်နေပါသည် ဘုရား" ဟု လျှောက်ထားသည်။

ဒီတော့ ဆရာတော်က "ဆက်ကြိုးစားပါ၊ အမှတ်စိပ်နိုင်သမျှ စိပ်ပါစေ၊ အခြားအာရုံတွေ မဝင်ပါစေနဲ့၊ တစ်နေ့ထက်တစ်နေ့ တရားတိုးတက်ပါသည်။ ဒီလို ဖြစ်တာဟာ တရားအားထုတ်သည့် ယောဂီတိုင်း ဖြစ်တတ်ပါသည်။ အရောင်အလင်းကလဲ တစ်ခန်းလုံး လင်းတာလား၊ ကွက်ပြီး လင်းသလား"ဟု မေးပါသည်။ "ခဏ လင်းတာလား၊ ကြာရှည် လင်းတာလား" ဟု မေးပါသည်။

"တစ်ခန်းလုံး မလင်းပါ။ ရှေ့တွင်သာ လင်းပါသည်၊ ခဏလင်းပါသည်။ ကြာရှည်မလင်းပါ၊ လျှပ်ပြက်သလို လင်းတာပါဘုရား" ဟု လျှောက်ထားလိုက်သည်။

တရားထိုင်၍ (၁၆)ရက်လောက်အမြောက် နေ့လယ်အောက်တွင် အစာအိမ်ရောဂါ ဖြစ်ပေါ်လာ၍ ဗိုက်နာသဖြင့် ဆရာတော်ထံ ခွင့်ပန်ပြီး အိမ်သို့ ခဏပြန်၍ မြင်းကွင်းဆေးရုံမှာ ဆေးထိုးရပါသည်။ နောက်နောက်က တစ်ခါတစ်ခါ ဗိုက်နာရင် (၃)ရက်လောက် အနည်းဆုံး ခံရပါသည်။ ဆေးလဲ သုံးခါလောက် ထိုးမှ သက်သာတတ်ပါသည်။ ယခုတော့ တရားအားထုတ်နေလို့ လားမသိ၊ တစ်ရက်လောက် အနားယူပြီး တစ်ခါဆေးထိုးတာနဲ့ ပျောက်သွားပါသည်။

နောက်တစ်နေ့ ရိပ်သာပြန်ရောက်၍ ဆက်ပြီး တရားထိုင်ပါသည်။ ၎င်းနေ့ပင် ဆရာတော် ဦးပဏ္ဍိတထံ တရားအစစ်ခံရပါသည်။ "တပည့်တော် ပြန်ပြီး တရားထိုင်တော့ လူတစ်ယောက် မိမိရှေ့၌ ချက်ချင်း အနာရ၍ ချက်ချင်း အကြောဆွဲပြီး ချက်ချင်း သေသွားသည်ကို မြင်ရပါသည်ဘုရား" ဟု လျှောက်ထားရာ 'အိမ်တစ်ရက် သွားသော်လည်း တရားရှုမှတ်မှု ပျက်ပုံမပေါ်ပါ'ဟု အမိန့်ရှိပါသည်။

ထို့နောက် တရားထိုင်ပြီး၍ ရက် နှစ်ဆယ်လောက် အမြောက်တွင် တရားထိုင်ရာမှ ခဏာသာ ပိန်ဖောင်းမှတ်ရသည်။ တော်တော်ကြာ ငြိမ်ကျသွားကာ ကောင်းကင်မှာ ထိုင်နေရသလို အထိအတွေ့ မရှိတော့သလိုလို အလွန်ချမ်းသာပြီး နေပါသည်။ နောက်နောက်က ၁-နာရီလောက် ထိုင်နိုင်သော်လည်း ယခု ၃-နာရီလောက် ထိုင်တာတောင်မှ မညောင်းတော့ပါဘူး၊ ထလိုက်တဲ့ အခါ ရုတ်တရက် မထနိုင်သလို ဖြစ်ပြီး လှုပ်ရှားလို့မရသလို ဖြစ်နေပါသည်။ လက်ခြေကို မနည်းလှုပ်ပြီး ထရပါသည်။

ထပြီး စဉ်းစားမိသည်မှာ ပုဂ္ဂိုလ်၊ သတ္တဝါ၊ အရာဝတ္ထုတွေဟာ ပျက်လိုက် ဖြစ်လိုက်၊ ပျက်လိုက်ဖြစ်လိုက်နဲ့ သူ့သဘောသူဆောင်နေကြတာချည်းပဲဟု ထင်နေကြောင်း လျှောက်သည့်အခါ 'အဲဒါဟာ ဓမ္မာနုပဿနာသဘောပဲ၊ ဒီစခန်းရောက်ရင် အလွန်တရားအားထုတ်ရသည်' ဟု အမိန့်ရှိပါသည်။

နောက် ၁၅-ရက်လောက် ကြာတော့ 'အစစ်ခံဖို့ရာ ဘာမျှ အထူးမရှိပါဘူး ဘုရား'၊ ဒါပေမယ့် အထူး လျှောက်ထားလို သည်မှာ တပည့်တော်သည် ဘုရားဆုပန်ထားသူ ဖြစ်ပါသည်။ သံသရာကြီး ကြောက်ကြောက်လာတော့ သံသရာထဲ မနေချင် တဲ့စိတ်တွေ ခဏခဏ ဖြစ်နေတယ်ဘုရား၊ လောကမှာလဲ ထက်တန်းကျတယ်ဆိုတဲ့ လူမင်း၊ နတ်မင်း၊ ဗြဟ္မာမင်းတို့၏ စည်းစိမ်လဲ အလကားပဲလို့ ထင်တယ်၊ ဘာမှ အနှစ်သာရ ရှာမတွေ့အောင် ဖြစ်နေတယ်။

"တပည့်တော် ဉာဏအလွန်ကောင်းတယ်ဘုရား၊ ငယ်ငယ် တုန်းက အဘိဓာန်တို့၊ အလင်္ကာတို့၊ ဗေဒစိန္တာတို့ ကျက်သော အခါ မနားဘဲ ကြိုးစားကျက်မယ်ဆိုရင် တစ်နေ့ ဂါထာ ၅၀- လောက် ရတယ်ဘုရား၊ ယခု တရားအားထုတ်တာလဲ ၇- ရက်လောက်နဲ့ ဉာဏ်စဉ်ပေါက်ပြီး ဉာဏ်စဉ် နာရလိမ့်မယ်လို့ ထင်ခဲ့တယ်၊ ယခုရက်အစိတ်လောက် ရတာတောင် ဉာဏ်စဉ် မနာရတော့ ဘယ်လိုဖြစ်နေတာလဲ မသိဘူး" ဟု လျှောက်တယ်။

ဒီတော့ ဆရာတော်က 'ဒကာကြီး ဘုရားဆုတောင်း ပေမယ့် တရား အားထုတ်ကောင်းပါတယ်၊ တရားအား တခြား တရားတိုးတက်နေတာကို တွေ့ရတယ်၊ ဒီတရားတွေထဲမှာ ဗောဇ္ဈင် ၇-ပါးလဲ ပါတယ်နော်၊ တရားမှန် လမ်းမှန် မြင်လာရင် ဓမ္မဝိစယသမ္ဗောဇ္ဈင်ပဲ' စသည်ဖြင့် ဗောဇ္ဈင် ၇-ပါး ဖြစ်ပွားပုံကို အမိန့်ရှိတော်မူတယ်။

တရားအားထုတ်ရင် ငြိမ်သက်နေတာကတော့ ဥပေက္ခာသမ္မောဇ္ဈင်ဖြစ်နေတာပဲ၊ မဂ္ဂင် ၈-ပါးလည်း ပါတာပဲ၊ မဂ္ဂင်ရှစ်ပါး ပါလို့ ဉာဏ်စဉ်တက်ပြီး မဂ်ဉာဏ် ဖိုလ်ဉာဏ် နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်တာပေါ့' ဟု အမိန့်ရှိပါသည်။

မိမိက ဉာဏ်စဉ် အနာခိုင်းလိမ့်မည်ဟု မျှော်လင့်ပြီး လျှောက်သော်လည်း ဉာဏ်စဉ်နာဖို့အကြောင်းနဲ့ ပတ်သက်ပြီး ဘာမှ မပြောပါ။

နောက်တစ်နေ့ တပည့်တော် တရားဆက်ပြီး အားထုတ်သော်လည်း ဘာမှ အထူးမပေါ်ပါဘူး ဘုရား၊ အားထုတ်ရတာ ချမ်းသာတာလဲ မဟုတ်၊ ဆင်းရဲတယ်လဲ မဟုတ်၊ ငြိမ်သက်တည်ကြည်ပြီး တရားထဲ အာရုံစိုက်သွားတာပဲ ရှိတယ် ဘုရား၊ တရားဟာလဲ ရပ်တန့်ပြီး နေတယ်လို့ ထင်တယ်။

'မရပ်တန့်ပါဘူး၊ ဥပေက္ခာဖြစ်နေလို့ ရပ်တန့်တယ် ထင်နေတာပါ' ဟု အမိန့်ရှိသည်။

ဆရာတော်က သဘောကျ၍ ပြုံးနေသည်။

'ပြီးတော့ တပည့်တော် တစ်ခုလျှောက်ထားချင်သေးတယ် ဘုရား၊ ဘုန်းကြီးတွေလဲ စာသင်လို့ ပြီးရင် တစ်ခါတည်း ဆက်ပြီး စာမချစေချင်သေးဘူး။ တရားအားထုတ်ပြီးမှ စာချစေချင်တယ်၊ အဘယ်ကြောင့်ဆိုသော် စာသင်လို့ တတ်တာက စာသိပဲဖြစ်တယ်ဘုရား၊ ကိုယ်တွေ့ အသိမဟုတ်သေးဘူး၊ တရားအားထုတ်မှ ကိုယ်တွေ့သိပြီး သဘာဝပိုကျမယ် ' ဟု လျှောက်ထားရာ 'ဒကာကြီး ပြောတာမှန်တယ်၊ စာတတ်ပြီး တရား

အားမထုတ်ရင် ဂါဟက် ကိုယ်တတ်တယ်ဆိုတာ ဒါမျိုးပဲ' ဟု အမိန့်ရှိပါသည်။

'မနေ့က တရားအားထုတ်ရတာ ဘုရား တစ်မျိုးကြီးပဲ၊ အားထုတ်နေစဉ် ဆတ်ခနဲ ဆတ်ခနဲ မေ့မေ့သွားပါတယ်၊ တစ်ကြိမ်မှာ အတော်ကြာအောင် မေ့သည်ဟု ထင်ပါသည်။ မေ့နေစဉ် အလွန်မြင့်သော တောင်ကြီးပေါ်မှ ရဟန်း သံဃာတော်များ ယပ်တောင်ကိုယ်စီနှင့် စီတန်းကြွလာသည်ကို တွေ့မြင်ရပါသည်ဟု လျှောက်ထားသည်။

ဆရာတော်က သဘာဝလက္ခဏာ၊ သခ်တလက္ခဏာ၊ သာမညလက္ခဏာ အကြောင်းတို့ကို ဟောပြောသည်။ ပြီးတော့ နာမရူပပရိစ္ဆေဒဉာဏ်နှင့် ပစ္စယပရိဂ္ဂဟဉာဏ် နှစ်ပါးသည် ဝိပဿနာဉာဏ် မဟုတ်ပေ၊ သမ္မသနဉာဏ်ကျမှ ဝိပဿနာ ဉာဏ်လို့ ခေါ်ရကြောင်း ထပ်မံဟောပြောသည်။

'ယနေ့ တရားအားထုတ်ရတာကတော့ အရင်ကလို ငြိမ်သက်မနေဘဲ ရွခနဲ၊ ပွခနဲ၊ စစ်ခနဲ၊ စူးခနဲ ခဏခဏ ပေါ်ပေါ် နေပါတယ်၊ မနည်းကြိုးစားပြီး မှတ်နေရပါတယ်၊ လူလဲ တုန်လှုပ်တယ်၊ အရာဝတ္ထုတို့ကို ကိုင်တိုင်းကိုင်းတိုင်းလဲ တုန် လှုပ်တယ်၊ ရပ်လို့လဲ ကြာကြာမနေနိုင်ဘူး၊ ယိုင်လဲ မတတ်ဖြစ် နေတယ် ဘုရား'

ဆရာတော်က 'တရားဆုတ်သွားတယ်လို့ ထင်သလား' ဟု မေး၏။ 'မပြောတတ်ပါဘူး ဘုရား၊ တရားမဆုတ်ပါဘူး၊ တိုးတက် နေတာပါ" ဟု လျှောက်ရာ 'ယခုလိုဖြစ်တာ တရားသဘောပဲ ဆက်သာ အားထုတ်ပါ'ဟု တိုက်တွန်းသည်။

တရားအားထုတ်၍ တစ်လမျှ ရသောအခါ 'စပြီး ထိုင်လို့ ၁၅-မိနစ်လောက် ကြာသောအခါတွင် မိမိ၏ ရုပ်ပုံပန်းသဏ္ဍာန် ရော စိတ်ရော ပျောက်သွားသည်ဟု ထင်ပါသည်။ စင်္ကြံ လျှောက်တဲ့အခါလဲ ကြွတယ်၊ လှမ်းတယ်၊ ချတယ်လို့ မှတ်ရတာ အမှတ်ကျဲသည်ဟု ထင်ပါသည်ဘုရား'ဟု လျှောက်ထားရာ---

'ဒါဖြင့် နောက်ကို ကြွတယ်၊ ဆွဲတယ်၊ ဆောင်တယ်၊ လှမ်းတယ်၊ ချတယ်၊ မိတယ်လို့ တစ်ခါလှမ်းလျှင် ခြောက်မှတ် ထိအောင် မှတ်နိုင်ကြောင်း' အမိန့်ရှိသည်။

နောက်တစ်နေ့၌ 'မနေ့က စင်္ကြံလျှောက်ရတာ အလွန် ထိထိရှရှ မိမိရရ တိတိကျကျ ဖြစ်ပါသည်ဘုရား၊ နာရီဝက် လောက် လျှောက်မိတော့ စိမ့်ခနဲ၊ ဖိန့်ခနဲ၊ အိမ့်ခနဲ ပီတိတွေ ဖြစ်ပြီး၊ မီးပုံးပျံ မှိုင်းပြည့်ခါနီး အထက်ဆွဲသလို မတ်တတ် ရပ်ရင်း တစ်ကိုယ်လုံး အထက် ဆွဲဆောင်သကဲ့သို့ ဖြစ်ပါတယ်၊ နောက်နောက်က တရားထိုင်ရင်သာ ပီတိပဿဒ္ဓိ ဖြစ်ပါတယ်၊ ယခုတော့ စင်္ကြံလျှောက်တဲ့အခါလဲ ပီတိပဿဒ္ဓိ ဖြစ်လာတယ် ဘုရား၊ ယခုလို တရားအရသာ တွေ့နေတော့ ညောင်းမှာ၊ ပင်ပန်းမှာလဲ မကြောက်တော့ဘူး၊ နိဗ္ဗာန်လဲ အခုမှ တကယ် လိုချင် အမှန်လိုချင်လာတယ် ဘုရား' ဟု လျှောက်ထားရာ---

'လိုချင်လာမှာပေါ့ ဒကာကြီး၊ သခ်ါရဒုက္ခကို တွေ့နေတော့ လိုချင်လာတာပဲ' အမိန့်ရှိသည်။

တပည့်တော် တရားကို စိတ်ရှိသလောက် အားမထုတ် နိုင်တော့ဘူးလို့ ထင်နေတာ အခုတော့ အစာအိမ် ရောဂါကလဲ

သက်သာသွားတော့ ယခုလို အားထုတ်နိုင်သေးတာဟာ သိပ်ဝမ်းသာတယ် ဘုရား၊ ယခုဘဝ တစ်မဂ် တစ်ဖိုလ် မရသေးတောင် အောက်ပါ အကျိုးကျေးဇူးများတော့ အားထုတ်သူတိုင်း ခံစားရလိမ့်မည်ဟု ယုံကြည်ပါတယ်ဘုရား။

(၁) ငါးပါးသီလကို တမင်တည်ဆောက် ကျင့်သုံးနေစရာ မလိုတော့ဘဲ အလိုလို စင်ကြယ်နေခြင်း၊

(၂) ဒါန၊ သီလ၊ ဘာဝနာ သုံးပါးလုံး ပြည့်စုံ၍ အလိုလို စိတ်ချမ်းသာပြီး နေထိုင်လို့ ကောင်းခြင်း၊

(၃) အရင်ကလို မိရိုးဖလာ ရတနာသုံးပါး ကိုးကွယ်ခြင်း မျိုး မဟုတ်တော့ဘဲ တကယ်ယုံကြည်သော ပုဂ္ဂိုလ် အမြင့်ဆုံး ရောက်ရခြင်း၊

(၄) တကယ် အားထုတ်ပါလျှင် လောကုတ္တရာ မဂ်သို့ ရောက်နိုင်ခြင်း၊ မရောက်သေးလျှင် ဝိပဿနာမဂ် ပုဗ္ဗဘာဂ မဂ်တော့ ရောက်နိုင်ခြင်း၊

(၅) မဂ်အခြေ ဖိုလ်အခြေ အထုံပါရမီ ကုသိုလ်မျိုးစေ့များ ဘဝဆက်တိုင်း ပါသွားနိုင်ခြင်း၊

(၆) စာပေတတ်ကျွမ်းပါလျှင် စာသိ၊ သင်သိ မဟုတ်တော့ဘဲ မြင်သိ၊ ကိုယ်တွေ့သိ ဖြစ်နိုင်ခြင်း၊

(၇) သီလစောင့်သည့်အခါမှာ ထမင်းဆာခြင်းကိစ္စ စသည်ကြောင့် ဝန်မလေးတော့ဘဲ လွယ်ကူစွာ ဥပုသ်သီတင်း သီလစောင့်နိုင်ခြင်း၊

(၈) နောက်နောင်ကလို သေရမည့် ဘေးကို တွေး မကြောက်တော့ဘဲ အကြောက်နည်းပါးသွားခြင်း၊

(၉) မတရားသော အမမှုရာဂ၊ ဝိသမလောဘ မဖြစ် တော့ဘဲ တရားသဖြင့်သာ ပစ္စည်းဥစ္စာရှာလိုခြင်း၊

(၁၀) သေခါနီးမှာ စိတ်ထားတစ်သဖြင့် သေလျှင် အပါယ်သို့ မကျရတော့ဘဲ များသောအားဖြင့် သုဂတိလားရခြင်း စသော အကျိုးတရားတွေတော့ မုချခံစားရမှာပဲ ဘုရားလို့ လျှောက်ထားတယ်၊ ဒီတော့ ဆရာတော်က သဘောကျသော လက္ခဏာဖြင့် လက်ခံကာ "သဒ္ဓါတရားတွေ ဖြစ် လာတာကိုး" ဟု အမိန့်ရှိကာ အောက်ပါအတိုင်း သဒ္ဓါလေးမျိုးကို ဟောပြပါသည်။

(၁) သာမန် မိရိုးဖလာ ယုံကြည်တာကတော့ ပသာဒ သဒ္ဓါလို့ ခေါ်တယ်။

(၂) ရတနာသုံးပါး၏ဂုဏ်ကို တကယ်ယုံကြည် တကယ် သက်ဝင်ပြီး ကြည်ညိုတာကတော့ ဩကပ္ပန သဒ္ဓါလို့ ခေါ်တယ်။

(၃) အရိယာများသာ ဖြစ်ပေါ်သည့် မတုန်လှုပ်သော ယုံကြည်ခြင်းမျိုးကတော့ အဓိဂမသဒ္ဓါလို့ ခေါ် တယ်။

(၄) ဘုရားလောင်းများသာ ဖြစ်ပေါ်လာသော သဒ္ဒါမျိုးကတော့ အာဂမသဒ္ဒါလို့ ခေါ်တယ်ဟု အမိန့်ရှိပါသည်။

နှစ်လပြည့်သော ဉာဏ်စဉ်နာရသည့်နေ့မှာ ကြွေငါးပါး ညီမျှအောင် အမိဋ္ဌာန်ပြီး တရားအားထုတ်ရာ ကောင်းကင်မှာ ထိုင်ရသကဲ့သို့ အထိအတွေ့ မရှိတော့ဘဲ ဖြစ်နေရာမှ နာရီဝက်လောက်ရှိသည်ဟု ထင်ရာ ၅-နာရီခွဲမှ ၇-နာရီထိ ရှိသွားသည်ကို မသိလိုက်ကြောင်း လျှောက်ထားပါသည်။ လူ့ကိုယ်ကြီးလဲ သတိလစ်ပြီး ပြောင်းသွားသည်ဟု ထင်ပါကြောင်း လျှောက်ထားရာ ဆရာတော်ကြီးက ဒကာကြီး သမာဓိအားကောင်းလို့ ဖြစ်ပါသည်။ အတော် အားရလောက်အောင် တရားတက်နေပြီဖြစ်၍ ယနေ့ည ဆရာတော်ကြီးထံ ဉာဏ်စဉ် မေးမြန်း သွားဖို့ ညွှန်ကြားလိုက်ပါသည်။

* * * * *

## ၁၂။ မဟာစည်ဆရာတော်၏
## သစ္စာလေးပါးတရား

ယောဂီပုဂ္ဂိုလ်များ တရားသံဝေဂ ရကြစေရန်နှင့် တရားအားထုတ်တဲ့အခါ စိတ်ထားစိတ်နေ ထားတတ်ကြရန် ရည်သန်၍ ကျေးဇူးရှင် မဟာစည်ဆရာတော်ဘုရား မကျန်းမာ၍ ဆေးရုံတက်ရာမှ ဆင်းလာခါစ ဟောကြားတော်မူသော သံဝေဂတရားတစ်ပုဒ်ကို ထုတ်နုတ်၍ အကျဉ်းချုပ် ဖော်ပြပါမည်။

ယခု ဆရာတော် ရန်ကုန်ကနေပြီး ဇာတိရပ်ရွာ ရွှေဘိုမြို့မှာရှိတဲ့ ဒါယကာ ဒါယိကာမများ၊ ဆိပ်ခွန်ရွာမှာ ရှိကြတဲ့ ဒါယကာ ဒါယိကာမများ၊ ရဟန်းတော်များကို ဩဝါဒမိန့်ခွန်း ပြောကြားလိုက်ရမယ်။ ဘုန်းကြီးမှာ အဖျားရောဂါနဲ့ ကျန်းမာရေး မျှတ်ယွင်းတဲ့အတွက် ရန်ကုန်ဆေးရုံကြီးမှာ တက်ရောက်၍ ဆေးဝါးကုသပြီး နေရစဉ် အခါတုန်းက စိတ်ထဲမှာ ရပ်ရွာက ဒါယကာ ဒါယိကာမတွေကို အောက်မေ့သတိရတယ်၊ သတိရပြီး တရားသဘောသဲ ဆင်ခြင်စဉ်းစားမိလို့ အဲဒီအခါက ဖြစ်ခဲ့တဲ့ အကြောင်းအရာ ကလေးတွေကို ယခုပြန်ပြောမယ်လို့ပါပဲ။

ဘယ်လို ဖြစ်ခဲ့သလဲဆိုရင် မကျန်းမမာ ဖြစ်နေရာက တော်တော်နေထိုင်ကောင်းလို့ ကျန်းမာရေး ရလာတဲ့အခါ စိတ်ကူးတိုင်း စိတ်ကူးတိုင်း ဉာဏ်ကလေးတွေ ပွင့်လင်းလာတယ်။ အင်မတန် ကောင်းပြီး နှလုံးသွင်းတိုင်း သွင်းတိုင်း တရားတွေက ပေါ်ပေါ်လာတယ်၊ ရုပ်ရှာရှိ ဒါယကာ ဒါယိကာမတွေကို တရားဟောလိုတဲ့ စိတ်တွေ အများကြီး ဖြစ်ခဲ့တယ်။ ကျန်းမာရေး ပြည့်စုံပြီး တော်တော်နေထိုင် ကောင်းပေမယ့်လို့ ညဉ့်အခါ အိပ်လို့ကတော့ ကောင်းကောင်းမပျော်ဘူး။

အိပ်ပျော်စေတတ်တဲ့ ဆေးဝါးများကို စားသောက်မှီဝဲပေးမှ တစ်ညမှာ တစ်နာရီလောက် တစ်ခါတလေ နှစ်နာရီလောက် အိပ်လို့ရတယ်၊ အိပ်မပျော်ဘဲ နိုးနေတဲ့အခါများမှာ မော်တော်ကားသံတွေ၊ ရထားသံတွေ ဆူဆူညံညံ အသံတွေဟာ မပြတ်လိုလို ကြားနေရတယ်၊ ကြားတိုင်းကြားတိုင်း စိတ်ထဲမှာ သစ္စာလေးပါး တရားတွေ ပေါ်ပေါ်လာတယ်။ အခု သွားလာနေကြတဲ့ လူတွေဟာ မိမိတို့ရဲ့ ချမ်းသာရာ ချမ်းသာကြောင်း ရှာကြံလုပ်ကိုင်နေကြတဲ့ လူတွေပဲ၊ ဒီလူတွေဟာ မိမိရဲ့ ခန္ဓာကိုယ်ကို အမျိုးမျိုး မွေးမြူပြုစုပြီး နေကြတာပဲ။ လောကကြီးရဲ့ အထင်အမြင်နဲ့ ကြ[illegible]ယ်ဆိုရင်တော့ ချမ်းသာတွေပဲလို့ ထင်နေကြတယ်။

အစစ်အမှန်အားဖြင့် ကြည့်မယ်ဆိုရင် ဘာတစ်ခုမှ ချမ်းသာမှု မရှိဘူး။ ခဏမစဲ တသဲသဲ ဖြစ်နေတဲ့ ရုပ်တရား၊ နာမ်တရား၊ ဆင်းရဲဒုက္ခ သစ္စာတရားချည်းပဲ၊ မိမိခန္ဓာကိုယ်ကို

မွေးမြူပြုစု နေရကတည်းက ကိုယ်ကမပြတ် ဖြစ်ပျက်နေလို့ပဲ၊ အဲဒီလို မပြတ် ဖြစ်ပျက်နေလို့ အမျိုးမျိုး ပြုစုပျိုးထောင် နေရတယ်ဆိုရင် ဘယ်ကောင်းတော့မလဲ။ ဆင်းရဲချည်းပေါ့၊ အကြမ်းစားအားဖြင့် တွက်ကြည့်မယ်ဆိုရင် သွားလာနေကြတာ တွေဟာ တချို့ကလဲ စီးပွားရေး ကြီးပွားရေးနှင့်၊ တချို့ကလဲ ပျော်ရေးပါးရေးနဲ့ တချို့ကလဲ ကိုယ်နှင့်စပ်တဲ့ လူတွေရဲ့ ကျန်းမာရေးစသော ကိစ္စနဲ့ သွားလာနေကြတာ ဖြစ်ပေလိမ့်မယ်။

ထိုသို့ ဉီးစားကြည့်လိုက်တဲ့အခါ အားလုံး တလှုပ်လှုပ် တရွရွနဲ့ သွားလာနေကြတဲ့ သူတွေဟာ ဘယ်သူမှ သက်သာရာ မရတဲ့ တကယ့်ဆင်းရဲ ဒုက္ခတွေနဲ့ တွေ့ပြီးနေကြရတာ ပါက လားလို့ ဘုန်းကြီးရဲ့ဉာဏ်ထဲမှာ ထင်မြင်ပြီးတော့ လာတယ်၊ အနုစိတ်အားဖြင့် တွက်ကြည့်မယ်ဆိုရင် ယခုလို သွားနေတဲ့ အခါမှာ စိတ်ကူးတွေ ဖြစ်တိုင်းဖြစ်တိုင်း စိတ်ကူးကို မှီပြီး လှုပ်ရှားပြုပြင်တဲ့ ရုပ်တွေ၊ ဒီလို စိတ်ကူးတဲ့ စိတ်ကူးတွေဟာ ခဏမစဲ တသဲသဲ ဖြစ်ပျက်ပြီးနေတဲ့ တရားတွေဖြစ်လို့ ဆင်းရဲ တွေချည်းပဲ၊ ဒုက္ခသစ္စာတွေချည်းပဲ။

ဒါတွေကို ဆင်းရဲမှန်း အမှန်မသိကြလို့၊ ချမ်းသာတယ် ထင်လို့ ယခုလို သွားလာနေထိုင်ကြတာပဲ၊ အင်မတန် ပျော်စရာ ကောင်းတယ်လို့ ထင်မှတ်ပြီး သာယာသိမ်းပိုက်နေကြတယ်၊ သာယာသိမ်းပိုက်ပြီး ပျော်မွေ့နေကြတာက ဘာလဲဆိုရင် သမုဒယသစ္စာတရားပဲ၊ အဲဒီဒုက္ခသစ္စာနှင့် သမုဒယသစ္စာ တရားတွေဟာ သတ္တဝါတို့၏ သန္တာန်မှာ နေ့မလပ်ညမစဲ

အမြဲမပြတ် ဖြစ်ပေါ်နေတယ်ဆိုတာ ရှေးကလဲ ထင်မြင်သဘော ပေါက်နေတာပါပဲ၊ ဒါပေမယ့် နေကောင်းပြီးစ ယခုအခါကျတော့ သာပြီး ပေါ်လွင်ထင်ရှား လာတယ်၊ ဒီလို နေ့မလပ်ညမစဲ အမြဲ မပြတ် ဖြစ်ပျက်နေတဲ့ ရုပ်နာမ်သင်္ခါရ ဒုက္ခသစ္စာတရားတွေနှင့် ဒီလို ဆင်းရဲတွေကို ချမ်းသာစရာ ပျော်စရာထင်ပြီး သာယာ နှစ်သက်နေတဲ့ သမုဒယသစ္စာတွေ ရှိနေသမျှ သုခအစစ် မဖြစ်နိုင်ဘူး၊ ဆင်းရဲချည်းပဲ ဖြစ်နေမှာပဲ။

ဒီသစ္စာနှစ်ပါး စုံးစုံးပေါ်မလာမှ လုံး၀ ချုပ်ငြိမ်းသွားမှ သုခအစစ်အမှန် နိရောဓသစ္စာဆိုက် နိဗ္ဗာန်ကို ဆိုက်ရောက်ပြီး မျက်မှောက်ပြုနိုင်မှာပဲ၊ နိရောဓသစ္စာဆိုတဲ့ နိဗ္ဗာန်ကို ဆိုက်ဖို့ ရာမှာ မြတ်စွာဘုရား ဟောကြားထားတော်မူတဲ့ မဂ္ဂင်ရှစ်ပါး တရားတွေဟာ နိဗ္ဗာန်ရောက်ကြောင်း အကျင့်မှန် အကျင့် ကောင်းဖြစ်တဲ့ မဂ္ဂသစ္စာတွေပဲလို့ ဆေးရုံတက်တုန်းက သစ္စာ လေးပါး တရားတွေကို ဉာဏ်ထဲမှာ ပွင့်ပွင့်လင်းလင်းကြီး ထင်ရှားစွာ ဖြစ်ပေါ်လာတယ်၊ တစ်နေ့ကျတော့ ဆေးရုံကြီးအနီး အပါး သရက်တောတိုက်မှာ သီတင်းသုံးသည့် တောင်ဘီလူး ဆရာတော်ကြီး ကြွလာတယ်။

တောင်ဘီလူး [illegible]ဟာ်ကြီးက ကျန်းမာရေး အခြေအနေ မေးပြီး မမ္ဗလက်ဆောင်အဖြစ်ဖြင့် ဂါထာလေးတစ်ပုဒ်ကို ပါဠိ သက်သက် ရွတ်ပြီး ဟောပြတယ်၊ သူ့မှာလဲ ရှေ့တုန်းက မကျန်းမမာ ဖြစ်နေဆဲ ဆရာတော်ကြီးတစ်ပါး ကြွလာပြီး

ပေးထားလို့တဲ့၊ ဒီဂါထာလေးကို သူ့မှာ အမြဲတမ်း ရွတ်ဖတ်နေပါတယ်လို့လဲ ပြောတယ်။ အခု မဟာစည်ဆရာတော်ကိုလဲ အဲဒီဓမ္မလက်ဆောင် ဂါထာလေး ပေးချင်တယ်ဆိုပြီးတော့ ပါဠိသက်သက် သုံးခေါက် ရွတ်ပြီး ပြောပြတယ်။

အဲဒီ ဂါထာလေးကတော့--

အာဗာဓေ မေ သမုပ္ပန္နေ၊ သတိ မေ ဥဒပဇ္ဇထ။

အာဗာဓော မေ သမုပ္ပန္နော၊ ကာလော မေ နပ္ပမဇ္ဇိတုံ-တဲ့။ ဒီဂါထာလေးဟာ ထေရဂါထာပါဠိတော်မှာ လာတယ်၊ ဥတ္တိယမထေရ် ဥဒါန်းကျူးတဲ့ ဂါထာပဲ။

မေ၊ ငါ့အား၊ အာဗာဓေ-မကျန်းမာမှု ရောဂါစုသည်၊ သမုပ္ပန္နေ၊ မလွဲသာမရှောင်သာ ဖြစ်ပေါ်၍ လာလတ်သော်၊ သတိ၊ မမေ့မလျော့ ပပေ့ါလေးစား သတိတရားသည်။ မေ၊ ငါ့အား။ ဥဒပဇ္ဇထ၊ အမှန်မခြား ဖြစ်ပွားခဲ့လေပြီ။ ကိံ၊ ဘယ်လိုဖြစ်ပွားသနည်း ဟူမူကား။ မေ၊ ငါ့ဟာဖြစ်လာ ကိုယ်ခန္ဓာ၌။ အာဗာဓော၊ မကျန်းမမာ ရောဂါ ညစ်ညူး ဝေဒနာစုသည်။ သမုပ္ပန္နော-မလွဲမရှောင်သာဖြစ်ပေါ်၍ လာလေပြီ။ ကမ္မိနာ အာဗာဓေန၊ ဤရောဂါဝေဒနာဖြင့်ပင်။ မရဏံ ပါပုဏေယျ၊ ခန္ဓာပျက်ယွင်း သေကြခြင်းသို့ ရောက်မူလည်း ရောက်နိုင်၏။ တသ္မာ၊ ထို့ကြောင့်။ ဣဒါနိ၊ ရောဂါရနေ ယခုအခြေအနေ၌။ မေ၊ ငါအား၊ ပပဇ္ဇိတုံ၊ ရှုမှတ်မှုမရှိ သတိမေ့လျော့၍ နေခြင်းငှါ။ န ကာလော၊ အချိန်အခါ မဟုတ်ပေ။ အထခေါ်၊ အမှန်စင်စစ်

တကယ် ဖြစ်နေရာမှာကား။ နပ္ပဋိတုံ ကာလော၊ မမေ့မလျော့ မပေါ့လေးစား သတိတရားဖြင့် မခြားမလုပ် ရှုမှတ်နေရမည့် အခါကာလ ကြီး ပေတည်း။ ဣတိ၊ ဤလို မပြတ်ရှုမှတ်နေသော သတိသည်၊ ဥဒပဇ္ဇထ၊ အမှန်အားဖြင့် ထင်ရှားမသွေ ဖြစ်ပွား ခဲ့လေပြီ။

ဤဂါထာလေးရဲ့ ဆိုလိုရင်းအဓိပ္ပါယ် အကျဉ်းချုပ်ကတော့ တစ်ခါတည်း မဂ်ဉာဏ် ဖိုလ်ဉာဏ် ရောက်လာအောင် အင်မတန် လေးနက်သော အချက်တွေပါသည့် ဂါထာလေးပါပဲ၊ ဤဂါထာ လေးကို ကြားနေရတာဟာ အများကြီး ကျေးဇူးရှိပါတယ်၊ ဝမ်းမြောက်ပါတယ် စသည် လျှောက်ထားပြီး မိမိဉာဏ်ထဲမှာ ထင်မြင်သည့်အတိုင်း အနက်အဓိပ္ပါယ်များကို ပြန်၍ လျှောက် ထားတယ်၊ ဆရာတော်ကြီးကလဲ ဝမ်းမြောက်ဝမ်းသာနှင့် သာဓုခေါ်ပြီး ပြန်ကြွသွားတယ်။

ဤဂါထာလေးရဲ့ အဓိပ္ပါယ်ကို ယခု ဖော်ထုတ်ပြီး ဟော ပြမယ်၊ မကျန်းမမာ ရောဂါဝေဒနာ တစ်ခုခုဖြစ်လာရင် သတိရ လာမယ်၊ ငါ့မှာ မကျန်းမမာ အနာရောဂါတော့ ဖြစ်လာပြီ။ မေ့မေ့လျော့လျော့ ပေါ့ပေါ့နေဖို့ အခါမဟုတ်တော့ဘူး၊ မမေ့ မလျော့ဘဲ တရားထဲ၌ အာရုံစွဲပြီး နေရမယ့် အခါကာလကြီး ပဲလို့ ဆိုလိုတယ်။

ဒီဂါထာလေးကို တစ်ခါ မကျဉ်းမကျယ် ဝေဖန်လို့ ပြောရ မယ်ဆိုရင် မကျန်းမမာ အနာရောဂါ ဖြစ်တဲ့အခါ သတိအမှတ်

ရတယ် ဆိုတာဟာ မဂ်ဉာဏ် ဖိုလ်ဉာဏ် ရောက်တဲ့အကြောင်းလို့ ဆိုနိုင်တယ်၊ သတိအမှတ်ရတာလဲ နှစ်မျိုးရှိတယ်၊ ငါ့မှာ မကျန်းမမာ အနာရောဂါတော့ ဖြစ်လာပြီ၊ ထိုရောဂါနှင့်ပဲ သေချင်လဲ သေသွားနိုင်တယ်၊ မသေခင်အတွင်း အင်အားရှိနေတုန်းမှာ မြတ်စွာဘုရား အဆုံးအမတော်ဖြစ်သည့် မဂ္ဂင်ရှစ်ပါးတရားတွေကို ပြည့်စုံသင့်သမျှ ပြည့်စုံအောင်၊ ရသင့်သမျှ ရသွားအောင် အားထုတ်မှပဲလို့ အမှတ်ရတဲ့ သတိတရားက တစ်မျိုး၊ အဲဒီသတိတရားကတော့ ကုသိုလ်တရား ဖြစ်ပွားအောင် တိုက်တွန်းနှိုးဆော် ပေးတတ်လို့ ကာရက သတိတရားလို့ ခေါ်တယ်။

အကြောင်းသတိတရားလေး ဖြစ်ရုံနဲ့တော့ ကိစ္စကမပြီးသေးဘူး၊ အကြောင်းသတိကြောင့် ဖြစ်ပေါ်လာတဲ့အကျိုးသတိကမှ အဖိုးမသိ ထိုက်တန်တယ်၊ အဲဒီသတိက တကယ့်ကို အလုပ်လုပ်တဲ့ သတိပဲ၊ ထိုသတိမျိုး ကာရကသတိလို့ ခေါ်တယ်၊ အလုပ်သမား သတိလို့ ဆိုလိုတယ်၊ ဒီသတိရဲ့ဖြစ်ပုံကတော့ မကျန်းမမာ ရောဂါဝေဒနာတွေ နှိပ်စက်နေတဲ့အခါမှာ ရောဂါဝေဒနာမှစပြီးသကာလ ထိုအခိုက်အတန့်ကာလ အတောအတွင်း ရှိနေတဲ့ရုပ်တရား၊ နာမ်တရားတွေကို ဖြစ်တိုင်းဖြစ်တိုင်း ခဏမစဲ အမြဲမပြတ် ရှုမှတ်နေရတယ်၊ ရောဂါဝေဒနာပဲ ဖြစ်ဖြစ်၊ ကိုယ်အမူအရာ ရုပ်တရားတွေပဲ ဖြစ်ဖြစ်၊ စိတ်အမူအရာ နာမ်တရားတွေပဲဖြစ်ဖြစ် ဘာတစ်ခုမှ မမေ့မလျော့ဘဲ ရှုရှုပြီး အမှတ်ရနေတယ်။

ဒီလို မပြတ်မစဲ အမြဲမှတ်နေတာကို ခုနက ပြောခဲ့တဲ့ ကာရက သကိလို့ ခေါ်တယ်၊ ဒီအကျိုး သတိကတော့ အစဉ် အတိုင်း ပွားများပြီး သွားမယ်ဆိုရင် မဂ်ဉာဏ် ဖိုလ်ဉာဏ် နိဗ္ဗာန်ထိ ဆိုက်ရောက်သွားနိုင်ပါတယ်၊ သာမန် လူတွေဆိုရင် မကျန်းမမာ ဖြစ်လာတဲ့အခါ သတိတရားမရကြဘူး၊ ငါ့မှာ ရှေးတုန်းက ချမ်းသာနေတာပဲ၊ ကောင်းစားနေတာပဲ၊ ယခုမှ မကျန်းမမာဖြစ်ပြီး ဆင်းရဲနေရတယ်၊ ဒုက္ခတွေ တွေ့နေတယ်၊ ဆိုးလိုက်တဲ့ရောဂါ၊ ပျောက်ခဲလိုက်တဲ့ ရောဂါဟု ရောဂါကို စိတ် ဆိုးပြီးနေတတ်တယ်၊ အရင်က ချမ်းသာနေလျက်သားနဲ့ အခုမှ ဆင်းရဲရသလားလို့ ဒေါသတရားတွေ ဖြစ်ပွားနေတတ်တယ်။

သူ့ဟာသူ အခိုက်အတန့်အားဖြင့် ဖြစ်ပျက်နေတဲ့ ရုပ်၊ နာမ်သဘောတရားတွေကို အစိုးရတဲ့ ငါကောင်၊ သတ္တဝါ ကောင်ဟု ထင်နေတယ်၊ အရင်က ချမ်းသာနေတာလဲ ငါပဲ၊ အခု ဆင်းရဲနေတာလဲ ငါပဲဟု ဒီလိုစွဲထင်နေတယ်၊ သူ့ဟာသူ ဖြစ် ပျက်နေတဲ့ ဒုက္ခဝေဒနာတွေ အစိုးမရဘဲနှင့် ချက်ချင်းပျောက် သွားအောင် စီမံချင်တယ်၊ ရုပ်နာမ်တွေက သူထင်တဲ့အတိုင်း အတ္တကောင် မဟုတ်တော့ သူ့အလိုအတိုင်း မဖြစ်ဘူး။ ဒါကြောင့် သူက စိတ်ဆိုးနေတာပဲ၊ ဒီလို စိတ်ဆိုးနေတာ စိတ်နှလုံး ပူပန်နေတာဟာ အမှန်အတိုင်း မသိလို့ ဖြစ်နေတာလို့ မှတ် ရမယ်။ မြတ်စွာဘုရားအဆုံးအမကို ကောင်းကောင်းရယူထားတဲ့ ပုဂ္ဂိုလ်များမှာဆိုတော့ ရောဂါဝေဒနာ စပြီးဖြစ်ကတည်းက သတိတရားကို ရလာတယ်။ ရောဂါဝေဒနာကို အကြောင်း

ပြုပြီးတော့ စိတ်ဆိုးခြင်းမရှိဘဲ သတိတရား ရလာတယ်၊ ငါ့မှာ သေမင်း၏ စစ်သည်ဖြစ်တဲ့ ရောဂါဝေဒနာကြီးနဲ့ ရင်ဆိုင်တွေ့နေရပြီ၊ ငါ့ဘက်က ဆေးဆရာကြီးတွေနဲ့ ဆေးဝါးလက်နက်ကောင်းတွေကပဲ အနိုင်ယူမလား၊ သေမင်းဘက်က ရောဂါကပဲ အနိုင်ရမလား မသိဘူး ၊ အဆင်မသင့်ရင် ရောဂါက အနိုင်ရပြီး ဒီရောဂါနဲ့ သေချင်လဲ သေသွားမယ်၊ ဒါကြောင့် မသေမီအတွင်း တရားထူး တရားမြတ် ရအောင် အားထုတ်မှပဲလို့ သတိတရားတွေ ဖြစ်လာတယ်၊ အဲဒီပုဂ္ဂိုလ်မျိုးကတော့ ကမ္မဋ္ဌာန်းလက်ရှိ ယောဂီပုဂ္ဂိုလ်တွေ ဖြစ်တယ်။

ကမ္မဋ္ဌာန်းလက်မဲ့ဖြစ်သည့် ပုဂ္ဂိုလ်များကတော့ ဒါလောက်အဆင့်အတန်းမြင့်အောင် မဖြစ်ကြပါဘူး၊ ဒါပေမယ့် သေခါနီးကျရင် အားကိုးလေးတွေတော့ ရှာကြတာပဲ၊ တချို့ကလဲ သေခါနီးဆဲဆဲ အိပ်ရာထဲမှာ ရဟန်းသံဃာတော်များ ပင့်ဖိတ်၍ သီလဆောက်တည် ကြတာယ်၊ တရားနာကြတယ်၊ သင်္ကန်းများကို လှူကြတယ်၊ ဆွမ်းလှူကြတယ်၊ လူ့ရွာ, နတ်ရွာ သုဂတိသို့တော့ ရောက်နိုင်ကြပါတယ်၊ အလဟဿတော့ မဖြစ်နိုင်တော့ဘူး။

ကမ္မဋ္ဌာန်းလက်ရှိ ပုဂ္ဂိုလ်များကျတော့ ခုနက ပြောခဲ့သည့် အတိုင်း တရားထူး တရားမြတ်များကို ရသည့်တိုင်အောင် အားထုတ်ပြီး အဆင့်အတန်းမြင့်မြင့် သတိတရား ရလာတယ်၊ သို့ပေမယ့် ဒီလို အသိတရားရရုံနှင့် ကိစ္စက မပြီးသေးပါဘူး၊ သတိရတဲ့အတိုင်း အမြဲမပြတ် အမှတ်ရပြီး တရားရသည်အထိ

အားထုတ်သွားမှ ကိစ္စပြီးမြောက်ပါတယ်၊ ဒီလို သတိသံဝေဂ ရစေနိုင်သော တရားကို ကြားနာရသည့်အတွက် မဂ်ဉာဏ်ကို ရအောင် တစ်နေ့တခြား ကြိုးစားအားထုတ်နိုင်ကြပါစေ၊ သာဓု-သာဓု-သာဓု။

ဤကား ကျေးရူးရှင် မဟာစည် ဆရာတော်ဘုရား၏ တရားရှုနည်းနှင့် တရားဒေသနာကို အကျဉ်းမျှ ဖော်ပြလိုက်ပါသတည်း။

* * * * *

# ၁၃။ သဲအင်းဂူဆရာတော်၏ ဝိပဿနာရှုနည်း

## အရှုးနဲ့အကန်း

ယခုအခါ ရှေးရှေးသော အတိက်ကံက စီမံလို့ လူ့ဘဝ လေးကို ရလာတဲ့ ရဟန်းရှင်လူ ခပ်သိမ်းသူတို့မှာ ငါသေရင် ဘယ်သွား မလဲ၊ ငါ ဘယ်က လာခဲ့သလဲလို့ ကိုယ့်ကိုယ်ကို မေး ကြည့်ကြဖို့၊ စိစစ်ကြည့်ကြဖို့ လိုပါတယ်။ အမှုမဲ့နေပြီး အမှတ်မဲ့ သေဖို့ မဟုတ်တော့ဘူးနော်၊ အဲဒီလို မေးကြည့်တဲ့အခါ ဘယ်လို ဖြေကြမလဲ၊ ဘယ်လိုမှ မဖြေတတ်ကြဘူး မဟုတ်လား၊ ဘဲဥအစ ရှာမတွေ့သလို ဖြစ်မနေကြဘူးလား၊ အဲ့ဒီလို ဘာဖြစ်လို့ ဖြစ်နေကြလဲလို့ ဝေ့လည် လိုက်ပြီး ဂျာအေး သူ့အမေ ရိုက်၍ မှောင်မိုက်ငိုနေကြလို့ အကျိုးမများပါဘူး။ ဒီတော့ သေချာအောင် ရေရာအောင် လုပ်ဖို့ တော်ကြပြီ။

ဘယ်သိကြမလဲ၊ အရိယာပုဂ္ဂိုလ်တွေမှ မဟုတ်ကြဘဲ၊ ပုထုဇဉ်ဆိုတာ အပေါ်ကို ပစ်လိုက်သောခဲလို သူကျချင်ရာ ကျမှာပဲ၊ သန့်ရှင်းတဲ့ ကောင်းတဲ့နေရာမှာလဲ ကျချင်ကျမယ်၊ မသန့်ရှင်းတဲ့ ချွေးချေးပုံပေါ်မှာလဲ ကျချင်ကျသွားမယ်၊ ပုထုဇဉ် ဆိုတော့ အရှုးအကန်းတွေပဲ၊ ဒီတော့ ဘာမှ မသိကြဘူးပေါ့၊ အရှုးကလဲ ရှစ်မျိုးရှိတယ်။ ရူပဋ္ဌနိဒ္ဒေသပါဠိတော်မှာ လာတယ်၊ ဘယ်လိုလဲ ဆိုတော့--

၁။ ရာဂုမ္မတ္တက-ရာဂရှုးတဲ့၊

၂။ ဒိဋ္ဌုမ္မတ္တက-အယူအရှုးတဲ့၊

၃။ မောဟုမ္မတ္တက-အမိုက်ရှုးတဲ့၊

၄။ ကောဓုမ္မတ္တက-အမျက်ရှုးတဲ့၊

၅။ မတ္တုမ္မတ္တက-သည်းခြေရှုးတဲ့၊

၆။ ယက္ခုမ္မတ္တက-ဘီလူးဖမ်းစားတဲ့ အရှုးတဲ့၊

၇။ သုရုမ္မတ္တက-အရက်ရှုးတဲ့၊

၈။ ဗျသနုမ္မတ္တက-စီးပွားပျက်အရှုးတဲ့။

အဲဒီ အရှုးရှစ်မျိုးတွင် အနည်းဆုံး တစ်ခုခုနဲ့တော့ ပုထုဇဉ်မှန် သမျှ ရှုးနေကြတာချည်းပဲ။ ဒါကြောင့် ရှေးဆရာတော် မြတ်တို့က ကဗျာလေးဆစ်ချိုးလေး စပ်ထားခဲ့ကြတယ်။

"ရာဂမွန် စိတ်ရှိုဖူးပါတဲ့--- ဒိဋ္ဌိရှုး ဤနှစ်လီ သည်းခြေမှာ ပျက်လို့ ရှုးရတယ်၊ ထူးတဲ့အညီ။ အမျက်ကြီးရင်လ၊ ပျက်စီးလိမ့် ပြောကြတယ်၊ ကောဓမှီတဲ့ ထိုအရှုး၊ ဆန်းပြား လို့ ခက်ပုံ၊ ဖမ်းစားလျှင် ယက္ခုပ၊ မောဟုံမှာ သုံ့ရာဖက် ပါလို့၊ ဗျသနာပြကား မြွက်လိုက်မယ်၊ (တပည့်တို့ရယ်) ထွေယှက်ရှစ်ရှုး" တဲ့။

ကဲ---ဒီအရှုးရှစ်မျိုးတွင် တစ်ခုခု ရှုးမနေဘူးလား ဆိုတာ စဉ်းစားကြ။

ဤစာရေးသူသည် လွန်ခဲ့သော နှစ်ပေါင်း (၃၅)နှစ် လောက်က တွံတေးမြို့ပိုင် တစ်ယောက်နှင့် တွေ့ဖူးတယ်၊ သူဟာ

အရက်ကို မသောက်ရမနေနိုင်တဲ့ ပုဂ္ဂိုလ်တစ်ယောက် ဖြစ်တယ်၊ ဒါပေမယ့် ဘာသာရေးကိုတော့ လေးစားပါတယ်တဲ့၊ လယ်တီဆရာတော်ကြီးထံမှာလဲ တရားနာတယ်၊ တခြားဆရာတော်များ ထံလဲ တရားကို နာတယ်၊ အရက်မပြတ်ဘူး၊ တစ်နေ့ကျတော့ သူ့တပည့်တွေနဲ့ ဝိုင်းပြီး အရက်သောက်နေတုန်း ဖြုန်းခနဲဆို အရှုးတစ်ယောက် ပေါက်လာတယ်။ သူကို အရက်သောက်တာကို မော့မော့ကြည့် နေတော့ အရက်သောက်ချင်လို့ ထင်ပါရဲ့ ဆိုပြီး သောက်မလားလို့ မေးကြည့်တယ်။ ဒီတော့ အရှုးက သောက်ချင်လို့ မဟုတ်လို့ မဟုတ်ဘူး။ ဒီလူတွေဟာ တစ်နေ့ကျ ငါ့လို အရှုးဖြစ်ဦးမှာပဲလို့ တွေးပြီး သနားတဲ့အတွက် မော့မော့ ကြည့်နေပါတယ်လို့ ပြန် ပြောတယ်၊ ဒီတော့ အရှုးကတောင် ငါ့ကို သနားရတဲ့အဖြစ် ငါ, ငါ ရောက်နေပါပကောဟု သံဝေဂ သဘော သက်ရောက်ပြီးကာ ရှေ့မှာထားတဲ့ အရက်ပုလင်း တွေကို ရိုက်ခွဲပြီး တစ်ခါတည်း အရက်ဖြတ်လိုက်ပါတယ်၊ ဘယ်လောက် မှတ်သားစရာ ကောင်းသလဲ၊ အရက်ရှုးကို သည်းခြေရှုးက ချွတ်လိုက်တယ်။

အကန်းကလဲ နှစ်မျိုးရှိတယ်-

(၁) စီးပွားရေးကြီးပွားရေး စသော လောကီရေးကိုသာ နားလည်ပြီး ဘာသာရေး၊ သာသနာရေးကို မလိုက်စားလျှင် နားမလည်လျှင် တစ်ဖက်ကန်းတဲ့။

(၂) စီးပွားရေးစသော လောကီရေးလဲ နားမလည်၊ ဘာသာရေး, သာသနာရေးလဲ နားမလည်ရင်

ပျောက်တော့ မသွားပါဘူး၊ နောက်က မျက်ခြည်မပြတ် လိုက်တော့ နေပါတယ်၊ သူ့ အလှည့်မကျတော့ ကြည့်နေရတာပါပဲ၊ မဝင်သာတော့ အချိန်ကို စောင့်နေရတာပဲ၊ အကုသိုလ်အကျိုးပေး အရှိန်အဝါတွေ အားနည်းသွားမှ ပေါ်လာပြီး ဟော-အခုလို လူဖြစ်လာကြရတယ်။ ဒါဖြင့် များသောအားဖြင့် အပါယ်ဘုံက လာကြတယ်ဆိုတော့ နောက်တစ်ခါ ဘယ်ကို သွားဦးမလို့လဲ၊ အရှည်ကြီးတွေးမနေနဲ့၊ ပုထုဇဉ်မှန်သမျှ သက္ကာယဒိဋ္ဌိကြီးက အုပ်စိုးနေတော့ လာရာလမ်း၊ နေရာအိမ် မှာပဲ ပြန်ရမှာ သွားရမှာ ဘယ်ကများတယ်၊ စဉ်းစားကြည့်ကြနော်။

ဒါကြောင့် ပုထုဇဉ်ဘဝနဲ့ မနေချင်ကြနှင့်၊ မသေချင်ကြနှင့်၊ အရိယာတို့ရွာ ရောက်အောင် ကြိုးစားကြ၊ အရိယာဖြစ်မှ လာလမ်းဖြစ်ကြဲ့ အပါယ်လေးဘုံသို့ မပြန်ဘဲ တစ်ခါတည်း လူဟာ[illegible]သွားမယ်။ အရိယာတို့တွင် အနည်းဆုံးအောက်ဆုံး ဖြစ်သည့် သောတာပန်လောက် ရောက်အောင်တော့ ကြိုးစားကြ၊ ဒါမှ စိတ်ချရမယ်၊ လားရာဂတိမြဲပြီး ဘယ်တော့မှ အပါယ်မကျဘဲ အပါယ်တံခါးပိတ်၍ နိဗ္ဗာန်တံခါး ပွင့်သွားမယ်၊ ကြိုးစားလျှင် သောတာပန်ဖြစ်ဖို့ရာ မခဲယဉ်းပါဘူး။ တစ်ထိုင်တည်းနှင့် ရနိုင်တယ်လို့ ဘုရားဟောထားတာပဲ၊ ကိုယ့်ပါရမီကို မသိနိုင်ဘူး၊ မီးခဲပြာဖုံးတွေ အများကြီးရှိတယ်။ မြတ်စွာဘုရားက သာသနာငါးထောင်ထားခဲ့တာလဲ အလကား ထားခဲ့တာ မဟုတ်ပါဘူး။ ငါဘုရား ပရိနိဗ္ဗာန်စံပြီးတဲ့နောက် ကျွတ်တမ်းဝင်နိုင်သော ပုဂ္ဂိုလ်တွေ အများကြီး ရှိတယ်ဆိုတာ မြင်တော်မူသည့်အတွက် ထားခဲ့တာ၊ အားမငယ်ကြနဲ့၊ ကိုယ့်ကိုကိုယ် အထင်မသေးကြနဲ့။

## ၁၄။ ဝိပဿနာတရား အားထုတ်ရသည့်အကျိုး

ဝိပဿနာတရား အားထုတ်တယ်ဆိုတာ တောထဲသွားပြီး အားထုတ်မှ ရတာမဟုတ်ပါဘူး၊ ငယ်ငယ်ရွယ်ရွယ် အားထုတ်မှ ရတာမဟုတ်ပါဘူး။ အနာထပိဏ်တို့၊ ဝိသာခါတို့ဟာ ကိုယ့်မြို့ ကိုယ့်ရွာ ကိုယ့်နေရာမှာနေပြီး တရားရသွားကြတာပါ။ အသက် (၆၀)ကျော်မှ တရားထူးရသွားတဲ့ သောဏထေရီ ဘိက္ခုနီမကြီးလဲ သားသမီးများက မကျွေးလို့ စိတ်ပျက်ပြီး ရဟန်းပြုသွားတာ အသက်(၆၀)ကျော်မှ အာသဝေါကုန်ခန်း ရဟန္တာမကြီး ဖြစ်သွားတယ်။ ဒီတော့ အရက်သမားပဲဖြစ်ဖြစ်၊ ဘိန်းစား၊ မုဆိုး၊ တံငါပဲ ဖြစ်ဖြစ်၊ သဒ္ဓါနဲ့ ဝီရိယ၊ သမာဓိရှိရှိနဲ့ အားထုတ်ရင် တရားထူး တရားမြတ်ကို ရနိုင်ကြပါတယ်။ ဝိသာခါ၏ အလုပ် အကျွေး မိန်းမငါးရာ အရက်သောက်ရာမှ အကျွတ်တရား ရကြတယ်။ ကုက္ကဋမုဆိုးနှင့် သား (၇)ယောက်၊ ချွေးမ (၇) ယောက်လုံး သောတာပန် တည်သွားကြတဲ့ ထုံးရှိပါတယ်။ အယုတ်ဆုံး ပြောရမယ်ဆိုရင် မစင်ပုံတွေ ဘေးမှာနေပြီး မစင် တွေစားနေတဲ့ အဝတ်တောင် မဝတ်တဲ့ ဇမ္ဗုကဟာ အဘိညာဉ် သမာပတ်နဲ့ ရဟန္တာမြတ်တောင် ဖြစ်သွားတာ ရှိပါတယ်။ မိမိတို့ ပါရမီအလိုက် သောတာပန် စသည် ဖြစ်နိုင်ပါတယ်။

ထို့ကြောင့် မိတ်ကောင်း ဆွေကောင်း ရဖို့ အရေးကြီးပါတယ်။ မိတ်ကောင်းဆွေကောင်း အဖော်သဟာဲပြုပြီး သူတို့၏ တရားဓမ္မများကို အဖန်ဖန်တလဲလဲ ကြားနာရတော့ မိမိတို့အဖို့ လောဘမီးစသော ကိလေသာတရားတွေ နည်းပါးသွားကြပါသည်။ တရားအားထုတ်ဖန်ပြန်တော့ အနုလောမဉာဏ် ရောက်ကြတယ်၊ ရှုရင်းနဲ့ နောက်နောက်က ဝိပဿနာဉာဏ်၊ ရှေ့ဖြစ်မယ့် မဂ်ဉာဏ်, ဖိုလ်ဉာဏ်တွေနဲ့ အားလျော်စွာ ဖြစ်ပေါ်လာတဲ့ အသိတွေ ဉာဏ်တွေ ထင်ပေါ်လာတာပဲ၊ နောက်ပိတ်ဆုံး ရှုရင်း ရှုရင်းနဲ့ မသေရာဖြစ်သော နိဗ္ဗာန်ကို လှမ်းမြင်တယ်။ သည်လို မြင်တာ ဂေါတြဘူတဉာဏ်ပဲဟု သိမှတ်ကြပါ။

သည့်အဆင့်ဖြစ်သောတိုင်အောင် ပုထုဇဉ်လို့ပဲ ခေါ်ရသေးတယ်။ အရိယာပုဂ္ဂိုလ်ပဲလို့ မခေါ်ရသေးဘူး။ ပုထုဇဉ်အဖြစ်ဆုံး၍ အရိယာလုံးလုံး ဖြစ်တော့မည့်သဘောကြောင့် ဂေါတြဘူတလို့ ခေါ်တယ်။ သူက ပုထုဇဉ်အဖြစ် ဒီဘက်ကမ်းဖြစ်သော်လည်း သူမြင်တာက နိဗ္ဗာန်တည်းဟူသော ဟိုဘက်ကမ်း ဖြစ်နေတယ်။

မဂ်ဉာဏ်ကူးလိုက်တော့ မှတ်ဉာဏ်တွေ အမှတ်ခံရတဲ့ ရုပ်နာမ်တွေ ဘာမှမရှိသလို ဖြစ်သွားတယ်။ သတိလစ်သလို ဖြစ်သွားတယ်။

တစ်ခါ မဂ်ဝင်သွားရင် သောတာပတ္တိမဂ်ပုဂ္ဂိုလ်၊ နောက် သောတာပတ္တိဖိုလ်၊ မဂ်တစ်ကြိမ်သာ ဖြစ်ပြီး ဖိုလ်နှစ်ကြိမ်၊ သုံးကြိမ်ဖြစ်တာ၊ သောတာပန်ပုဂ္ဂိုလ် ဖြစ်သွားတာပါပဲ။ သကဒါဂါမိမဂ်၊ သကဒါဂါမ်ဖိုလ်၊ အနာဂါမ်မဂ်၊ အနာဂါမ်ဖိုလ်၊ အရဟတ္တမဂ်၊ အရဟတ္တဖိုလ် ဖြစ်ပြီးလျှင် အာသဝေါကုန်ခန်းပြီး ရဟန္တာပုဂ္ဂိုလ်ဖြစ်သွားတာဘဲ။

ဖိုလ်ဝင်စားတယ် ဆိုလျှင်တော့ ခန္ဓာမှာ ရုပ်နာမ်လုံး၏ ဖြစ်ပျက်မှုကို မှတ်ရင်း ဖြစ်ပျက်ဆုံးတဲ့ နိဗ္ဗာန်ကို နှလုံး သွင်းကာ တစ်နာရီ နှစ်နာရီ စသောအချိန် အဓိဋ္ဌာန်ပြုလျှင် တစ်နာရီ၊ နှစ်နာရီ တစ်ရက်ပဲလို့ အဓိဋ္ဌာန်လျှင် တစ်ရက် ခုနစ်ရက် ထိအောင် အဓိဋ္ဌာန်လျှင် ခုနစ်ရက်ထိ ပိုင်းခြားပြီး ရှုမှတ် လိုက်တော့ သောတာပန်ဆိုရင် သောတာပတ္တိဖိုလ်စိတ်တွေ ဖြစ်လာကြ၊ သကဒါဂါမ်ဆိုရင် သကဒါဂါမ်ဖိုလ်စိတ်တွေ ဖြစ် လာကြ၊ အနာဂါမ်ဆိုရင် အနာဂါမ်ဖိုလ်စိတ်တွေ ဖြစ်လာကြ၊ ရဟန္တာဆိုရင် အရဟတ္တဖိုလ်စိတ်တွေသာ ဖြစ်ပြီး နိဗ္ဗာန်ကို အာရုံပြုနေကြတယ်။ ဒီဟာကို ဖိုလ်ဝင်စားတယ်လို့ ခေါ်တယ်။ ဖိုလ်ဝင်းစားတော့ ကိုယ်ချမ်းသာ၊ စိတ်ချမ်းသာမှုကို အမြဲတမ်း ခံစားရခြင်း အကျိုးတရားများကို ရရှိခဲ့သည်။

ပုထုဇဉ်ဘဝဆိုတာ အလွန်ကြောက်စရာ ကောင်းတယ်။ ရတနာသုံးပါးလဲ ပြစ်မှားရဲတယ်၊ ဆရာသမားလဲ ပြစ်မှားရဲတယ်။ ဘယ်လောက်ကြီးလေးတဲ့ အကုသိုလ်ကံကြီးပဲ ဖြစ်ဖြစ် ပြစ်မှားရဲတယ်။ ဒေဝဒတ်ပဲကြည့်၊ ဘယ်လောက်ပင် ဈာန်အဘိညာဉ် တန်ခိုးတွေနဲ့ ပြည့်စုံပေမယ့် ပုထုဇဉ်ဘဝဆိုတော့ ဘုရားကိုယ်တော်မြတ်ကြီးကိုတောင် ပြစ်မှားရဲတယ်။ အဇာတသတ်ပဲကြည့် ပစ္စေကဗုဒ္ဓလောင်းကြီးဖြစ်ပေမဲ့ ဖခမည်းတော် ဖခင်ကြီးကို သတ်ရဲတယ်။ အယုတ်ဆုံး ပြောရမယ်ဆိုရင် တို့ဘုရားသခင်ရဲ့ လက်ဝဲတော်ရံ ရှင်မောဂ္ဂလာန် အလောင်းတော်ကြီးတောင်မှ မိန်းမကမြှောက်ပေးတော့ မိဘကို သတ်ရဲတယ်၊ ရိုက်ရဲတယ်။ ဒါကြောင့် ပုထုဇဉ်ဘဝမှ လွတ်ချင်ရင် အပါယ်လေးပါး မကျချင်ရင် ယခုလို ဗုဒ္ဓုပ္ပါဒနဝမခေတ်ကြီးနဲ့ ကြုံကြိုက်ပြီး လူဖြစ်လာရတဲ့အခိုက်မှာ ဝိပဿနာတရားကို ကြိုးစားအားထုတ်ကြ။

'ကုန်ရှုံးတော့ တစ်ခေါက်၊ လင်ကုန်ရှုံးတော့ တစ်သက်လုံးမှောက်။ ကိုးကွယ်ရာ ဆရာရှုံးတော့ တစ်သံသရာလုံးမှောက်' ဆိုတာလဲ အမြဲသတိထားဖို့ ကောင်းတယ်၊ ကိုးကွယ်ရာ ဆရာခရှုံးအောင်၊ အမှန်တရားရအောင်၊ သံသရာဘေးက တကယ်သွတ်ရအောင် တကယ်ကယ်တင်နိုင်တဲ့ ဆရာကောင်း သမားကောင်းထံ ချဉ်းကပ်ပြီး [illegible]းထုတ်ဖို့ အလွန်အရေးကြီးပါတယ်။

ပုဂ္ဂိုလ်စ္စွဲ၊ ဆရာစွဲ၊ ဌာနစွဲ မထားကြနဲ့၊ အရှင်သာရိပုတ္တရာနှင့် အရှင်မဟာမောဂ္ဂလာန်တို့ဟာ ပထမတော့ သိဥ္စည်းဆရာကြီးထံ နည်းခံရသေးတာပဲ။ အမှန်တရား ရှာနေကြတဲ့ ပုဂ္ဂိုလ်စွဲ၊ ဆရာစွဲ၊ ဌာနစွဲ မယားကြတဲ့ ပုဂ္ဂိုလ်တွေဖြစ်တော့

တစ်နေ့မှာ အရှင်အဿဇိ အကြောင်းပြုပြီး ဘုရားရှင်ထံ ရောက်သွားပြီး အမှန်တရားရကြတယ် မဟုတ်လား၊ ဒီတော့ အမှန်တရားရဖို့သာ အရေးကြီးပါတယ်။ ပုဂ္ဂိုလ်တို့၊ ဆရာတို့၊ ဌာနတို့က လိုရင်း မဟုတ်ပါဘူး၊ အထူးသတိပြုကြပါ။

သဲအင်းဂူ ဆရာတော်ဘုရားကြီး ဟောကြားတော်မူတဲ့ ဥပမာ ကလေးကတော့ ကျွဲကျောင်းသားဟာ နံနက်မိုးလင်းလာ ပြီးဆိုရင် ချည်တိုင်မှာရှိတဲ့ ကျွဲတွေကို ကြိုးဖြည်ပြီး ရေကြည်ရာ မြက်နုရာသို့ လွှတ်တယ်၊ လွှတ်လိုက်တဲ့အခါကျတော့ ကျွဲကျောင်း သမားလက်က လွတ်အောင် ပြေးနိုင်ပါလတက်နဲ့ မပြေးဘဲ၊ တစ်ကောင်နဲ့ တစ်ကောင်ဝှေ့ကြ၊ ခတ်ကြ၊ ပျော်ပါးကြ၊ မြူးတူး ကြနှင့် တစ်နေ့လုံး အချိန်တွေကုန်ပြီး နေကြတယ်။ ညနေ နေဝင်ခါနီးအချိန်လဲရောက်ရော ကျွဲကျောင်းသမားက လာပြီး ချည်တိုင်ကို ပြန်မောင်းတယ်၊ ဒီတော့ နေရင်းဌာန ချည်တိုင်မှာပဲ ပြန်ကြရတာပဲ၊ ထိုနည်းအတူ သာသနာတွင်းမှာ သာသနာ ရောင်တွေ တဝင်းဝင်းနဲ့ ထွန်းလင်းနေတဲ့အခါ ချည်တိုင်နဲ့တူတဲ့ သံသရာတွင်းက လွတ်ကင်းအောင် ပြေးကြ၊ မပြေးကြဘဲနဲ့၊ တစ်ယောက်နဲ့ တစ်ယောက် ဝှေ့ကြ၊ ခတ်ကြ၊ မဝှေ့ကြ၊ မခတ် ကြတဲ့ အခါကျရင်လဲ ကိုယ်နဲ့ ချစ်ခင်သူနှင့် ပျော်ကြ၊ မြူးကြ လုပ်နေကြရင် တစ်နေ့တစ်ချိန်တွင် ကျွဲကျောင်းသားနဲ့ တူတဲ့ တဏှာက လာပြီး ချည်တိုင်နဲ့တူတဲ့ အပါယ်လေးဘုံသို့ ဆွဲခေါ်လို့ ပြန်ကြရလိမ့်မယ်။

ပုထုဇဉ်မှန်သမျှ ပုထုဇဉ်ဘဝနဲ့ သေသွားကြရင် လာလမ်း ချည်တိုင်ဖြစ်တဲ့ အပါယ်လေးဘုံသို့ ပြန်ရောက်ကြရမှာပဲ၊ အပါယ်လေးဘုံသို့ ရောက်ပြီး နေကြတဲ့ ကျွဲ၊ နွား၊ ခွေး၊ ဝက်၊

ကြွက်၊ ငှက်စသော သတ္တဝါတွေရဲ့အဖြစ်ကို ကြည့်ပြီး ဘယ်လောက်ကြောက်စရာ ကောင်းတယ်ဆိုတာ သိနိုင်ကြပါတယ်၊ ကျွဲ, နွားတွေဆို လူပုဂ္ဂိုလ်က ရိုက်လဲခံကြရတာပဲ၊ ခိုင်းလဲ ခံကြရတာပဲ၊ နေမကောင်းပါဘူး၊ မနိုင်ပါဘူးလို့ မပြောနိုင်ဘူး။ နောက်ဆုံးသေလောက်အောင် ရိုက်နှက်ခိုင်းပြီး သတ်တောင် အစားခံကြရတယ်။ ဝက်, ကြွက်, ငှက် စသော သတ္တဝါတွေလဲ အရွယ်လေးရောက်လို့ ကောင်းကောင်း နေရမယ်ကြံတုန်း ဖြုန်းခနဲဆို လုံ့နဲ့ထိုး၊ လည်ပင်းချိုးပြီး ဓားနဲ့ ခုတ်သတ် စားသောက်ခံကြရတာပဲ'

ဒီလို အဖြစ်ဆိုးက လွတ်ချင်ကြရင် အပါယ်လေးပါး မကျချင်ရင် လွတ်တဲ့အလုပ်၊ မကျတဲ့အလုပ် လုပ်မှလွတ်ကြမှာ၊ မကျရောက်ကြမှာ။ ဒီတော့ သံသရာထဲ မလည်ရအောင် လောဘနဲ့ အချိန်မကုန်ကြစေနဲ့၊ မောဟနဲ့ အချိန်မကုန်ကြစေနဲ့၊ မာနဖြင့် အချိန်မကုန်ကြစေနဲ့။ အပါယ်ဘေးမှ တကယ်ဝေးသွားအောင် ဝိပဿနာတရားကို ကြိုးစားကြပါ၊ အားထုတ်ကြပါ။ အားထုတ်ဖို့ရာကလည်း မခက်ပါဘူး။ ဒါန, သီလ, ဘာဝနာကို ပွားများပြုလုပ်တဲ့အခါ ငါးစွဲမခံရစေနဲ့၊ ငါးဆိုတာ ပုဒ်မငါးမဟုတ်ဘူး။ တဏှာ, မာန, ဒိဋ္ဌိ, ဝိစိကိစ္ဆာ ဆိုကဲ့ ငါးပြောတာ။ ဒီငါး မပါရအောင် သတိထားပြီး တရားအားထုတ်ရင် လွတ်နိုင်ပါတယ်၊ မကျနိုင်ပါဘူး။ ယွက်ရုံမကျရုံတွင် မကဘူး၊ သောတာပန်, သကဒါဂါမ်, အနာဂါမ်, ရဟန္တာတောင် ဖြစ်နိုင်ပါတယ်။ ဒါန, သီလ, ဘာဝနာ ကုသိုလ်တို့ကို လုပ်သောအခါ သက္ကာယဒိဋ္ဌိ ခေါင်းစိုးဖို့ ဦးမစီးဖို့ သတိထားပြီး လုပ်ကြပါဟု ပြောကြားသိုက်ပါတယ်။

## ၁၅။ တရားအားထုတ်ပုံ နည်းလမ်းများ

ကဲ, ကဲ- သဲအင်းဂူဆရာတော်ကြီးရဲ့ အားထုတ်ပုံကို ပြောကြစို့။

၁။ ရှေးဦးစွာ မြတ်စွာဘုရား၏ ဂုဏ်တော်တွေကို အာရုံပြုပြီး ဘုရားကန်တော့ပါ။

၂။ နောက် ယောဂီပုဂ္ဂိုလ်၏ ခန္ဓာငါးပါး၊ ရုပ်နာမ် တရားတို့ကို တရားအားထုတ်နေဆဲ ဘုရားလှူပါ။ ကမ္မဋ္ဌာန်းဆရာကိုလဲ လှူပါ။

၃။ သုံးဆယ့်တစ်ဘုံ ကျင်လည်ကုန်သော သုခိတ၊ ဒုက္ခိတ သတ္တဝါအပေါင်းတို့ ချမ်းသာပါစေ၊ ကျန်းမာပါစေ၊ လိုတဲ့ဆန္ဒအဝဝနဲ့ ပြည့်စုံကြပါစေဟု မေတ္တာပို့ပါ။

၄။ ဘဝသံသရာ အဆက်ဆက်မှ ယနေ့ကျအောင် အတူတကွ နေထိုင်လာကြသော ပုဂ္ဂိုလ်အပေါင်း တို့အား ပြစ်မှားကျူးလွန်ခဲ့သော အပြစ်များကို သည်းခံကြပါဟု တောင်းပန်လိုက်ပါ။

၅။ ဘဝသံသရာ အဆက်ဆက်မှ ယနေ့ကျအောင် မိမိကို ပြစ်မှားခဲ့သော ပုဂ္ဂိုလ်အပေါင်းတို့အားလည်း မိမိက သည်းခံကြောင်း ခွင့်လွှတ်ပါကြောင်း ပြောကြားပါ။

၆။ ဘဝသံသရာ အဆက်ဆက်မှ စ၍ယနေ့ကျအောင် မိမိပြုခဲ့သမျှ ကုသိုလ်ကောင်းမှု၏ အဖို့ဘာဂ ဟူသ ရွှေ့ကို သုံးဆယ့်တစ်ဘုံ ကျင်လည်ကုန်သော ပုဂ္ဂိုလ်အပေါင်းတို့အား အမျှပေးဝေပါ။

၇။ သူတော်ကောင်း၊ သူမြတ်အပေါင်းတို့က ပေးဝေ သော မေတ္တာကိုလည်း မိမိ ခံယူပါ၏ဟု ပြောဆိုပါ။

ဤသို့ ရှေးဦးစွာ ပုဗ္ဗကိစ္စများ ပြုပြီးနောက် မိမိ၏ကိုယ်ကို ကြာရှည်စွာ ထိုင်နိုင်သော ဣရိယာပုတ်တို့တွင် တစ်ခုခုဖြင့် ထိုင်ပါ။ ယောကျ်ားတွေက တင်ပျဉ်ခွေထိုင်၊ မိန်းမတွေက ပုဆစ်ဒူးတုပ်ပြီး ထိုင်လိုကထိုင်၊ တင်ပျဉ်ခွေပြီး ထိုင်လိုကထိုင်၊ ကြိုက်သလို ထိုင်နိုင်ပါသည်။

ထို့နောက် မျက်စိနှစ်လုံးကို မှိတ်ထားပြီး လက်ကို တင်ပျဉ် ခွေပေါ်မှာ တောင့်တောင့်ထားပြီး လက်ချင်းထပ်နေပြီးလျှင် တရာထိုင်လို့ မပြီးမချင်း နေရာကို မပြင်ပါနှင့်၊ ယားရင်လဲ မကုတ်ပါနှင့်၊ ညောင်းရင်လဲ မလှုပ်ပါနှင့်၊ မောရင်လဲ မရပ်ပါနှင့်၊ ဘယ်လို အခံရခက်ခက် အနေမပျက်ပါစေနှင့်။ ထို့နောက် နှာသီးဖျားမှာ စိတ်ကိုထား ဝင်တဲ့လေကို ဝင်မှန်းသိအောင် သတိပြု၊ ထွက်တဲ့လေကို ထွက်မှန်းသိအောင် သတိပြု၊ နှာသီး ဖျား အသားစိုင်ကလေးမှာ ထိဝင်လာတာကို တိုးထိ ထွက်သွား တာလေးကို သိရုံ သိရုံနေ၊ ရှူတဲ့အခါမှာလည်း အထူးလုပ်ကြံပြီး မရှူပါနဲ့၊ ရှိုက်တဲ့အခါမှာလည်း အထူးလုပ်ကြံပြီး မရှိုက်ပါနဲ့၊ သူ့ သဘောအတိုင်း ဖြစ်ပါစေ၊ ငါ့သဘောအတိုင်း မဖြစ်ပါစေနဲ့၊

ဘုရားက အနတ္တလို့ ဟောထားတယ်။ သူ့သဘောပါ။ ငါ့သဘော မလုပ်ချင်ပါနဲ့။

ရှုနေရာမှ နာရီဝက်လောက် ရှိသောအခါ ပူ၊ ညောင်းညာ၊ နာကျင်ကိုက်ခဲတဲ့ ရုပ်တရား ဖောက်ပြန်မှုတွေဟာ သူ့အလိုလို ပေါ်လာလိမ့်မယ်။ ဒီတစ်ခါကျတော့ ပထမ နှာသီးဖျားမှာ ထားတဲ့ စိတ်ကလေးဟာ နှာသီးဖျားမှာ မနေတော့ဘဲ ဖောက်ပြန်လာတဲ့ ဝေဒနာအပေါ် ပြောင်းသွားလိမ့်မယ်။ ပြောင်းသွားတာကို စိတ်ကလေးက ဝေဒနာဆုံးအောင် လိုက်မှတ်ပါ။ ဝရမ်းပြေး တစ်ယောက်ကို စုံထောက်က နောက်မှ မျက်ခြည်မပြတ် လိုက်နေသလို ဝေဒနာကို မျက်ခြည်မပြတ်စေဘဲ ဆုံးအောင် လိုက်ပါ။ ဝေဒနာမဆုံးဘဲနှင့် မတော်ပါနှင့်။

ဒီတော့ ပေါ်လာတဲ့ ရုပ်တွေ၊ သိသိနေတဲ့ နာမ်တွေဟာ ရုပ်ကရှေ့ပြေး၊ နာမ်က နောက်လိုက် ဖြစ်နေတာတွေ မိမိရရ တိကိကျကျ သိလာပါလိမ့်မယ်၊ ဝေဒနာနှင့် သမာဓိ၊ ဝီရိယတို့ကို ညီမျှအောင် ချိန်ဆပြီး အားထုတ်ဖို့ အရေးကြီးပါတယ်၊ ဥပမာ-ဝေဒနာတစ်ကျပ်သားရှိရင် သမာဓိနဲ့ ဝီရိယတို့ကလဲ တစ်ကျပ်သားစီ ရှိပါစေ။ ဝေဒနာတစ်မတ်သား ရှိနေသေးရင် သမာဓိနဲ့ ဝီရိယတို့ကလဲ တစ်မတ်သားစီ ရှိပါစေ၊ ချိန်ခွင်လျှာလို ဘောင်ကိုက်သွားပါစေ၊ သမာဓိက လွန်ကဲနေရင်လဲ ဖြစ်ပျက် ပိတ်သွားတတ်ပါတယ်။ သမာဓိအားနည်းနေရင်လဲ ဝိပဿနာဉာဏ် အမြင်မသန်ဘဲ ရှိ တတ်တယ်၊ သတိကြပ်ကြပ် ပြုပါ။

ဝေဒနာပြင်းထန်လျှင် တော်ချင်တဲ့စိတ်၊ နောက်သို့ တွန့်ချင်တဲ့စိတ် ဖြစ်ပေါ်တတ်တယ်။ တွန့်သွားရင် ဥဒ္ဒစ္စ

ဝင်လာလိမ့်မယ်။ မတွန့်စေနဲ့၊ ရှေးစိတ်ကို နောက်စိတ်က တွန်းတင်ပေးရမယ်။ ဒါကြောင့် ဗုဒ္ဓဘာသာဟာ အချောင်ခို ရေသာလိုက်သမားများနဲ့ အဖက်မတန်ဘူးဆိုခဲ့တာ ဒါမျိုးပဲ၊ တရားထူး မရလျှင် ငါမထဘူးဆိုတဲ့ စိတ်ထားရမယ်၊ ဝီရိယ ရှိပုံနှင့် ပတ်သက်၍ သီဟဠဝတ္ထုတစ်ခု မှတ်သားစရာ ပြောပြ ပါ့မယ်။

အခါတစ်ပါး၌ အရှင်အယျမိတ္တသည် ကဿကလိုဏ် အတွင်း သက်ဆင်း၍ တရားအားထုတ်နေတယ်၊ သူ၏ ဆွမ်းခံ ရွာမှ မုဆိုးမ ဒါယိကာမကြီးနဲ့ သူ၏သမီးက ဆွမ်းအမအဖြစ် လုပ်ကျွေးနေကြတယ်။ တစ်နေ့သ၌တော့ ဒါယိကာမကြီးက ဟောသို့ သွားခါနီးမှာ သူ့သမီးကို မှာတယ်၊ "ငါ့သမီး ဤနေရာ၌ ဆန်၊ ဤနေရာ၌ ထောပတ်၊ တင်လဲရည်နှင့် နို့ရှိတယ်။ သမီးမောင်တော် ကြွလာသော် ဆွမ်းချက်၍ နို့၊ တင်လဲတို့နှင့် ဆွမ်းလောင်းလိုက်ပါဟု မှာနေတယ်၊ ငါ့အတွက်တော့ ဟင်း ရွက်နဲ့ဆန်ကွဲရော ကျိုချက်ပါ"ဟု မှာနေတယ်။

ထိုအခါ အယျမိတ္တအရှင်ကလည်း အနီးအပါးသို့ ရောက် နေတော့ သားအမိနှစ်ယောက် ပြောဆိုသံ ကြားရတယ်။ မိမိကိုယ်ကို ဆုံးမတယ်၊ "အယျမိတ္တ--- သင်သည် ဆွမ်းအမကြီး စကားကို ကြားတယ် မဟုတ်လား၊ သူ့အတွက်တော့ ထမင်း ကြမ်းနဲ့ ပုန်းရည်ဟင်းကို စားမယ်၊ နေ့လယ်စာလဲ ဟင်းရွက်နဲ့ ပုန်းရည်ကို ကျိုစားတယ်၊ မင်းအတွက်တော့ ဆန်ကောင်းနဲ့ ထောပတ်၊ တင်လဲနဲ့နို့ကို လောင်းလိုက်ပါတဲ့။ ဒီလောက် သဒ္ဓါတရားကောင်းလိုက်တဲ့ ဆွမ်းအမကြီးရဲ့ ဆွမ်းကို မင်းကို

ကိလေသာတွေ ထူပျစ်တဲ့ ပုထုဇဉ်အဖြစ်နဲ့ စားလို့ သင့်ပါ့မလား"ဟု မိမိကိုယ်ကိုမိမိ ဆုံးမပြီးလျှင် ဆွမ်းမခံသေးဘဲ ကဿကလိုဏ်သို့သာ ပြန်လှည့်လာတယ်။

ထိုသို့ ပြန်လှည့်လာပြီး သပိတ်၊ သင်္ကန်းတို့ကို သိမ်းဆည်းမြဲ သိမ်းဆည်း၍ "ငါသည် အာသဝေါကုန်ခန်းတဲ့ ရဟန္တာမဖြစ်သမျှ ဤနေရာမှ မထတော့ပြီ" ဟု ဆုံးဖြတ်ကာ အရိုးကြေကြေ အရေခန်းခန်း မထတမ်း ဇွဲသတ္တိဖြင့် အားထုတ်တယ်၊ ဒီလိုအားထုတ်တော့ မွန်းမတည့်မီ အချိန်အတွင်းမှာ ကောင်းစွာ ပွင့်လန်းသော ပဒုမ္မာကြာပန်းကဲ့သို့ အာသဝေါကုန်ခန်းပြီး ရဟန္တာ ဖြစ်သွားတယ်။

အဲဒီလိုဇွဲသတ္တိနဲ့ တွန်းတင်ပေးတာက ဝိဇ္ဇာစိတ်လို့ခေါ်တယ်။ ဝေဒနာထဲမှာ ပူရင်လဲ ပူတာရှိသလား၊ အေးရင်လဲ အေးတာရှိသလား၊ ထုံကျင်ရင်လဲ ထုံကျင်တာရှိသလား တို့ဉာဏ်မျက်စိနဲ့ ရှာကြည့်၊ ရှာကြည့်တော့ ဘာမှမရှိတာ တွေ့ရမယ်။ သုညသဘော သက်သက် ဖြစ်နေတာ တွေ့လိမ့်မယ်။ ဉာဏ်မှာ မြင်လာလိမ့်မယ်၊ ရှုရင်းက ရုပ်နာမ် ကွဲသွားလိမ့်မယ်။ သို့သော် ရုပ်နာမ်ကွဲသွားတာကို မြင်သိဖို့ကတော့ မလွယ်လှဘူး။ စိတ်အားမလျှော့ကြနဲ့။ အယျမိတ္တ မထေရ်လို ရဟန္တာမဖြစ်လျှင် မထဘူးဆိုတဲ့ ဇွဲအားနဲ့ ထုတ်မယ်ဆိုရင် တစ်နေ့ကျ တရားထူးကို ရနိုင်ပါတယ်။

တရားအားထုတ်တာ ကတွတ်ပေါက်က ဗျိုင်းလိုကျင့်ရတယ်။ ကတွတ်ပေါက်က ငါးအပေါ် စောင့်နေတဲ့ ဗျိုင်းဟာ ပေါ်သွားပြီးတဲ့ ငါးကို ပြန်မကြည့်ဘူး။ မပေါ်သေးတဲ့ငါးကို

လှမ်းမကြည့်ဘူး။ သူဟာ ဘာကို အာရုံရှိပြီး ကြည့်နေသလဲဆို ရင် မိမိရှေ့မှာ ပစ္စုပ္ပန်ပေါ်လာတဲ့ ငါးကိုသာ အာရုံစွဲပြီး ဖတ်ခနဲ ကောက်ယူလိုက်မယ်လို့သာ အာရုံစွဲတယ်၊ ကောက်ယူတယ်။ ဒီလိုပဲ ယောဂီပုဂ္ဂိုလ်ဟာလဲ ဖြစ်ပြီးတဲ့ အတိတ်အာရုံတွေလဲ အာရုံမရောက်ရဘူး၊ မဖြစ်သေးတဲ့ အနာဂတ်အာရုံတွေကိုလည်း လှမ်းမမျှော်ရဘူး။ ပစ္စုပ္ပန် တည့်တည့်ပေါ်လာတဲ့ ရုပ်နာမ် တရားကိုသာ ရှုပါ။

သမာဓိအားကောင်းလာရင် မိမိခန္ဓာကိုယ်ကြီး မှန်ထဲမှာ မြင်ရသလို မြင်ရလိမ့်မယ်။ မွှေးညှင်းလေးတွေ၊ မွှေးညှင်းပေါက် လေးတွေကစ၍ မြင်ရလိမ့်မယ်။ ရှုမှတ်နေတာကို မရပ်နဲ့၊ ခံစားမှု ဝေဒနာ ပြင်းထန်လာရင် ရှုတာကလဲ သူ့သဘောသူ ပြင်းထန် လာလိမ့်မယ်။ ဝေဒနာက နုန့်သွားရင် ရှုတာလဲ နုန့်သွားလိမ့်မယ်၊ အချို့သော ယောဂီပုဂ္ဂိုလ်များမှာ အလွန် ကြောက်စရာ လန့်စရာ ကောင်းလောက်အောင် ရုပ်တရားကြီး ဖောက်ပြန်မှု တွေ့ရတယ်။ အဲဒီလို ဖောက်ပြန်မှုတွေဟာ ဝဋ်ကြွေးဆပ်ရတာပဲလို့ ဆိုတယ်၊ သံသရာကြွေးဆပ်ရတယ်လို့ ဆိုတယ်။ ဒီလို ဖြစ်တာဟာ ပုဂ္ဂိုလ်တိုင်းတော့ မဟုတ်ပါဘူး၊ ဖြစ်လာလို့ရှိရင်လဲ ဘာမှ မကြောက်ပါနဲ့၊ ကိုယ်ဖြစ်ချင်သလို ဖြစ်တာမှ မဟုတ်ဘဲ သူ့သဘောနဲ့ သူဖြစ်တာ၊ မိအောင်ရှု၊ မိအောင်ဖမ်းပါ၊ သည်းခံ၍နေပါ၊ ခန္ဓာကိုယ် သည်းခံနိုင်ရင် တစ်လောကလုံး သည်းခံနိုင်တော့တာပါ။

* * * * *

## ၁၆။ ကြောက်သင့်တာ မကြောက်

တရားအားထုတ်တဲ့ ပုဂ္ဂိုလ်များ သိထားဖို့ကတော့ သမထယာနိကပုဂ္ဂိုလ်၊ ဝိပဿနာယာနိကလို့ နှစ်မျိုးရှိတယ်၊ သမထယာနိကပုဂ္ဂိုလ်များကတော့ ပထမ ပညတ်အာရုံတွေ အရင်ပေါ်ပြီးနောက်မှ မိမိခန္ဓာကိုယ်ရဲ့ ဖြစ်ပျက်မှုတွေကို မြင်လာရင် ဉာဏ်စဉ်တက်၍ တရားထူး ရကြတယ်၊ ဝိပဿနာယာနိကပုဂ္ဂိုလ်များကတော့ သမာဓိကောင်းကောင်း ရလာတယ်ဆိုရင် ခန္ဓာကိုယ်မှာရှိတဲ့ ရုပ်နာမ်ဖြစ်သော ပရမတ္ထသဘောတရားတို့၏ အနတ္တအနေဖြင့် သူ့အလိုအလျှောက် ပေါ်ပေါက်လာသော အဖြစ်အပျက်ကို ဉာဏ်မျက်စိဖြင့် ထိုးထွင်း၍ သိပြီး ဉာဏ်စဉ်တက်ကာ တရားထူး ရကြပါတယ်။ များသောအားဖြင့် ဝိပဿနာယာနိကနဲ့ တရားထူးတွေ့ကြသော သူတို့မှာ တရားရသော်လည်း ရှုတ်တရက် ရမှန်းမသိ ဖြစ်နေတယ်ပါတယ်။ ဒါကြောင့် သူများမြင်သလို ကိုယ်မြင်မှာပဲလို့ အထင်မစွဲကြပါနဲ့၊ သူ့ပါရမီနှင့် သူမြင်ပုံ မတူကြည့်ကိုလည်း သတိထားဖို့လိုသည်။

ဝေဒနာနဲ့ သမာဓိ ချိန်ခွင်လျှာကို ဘောင်ကိုက်သွားနိုင်အောင် အားထုတ်ဖို့လိုပါသည်။ ဒါကြောင့် မဇ္ဈိမပဋိပဒါ-အလယ်အလတ်လမ်းမှာ အကောင်းဆုံး ဖြစ်ကြသည်ဟု ဆိုကြသည်။ သမာဓိ အားကောင်းလာလျှင် သူ့သဘောအတိုင်း သူပေါ်လာပြီး သိမြင်ပါလိမ့်မယ်၊ 'လျှော့လျှင် မိစ္ဆာ၊ သာလျှင် ဒိဋ္ဌိ'လို့ ဆိုကြသည်။ သဒ္ဓါ၊ ဝီရိယနဲ့သာ အားထုတ်ပါ။ ပါရမီရှိသလောက်တော့ သဘောပေါက်ပါလိမ့်မည်။ ကိုယ့်ကိုယ်ကို

ပါရမီ မရှိဘူးလို့တော့ အားမလျှော့ကြပါနဲ့၊ အလွန်ရခဲတဲ့ လူ့အဖြစ်ကို ရပြီး အလွန်တရာ ကြုံကြိုက်ခဲလှသော မြတ်စွာဘုရားသာသနာတော်နဲ့ တွေ့ဆုံ၍ ဗုဒ္ဓဘာသာဝင်ဆိုတဲ့ မှန်ကန်သော အယူကို ယူခွင့်ရကြတဲ့အခါ တရားအားမထုတ်မိရင် ဗုဒ္ဓဘာသာတိုင်းပြည်ဆိုသည့် နာမည်ကိုလဲ အားနာဖို့ကောင်းတယ်၊ ဗုဒ္ဓဘာသဝင်ဆိုတဲ့အဖြစ်ကိုလည်း အားနာဖို့ကောင်းတယ်၊ 'တုစ္ဆော ဝတ ဗုဒ္ဓဝါဒီ' နော်၊ ဗုဒ္ဓဘာသဝင် ဖြစ်ရတာ အလကားပဲအဖြစ်မျိုး ဖြစ်သွားပါလိမ့်မည်။

'ဧကာယနော ဘိက္ခဝေ အယံ မဂ္ဂေါ သတ္တာနံ ဝိသုဒ္ဓိယာ' ဟု မဟာသတိပဋ္ဌာန်သုတ်မှာ မြတ်စွာဘုရား ဟောကြားထားခဲ့ပါသည်။ ချစ်သားတို့၊ သတ္တဝါတို့ နိဗ္ဗာန်ရောက်ကြောင်း လမ်းကောင်းမှာ ဤမဂ္ဂင်းတည်းဟူသော လမ်းကြောင်းတစ်ခုသာ ရှိတယ်။ လမ်းများပြီး ဆန်းပြားနေစရာ မလိုပါဘူး။ ကမ္မဋ္ဌာန်းဆရာ ပြသည့်အတိုင်းသာ မဆိုင်းမဟုတ် အားထုတ်ကြပါ။

တရားအားထုတ်တယ်ဆိုတာ ထမင်းစားသလိုပဲ၊ စားဖို့က ကိုယ့်တာဝန်၊ (၃၂)ကောဋ္ဌာသထဲ ဝင်သွားဖို့က ထမင်းအလုပ်၊ ထမင်းတာဝန်ပဲ။ ထိုနည်းအတူ ဆရာပြောသည့်အတိုင်းသာ ကြိုးစားပြီး အားထုတ်ဖို့ လိုတာပဲ၊ ဝိသုဒ္ဓိအစဉ် ဉာဏ်အစဉ်တွေက အားထုတ်ရင်းနဲ့ သူ့အလိုလို ဖြစ်ပေါ်လာပါလိမ့်မယ်။ ပါရမီဆိုတာလဲ "ဘူးသီး, ခရမ်းသီးလို" လေတိုက်တိုင်း ကြီးထွားလာမည် မဟုတ်ဘူး၊ မိမိက ကြိုးစားအားထုတ်မှ တဖြည်းဖြည်း ပြည့်လာနိုင်တယ်၊ အားမထုတ်ကြရင်တော့ လာလမ်းဖြစ်သည့် အပါယ်လေးပါးသို့ ပြန်သွားကြရမှာပဲ။ ထို့ကြောင့် အားထုတ်နိုင်အောင် အားထုတ်ကြပြီး တရားထူး တရားမြတ်ကို တွေ့ကြပါစေလို့ ဆုတောင်းပါတယ်။

ကျွန်ုပ်စာရေးသူသည် လွန်ခဲ့သော ၁၃၃၃-ခုနှစ်က မိမိ၏ သားဖြစ်သူ အရာခံဗိုလ် မောင်စိန်တင် သဲအင်းဂူ ကမ္မဋ္ဌာန်းကျောင်းတိုက်သို့ သွားပြီး ဒုလ္လဘရဟန်းခံသည့် ကိစ္စနှင့် ပတ်သက်၍ မှော်ဘီမြို့ နှောကုန်းရွာ သဲအင်းဂူကျောင်းသို့ ရောက်သွားပါသည်။ ရဟန်းခံမည့်နေ့တွင် နံနက်ခင်း သိမ်ဝင်၍ ရဟန်းတော်များလဲ ဆွမ်းစားကြ၊ လူပရိတ်သတ်များလဲ ထမင်းစားသောက်ကြပြီးနောက် နေ့လည်ပိုင်း တစ်နာရီထိုးလောက်တွင် တရားအားထုတ်လိုကြသော ပုဂ္ဂိုလ်များ အားထုတ်ရာဌာနသို့ ကြွကြပါဟု ဖိတ်ခေါ်သဖြင့် နှစ်နာရီလောက်သွားရောက် တရားအားထုတ်ရာတွင် ကမ္မဋ္ဌာန်းဆရာတော်က ရှေးဦးစွာ အားထုတ်ပုံကို ဟောပြောပြသပါသည်။

ယခင် ပြဆိုခဲ့သည့်အတိုင်း ကြာရှည်စွာ ထိုင်နိုင်မည်။ ဣရိယာပုတ်နှင့် ကိုယ်ကြိုက်သလို ထိုင်ကြပါ။ မျက်စိကိုတော့ ပိတ်ထားပြီး နှာသီးဖျားများ စိတ်ကိုထား၍ သူ့သဘောအတိုင်း ရှူရှိုက်နေသည့် ဝင်လေထွက်လေကို သတိထားပြီး သိနေပါသည့် ဝင်လေထွက်လေကို သတိထားပြီး သိနေပါတယ်။ အာရုံတခြား မရောက်ပါစေနဲ့။ ညောင်းတယ်၊ ယားတယ်၊ ကိုက်တယ်၊ ခဲတယ် စသော ဝေဒနာများ ပေါ်လာသည့်အခါ ဝေဒနာဆုံးအောင် လိုက်ပါဟု ပြောပြီး အနားမှာ ကမ္မဋ္ဌာန်းဆရာတော်က နေ၍ (၃၂)ပါးသော ခန္ဓာကောဋ္ဌာသ အစုအဝေးကြီး ရှိနေသမျှ ကာလပတ်လုံး မျက်စိက မျက်ချေးတွေ၊ နားက နားဖာချေးတွေ၊ နှာခေါင်းက နှာချေးတွေ၊ ပါးစပ်က တံတွေးတွေ၊ ချွဲတွေ ထွက်နေတဲ့အကြောင်းကို ဟောပြောပါသည်။

ထို့နောက် မိမိရဲ့ ခန္ဓာကိုယ်ကြီးမှာ ရွံရှာဖွယ်၊ စက်ဆုပ်ဖွယ်ကောင်းတဲ့ ခန္ဓာကိုယ်ကြီး ဖြစ်တယ်၊ အသက်ရှင်တုန်းက ခင်မင်စရာ နှစ်သက်စရာဟု ထင်နေကြတယ်၊ သေသွားလျှင် သုံးရက်လောက် ရှိတယ်ဆိုရင်ပဲ ဖူးဖူးရောင်ပြီး ပုပ်ပွလာတယ်၊ ဒွါရကိုးပေါက်က ရွံရှာဖွယ် စက်ဆုပ်ဖွယ်ကောင်းတဲ့ အရှည်တွေ စီးလာတယ်၊ သွေးတွေ ထွက်ကျလာတယ်၊ တဟောင်ဟောင်နဲ့ ပုပ်စော်နံလာတယ်၊ ခရုသင်းလို့ အဆင်းပျက်ပြီး အသား၊ အသွေးတွေ ကင်းပြီး အရိုးလောက်သာ ကြွင်းကျန်တော့တယ်၊ ဖရိုဖရဲ ပြန့်ကျဲနေတဲ့ အရိုးတွေသာ ရှိတော့တယ်၊ အရိုးတွေလဲ ဟိုတခြား သည်တခြား ဖြစ်သွားတယ် စသည်ဖြင့် အသုဘ ထင်အောင် ထပ်မံ ပြောကြားပါသည်။ အသုဘကမ္မဋ္ဌာန်း ဖြစ်သည်ဟု သိခဲ့ရပါသည်။

[illegible]တော့ သဲအင်းဂူ ဆရာတော်ကြီး အလောင်းထားရာ သွားပြီး ဖူးမြင်ကြပါတယ်၊ ဆရာတော်ကြီး၏ အလောင်းကို မီးမသင်္ဂြိုဟ်ရသေးပါ။ ရုပ်အဆင်းလဲ မပျက်ပါ၊ အိပ်နေသလိုပဲ ထင်ရပါသည်။ ညခုနစ်နာရီထိုးလောက် ရောက်တော့ တိတ်ခွေနဲ့ အသံသွင်းထားသော ဆရာတော်ကြီး၏ တရားကို ကြားနာခဲ့ ရပါသည်။ သူဟာ တရားရပြီးနောက် မိမိရဲ့ ခန္ဓာကိုယ်ကြီးလဲ အသုဘကောင်ပြီးပဲ ထင်နေတယ်။ သူများကို ကြည့်လဲ အသုဘ ကောင်ကြီးလို့ ထင်နေတယ်၊ နတ်ပြည်က နတ်သား၊ နတ်သမီးတွေ အာရုံပြုပြီး လှမ်းကြည့်လဲ အသုဘကောင်ကြီးလို့ ထင်နေတဲ့ အကြောင်း ဟောပြောတာကို ကြားနာခဲ့ရပါသည်။ ဒါနဲ့ အိပ်ရာဝင်ခါနီးမှာ တရားထိုင်ခဲ့လို့ ကြားနာခဲ့တဲ့ တရား

သံတွေ၊ တိပ်ခွေနဲ့ ဟောပြောတဲ့ ဆရာတော်ကြီး၏ တရားသံတွေကို ပြန်စဉ်းစားရင်း တွေးတောကြည့်တယ်။

ဘယ်လို တွေးတောမိသလဲ ဆိုရင်တော့ လူတွေဟာ မကြောက်သင့်ရာ အရာတွေကို ကြောက်နေကြတယ်၊ ကြောက်သင့်သော အရာတွေတော့ မကြောက်ကြဘူး၊ ဥပမာ-လူသေတယ်ဆိုပါတော့၊ လူသေကောင်နားမှာ တစ်ယောက်တည်း မနေဝံ့ကြဘူး၊ မအိပ်ဝံ့ကြဘူး၊ လူသေကောင်က မင်းကို ဘာလုပ်မှာတဲ့လဲ၊ ဘာမှ မလုပ်ပါဘူး၊ မင်းလဲ ငါ့လို တစ်နေ့သေဦးမှာပဲလို့တောင် တရားပြနေသေးတယ်၊ လူသေမသာက ထလဲ မရိုက်ပါဘူး၊ ဆဲလဲ မဆဲပါဘူး၊ ဒီတော့ ကြောက်စရာမကောင်းပါဘူး၊ ကြောက်စရာကောင်းတာက လူရှင်မသာသာ ကြောက်စရာ ကောင်းတာနော်၊ သေသေချာချာ တွေးကြည့်ကြ၊ လူရှင်မသာဆိုတာ ပညတ်ဝေါဟာရအားဖြင့်သာ လူရှင်လို့ ခေါ်နေကြတာ၊ စင်စစ်တော့ မိမိရဲ့ ခန္ဓာကိုယ်မှာ ရုပ်တွေ၊ နာမ်တွေ၊ စိတ်တွေ၊ စေတသိက်တွေဟာ တစ်စက္ကန့်လောက်မှာ ရုပ်ဆိုရင် ကုဋေ ၅၀၀-လောက်၊ စိတ်၊ စေတသိက် ဆိုတဲ့ နာမ်တွေကတော့ ကုဋေတစ်သိန်းလောက် သေနေကြပါတယ်။ ဒါကြောင့် လူရှင်မသာလို့ အမည်တပ်လိုက်တယ်။

လူတွေဟာ ခံစားမှု၊ သာယာမှုကို ကြည့်ပြီး ချမ်းသာတယ်လို့ ထင်နေကြတယ်၊ ချမ်းသာအစစ်၊ ချမ်းသာအမှန် မဟုတ်ပါဘူး၊ ချမ်းသာအတု ချမ်းသာအယောင်ဆောင်တွေပါ၊ ဘယ်လောက် ချောမောလှပတဲ့အဆင်း ဘယ်လောက်ကောင်းတဲ့ အသံ၊ ဘယ်လောက်မွှေးတဲ့အနံ့၊ ဘယ်လောက် ချိုမြိန်တဲ့ အစား၊ ဘယ်လောက် နူးညံ့သိမ်မွေ့တဲ့အတွေ့ ဖြစ်ပါစေ၊ ကြာလာလျှင် မုန်းလာတာပဲ။ ဒါဟာ ချမ်းသာအစစ်အမှန်

မဟုတ်လို့ပေါ့။ ထိုင်ချင်, အိပ်ချင်လို့ ထိုင်လိုက်, အိပ်လိုက်ပြန်လဲ ခဏပဲ၊ တာရှည်မထိုင်နိုင်ဘူး၊ တာရှည် မအိပ်နိုင်ဘူး၊ ပုထုဇဉ် အမြင်ကတော့ ခံစားရမှ, သာယာရမှ ချမ်းသာတယ်လို့ ထင်တယ်။ အရိယာပုဂ္ဂိုလ်တို့၏ အမြင်ကတော့ မခံစားရမှ, မသာယာရမှ ချမ်းသာတယ်လို့ ထင်တယ်။ တစ်ပိုင်းစီ တစ်နယ်စီ ကွဲပြားခြားနားနေတယ်။ ဒါကြောင့် မြတ်စွာဘုရားက ဥပ္ပါဒေါ ဒုက္ခံ၊ အနုပ္ပါဒေါ သုခံ-လို့ ဟောထားတယ်၊ မဖြစ်တာမှ ချမ်းသာအစစ်တဲ့၊ ဖြစ်တာက ဖြစ်တဲ့ချမ်းသာက ချမ်းသာအစစ် မဟုတ်ဘူး၊ ချမ်းသာအတု, ချမ်းသာယောင်တဲ့၊ အဲဒါကြောင့် မမြဲတာပေါ့၊ သေသေချာချာ စဉ်းစာကြည့်မိတယ်။

ချမ်းသာချင်တဲ့, သာယာချင်တဲ့ လိုချင်တဲ့တဏှာ ချုပ်ငြိမ်းသွားတာမှ ကာကယ်အစစ်၊ တကယ်အမှန်၊ မွန်မြတ်သော နိဗ္ဗာန်ပဲ လို့ မှတ်ရမည်။ ဒါကြောင့် မြတ်စွာဘုရားက "နိဗ္ဗာနံ ပရမံ သုခံ" လို့ ဟောကြားထားတာပါပဲ၊ ကုသိုလ်ကံထောက်မလို့ ဗုဒ္ဓုပ္ပါဒနဝမခေတ်၊ လူဖြစ်တဲ့အခါ ဝိပဿနာဉာဏ် အလင်းရောင် တဝင်းဝင်း ထွန်းပြောင်နေသည့်အခါ ရှုပ်လှတဲ့ဒုက္ခကို သိအောင် ပြုမှသာ သမုဒယပယ်နိုင်မယ် နိဗ္ဗာန်ကို ဒိဋ္ဌေကန် ဆိုက်ရောက်၍ မျက်မှောက်ပြုနိုင်မယ်၊ ဒါကြောင့် ဤတစ်သက်တွင် မဂ္ဂင်တရားကို ပွားများအားထုတ်နေသည်ဟု ဆုံးဖြတ်ရန် လိုပါသည်။

ဤကား သဲအင်းဂူဆရာတော်၏ ဝိပဿနာတရားနှင့် ပတ်သက်၍ တင်လိုက်ခြင်း ဖြစ်ပါသည်။

* * * * *

# ၁၇။ ကသစ်ဝိုင်း ဆရာေ ာ်၏ ဝိပဿနာရှုနည်း
## (စကားပလ္လင်)

ဗုဒ္ဓဘာသာဟု ဆိုအပ်သော မြတ်စွာဘုရား၏ အဆုံး အမတော်သည်-

၁။ သုတ်၊ ဝိနည်း၊ အဘိဓမ္မာတို့ကို မှန်မှန်ကန်ကန် သင်ကြားလေ့ကျက်မှတ်သား ပြောဟောခြင်းဟု ဆိုပါသော ပရိယတ္တိသာသနာ၊

၂။ ဝိနည်းတရားတော်နှင့်တကွ ဓုတင်တေရသ၊ စုဒ္ဒသ ခန္ဓကဝတ်၊ သမထဝိပဿနာတို့ကို ကျင့်ကြံ ကျိုးကုတ် အားထုတ်ခြင်းဟု ဆိုအပ်သော ပဋိပတ္တိ သာသနာ၊

၃။ ဆိုအပ်ပြီးသော ပဋိပတ္တိတရားတို့ကို ကျင့်ကြံ ကျိုးကုတ် အားထုတ်မှုကြောင့် ထိုးထွင်း၍ သိ အပ်သော ဈာန်ချမ်းသာ, မဂ်ချမ်းသာ, ဖိုလ် ချမ်းသာ, နိဗ္ဗာန်ချမ်းသာတို့ကို ခံစားသုံးဆောင် ခြင်းဟု ဆိုအပ်သော ပဋိဝေဓသာသနာ ဟူ၍ သုံးပါးရှိပေသည်။

ယင်းတို့တွင် ပရိယတ္တိသာသနာတော်သည် အရေးကြီးဆုံး ရေသောက်မြစ်ကြီးသဖွယ် ဖြစ်ပါသည်။ ၎င်းပရိယတ္တိသာသနာ တော်ကို အမှန်အားဖြင့် မသိလျှင် အကျင့်မှန် အလုပ်မှန် ဖြစ်သော ပဋိပတ္တိသာသနာလည်း မထွန်းကားနိုင်ချေ။ အကျင့် မှန် အလုပ်မှန် မဟုတ်ပြ ...င်လည်း ဈာန်မဂ်ဖိုလ်၊ နိဗ္ဗာန် ချမ်းသာတို့ကို မခံစား မသုံးဆောင်နိုင်တော့ချေ။ ယခုအခါ ဝိမုတ္တိယုဂခေတ် ပြန်ဖြစ်သဖြင့် ဝိပဿနာကမ္မဋ္ဌာန်းတိုက်တွေ အမျိုးမျိုး၊ အနယ်နယ်၌ အများအပြား ပေါ်ပေါက်လျက်ရှိရာ လိုရာသို့ သွားလာ အားထုတ်နိုင်ကြပါသည်။

မြတ်စွာဘုရား၏ တရားတော်အမွေကို ခံစားသုံးဆောင် ကြရာ၌ တပည့်သားတို့သည် သင်သိ, မြင်သိ, ကြားသိ, နာသိ, မေးမြန်းသိ, ကြံစည်သိဟု ဆိုအပ်သော ပရိယတ္တိအသိဖြင့်လည်း ခံစားသုံးဆောင်လျက် ရှိကြသည်။ အချို့တပည့်သားတို့သည် ကျင့်သိ, အလုပ်သိ, အားထုတ်သိဟု ဆိုအပ်သော ပဋိပတ္တိ အသိဖြင့်လဲ ခံစားသုံးဆောင်လျက်ရှိကြသည်။ တချို့တပည့်သား တို့သည် ကိုယ်တွေ့သိ, ထိုးထွင်းသိဟု ဆိုအပ်သော ပဋိဝေဓ အသိအားဖြင့်လည်း ခံစားသုံးဆောင်လျက် ရှိကြပေသည်။ ရှေးဦးစွာ ပရိယတ္တိအသိဖြင့် ခံစားသုံးဆောင်ကြရအောင် ထိုတရားတို့ကို သင်ကြ...အောင် ထိုတရားတို့ကို သင်ကြား ပို့ချကြားနာ၍ ဒုတိယအနေဖြင့် ကျင့်သိ, အလုပ်သိ, အားထုတ် သိဖြစ်အောင် ကြိုးစားမယုတ် ပဋိပတ္တိအလုပ်ကို အားထုတ် ကြပြီးလျှင် နောက်ဆုံး ပဋိဝေဓအသိဖြစ်သော မဂ်ဖိုလ် နိဗ္ဗာန် ချမ်းသာတို့ကို ခံစားသုံးဆေ ...ကြကုန်ရာသည်။

မြတ်စွာဘုရားသည် သုမေဓာရသေ့ဘဝမှစ၍ ဘုရားဖြစ်သည့်တိုင်အောင် လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်း ကာလပတ်လုံး ပါရမီ (၁၀) ပါး၊ အပြား (၃၀)၊ စွန့်ခြင်းကြီး (၅) ပါး၊ စရိယ (၃)ပါးတို့ကို ဖြည့်ကျင့်တော်မူခြင်းသည် နောက်ဆုံး ပဋိဝေဓ အသိဖြစ်သော မဂ်ဖိုလ် နိဗ္ဗာန်ချမ်းသာကို ကိုယ်တိုင်ခံစားရအောင်၊ သူတစ်ပါးတို့အားလည်း ခံစားသုံးဆောင်နိုင်ကြအောင် ဖြည့်ကျင့်တော်မူခဲ့ခြင်း ဖြစ်လေသည်။ ထို့ကြောင့် ယခုအခါ ဗုဒ္ဓဘာသာဝင်များဖြစ်ကြသော ရဟန်းရှင်လူတို့သည် ဘုရားသားတော်, သမီးတော်များပီပီ အဘဘုရား၏ လိုလားချက်အတိုင်း မဂ် ဖိုလ် နိဗ္ဗာန်ကို လျင်မြန်ထုတ်ချောက် မျက်မှောက်ပြုနိုင်ကြရန် လုံ့လကြိုးကုတ် အားထုတ်ချောက် မျက်မှောက်ပြုနိုင်ကြရန် လုံ့လကြိုးကုတ် အားထုတ်နိုင်ကြပါစေဟု တောင်းပန် တိုက်တွန်းပါသည်။

* * * * *

## ၁၈။ ဝိပဿနာ ရှုပုံရှုနည်း

ကဲ, ကဲ၊ တရားအားထုတ်ကြရအောင်၊ မျက်လုံး လေးမှိတ်ထားကြ။ စိတ်ကို ရင်ထဲမှာထား၊ ပေါ်တာလေးတွေ မှတ်ကြ, မှတ်ကြ၊ ပေါ်တာ ငါးမျိုးရှိတယ်နော် ပူတာရယ်၊ အေးတာရယ်၊ လှုပ်တာရယ်၊ ဆင်းရဲတာရယ်၊ ချမ်းသာတာရယ် ငါးမျိုးနော်။ ပေါ်တာတွေကို ရုပ်ခေါ်တယ်။ ပေါ်တဲ့အခါ သိတာက နာမ်ခေါ်တယ်။ ပေါ်တာနဲ့ သိတာ တခြားစီနော်။ ပေါ်တဲ့ရုပ်ထဲမှာ နာမ်မရှိဘူး၊ နာမ်ထဲမှာလဲ ရုပ်မရှိဘူး။ ကိုယ်တွင်းမှာ သမာဓိသွင်းလိုက်တဲ့အခါ ပေါ်ရင် သိ၊ သိရင် ပျက်သွားတယ်။ အနိစ္စလက္ခဏာပေါ်ရင် သိ၊ သိရင်ပျက်တယ်၊ ဒုက္ခလက္ခဏာပေါ်ရင် သိ၊ သိရင်ပျက်သွားတယ် အနတ္တ လက္ခဏာပေါ်ရင် သိ၊ သိရင် ပျက်တယ်။ ဤကဲ့သို့ ကိုယ်ကိုယ်တိုင် လက္ခဏာသုံးခွင် မြင်ရသလို သူတစ်ပါးကိုလဲ လက္ခဏာသုံးခွင်မြင်အောင် ရှေးရှေးက ဒါနပြုပြီး ဆုတောင်းခဲ့ကြတယ်။ ဆုတောင်းခဲ့ကြသည့်အတိုင်း သာသနာ့တာဝန်ကြီးကို ငါ့တာဝန်ကဲ့သို့ သဘောထား၍ သာသနာပြုနိုင်တဲ့ ပုဂ္ဂိုလ်မြတ်တွေ ဖြစ်ကြပါစေ။

ကဲ, ကဲ၊ ဆက်ကြဦးစို့၊ ခန္ဓာကိုယ်ကြီးအတွင်း သမာဓိသွင်းလိုက်တော့ အနိစ္စလက္ခဏာ၊ ဒုက္ခလက္ခဏာ၊ အနတ္တလက္ခဏာဆိုတဲ့ လက္ခဏာရေးသုံး ^: ထင်လာတာဟာ သမ္မသနဉာဏ်

ခေါ်တယ်၊ ဒီဉာဏ်ပြီးတော့ ပေါ်တုန်း ဖြစ်ပျက်မြင်လာတာ ဥဒယဗ္ဗယဉာဏ်ခေါ်တယ်၊ ကာလသုံးပါး ဖြစ်ပျက်မြင်ရင် သမ္မသနဉာဏ်၊ ပစ္စုပ္ပန် ဖြစ်ပျက်တာမြင်ရင် ဥဒယဉာဏ် ခေါ်တယ်၊ ဥဒယဆိုတာ ဖြစ်တာ၊ ဝယဆိုတာ ပျက်တာ၊ ကိုယ်ထဲမှာ စိုက်ကြည့်ကြ၊ ပေါ်တာလေးတွေနဲ့ ပေါ်လာတာကို သိတာလေးတွေ နှစ်မျိုးနော်။ ပေါ်တာကရုပ်၊ သိတာကနာမ်၊ ခွဲခြားမှတ်။ နမူနာတစ်ခု ပြောမယ်၊ နဖူးလေးမှာ စစ်ကလေး တစ်လုံး ပေါ်လာတယ် ဆိုပါတော့။ ရှေးမဆွက မရှိဘူး၊ ဘွားခနဲ့ပေါ်လာမှ တွေ့ရတယ်။ မီးခြစ်ဆံနဲ့ မီးခြစ်အိမ် နှစ်ခုရှိတယ်။ မခြစ်ခင်က မီးမပေါ်ဘူး၊ ခြစ်လိုက်မှ ပေါ်လာ သလိုပဲ။

မခြစ်ခင်က မီးပေါ်ရဲ့လား၊ မပေါ်ဘူး၊ ခြစ်လိုက်မှ ပေါ်လာ တာ၊ ဒီလိုဘဲ ခန္ဓာမှာ ဖြစ်ပေါ်တိုင်း ဖြစ်ပေါ်တိုင်း အသစ်အသစ် ထင်လာမယ် မြင်လာမယ်ဆိုရင် ဖြစ်တာသိပြီလို့မှတ်။ ကျန်တဲ့ နာတာ အောင့်တာ ကိုက်တာလဲ ထိုနည်းအတိုင်းပဲ။ သိပြီ မဟုတ်လား၊ ရှင်းပြီမဟုတ်လား။

ရုပ်ဖြစ်တိုင်းဖြစ်တိုင်း သိသလို၊ သိတယ်ဆိုတဲ့ နာမ်တရား လေး ပေါ်တိုင်းပေါ်တိုင်း အသစ်ဖြစ်လာတာပဲလို့ ထင်လာမယ် မြင်လာမယ်ဆိုရင် နာမ်ဖြစ်တာ သိပြီလို့မှတ်။ အဲဒီ ရုပ်နာမ်နှစ်ပါး အသစ်အသစ် ဖြစ်တိုင်းဖြစ်တိုင်း သိနေမယ်ဆိုရင် ဥဒယဗ္ဗယ ဉာဏ် ပိုင်ပြီလို့ မှတ်။

ကဲ-ဒါဖြင့် ဝယ-အပျက်ကို သိပုံ ပြောကြစို့။ စောစောက နဖူးလေးမှာ ပေါ်လာတဲ့ စစ်ကလေး ပေါ်လာပြီးလျှင် ပေါ်တဲ့

အတိုင်း အမြဲကည်နေသလား၊ မသိဘူးနော်၊ ပျက်သွားတယ်။ ပျက်သွားတဲ့အခါ ရွှေ့ပြီးတော့ ပျက်သလား၊ မရွှေ့ဘူးနော်၊ တခြားမှာ သွားဖြစ်သလား၊ မဖြစ်ဘူးနော်၊ ပျက်တဲ့ နေရာမှာ ကျန်ရစ်သလား၊ မကျန်ရစ်ဘူးနော်၊ ဥပမာ- မီးခြစ်ဆံနဲ့ ခြစ်လိုက်တဲ့အခါ မီးတောက် ပေါ်လာတယ်၊ ပေါ်တဲ့အတိုင်း အမြဲမတည်၊ ရွှေ့ပြီးတော့မသွား၊ တခြားမှာ မတောက် မကျန်ရစ်ခဲ့ဘဲ တစ်ခါတည်း သေသွားသလိုပဲ။

ခန္ဓာမှာ စိမ့်ခနဲ သိမ့်ခနဲဆိုတဲ့ ပီတိသုခလေးတွေ ပျက်သွားတိုင်း ပျက်သွားတိုင်း ဘာမှ မကျန်ရစ်ပါကလားလို့ သိမယ်ဆိုရင် ချမ်းသာ ပျက်တာ သိပြီလို့ မှတ်၊ ရှင်းရဲ့ မဟုတ်လား။ ပေါ်တဲ့ရုပ် ပျက်တာ သိပြီးနောက် မှတ်တဲ့နာမ်လဲ မှတ်ပြီးတော့ ပျက်ပျက်သွားတာ။ အမြဲမတည်တာ၊ ရွှေ့ပြီးတော့ မသွားတာ၊ တခြားရောက်မသွားတာ၊ မကျန်ရစ်တာကော သိပြီလား။ သိမယ်ဆိုရင် ရုပ်နာမ်နှစ်ပါး အသစ်သစ်ဖြစ်တာကို မြင်မယ်ဆိုရင် ဥဒယဗ္ဗယဉာဏ် ပိုင်ပြီလို့မှတ်၊ အဲဒါ ပရမတ် ပျက်တာကို သိတော့တာပဲ။ ရုပ်ဟောင်း, နာမ်ဟောင်းတွေ ပျက်ပျက်ပြီးတော့ ရုပ်သစ်, နာမ်သစ်တွေ ဆက်ဆက်နေလို့သာ ပျက်တာမသိကြတာ။

ရုပ်ဟောင်း, နာမ်ဟောင်းတွေ ဖြစ်ပျက်ပြီး ဘာမှ မကျန်ရစ်ဘူးဘို့ သိတာ မြင်တာ ပရမတ္ထသစ္စာလို့ ခေါ်တယ်၊ ကျန်ရစ်တယ်လို့ တင်ထာ သမ္မုတိသစ္စာလို့ ခေါ်တယ်။ လောကမှာ လူတွေ သေကြတာ၊ သတ္တဝါတွေ သေကြတာ နှစ်မျိုးရှိတယ်။ ဥပပတ္တိ နတ်တွေ၊ ဗြဟ္မာတွေ သေမယ်ဆိုရင် အလောင်းမကျန်ရစ်ဘူး၊ ဂဗ္ဘသေယျက, သံသေဒဇဖြစ်တဲ့ လူတွေ, ခွေးတွေ,

ငှက်တွေ သေမယ်ဆိုရင် အလောင်းကောင် ကျန်ရစ်ခဲ့တယ်။ ဒီလို သမ္မုတိသစ္စာ ပညတ်နယ်က ဆိုရင် နှစ်မျိုးရှိတယ်။ ပရမတ္ထသစ္စာနယ်ထဲ ချကြည့်လိုက်မယ်ဆိုရင် မကျန်ပျက်ချည်းပဲ။

အပျက်တစ်ခု မြင်လိုက်ရင် အနိစ္စ၊ ဒုက္ခ၊ အနတ္တ ဆိုတဲ့ လက္ခဏာရေးသုံးပါးဟာ အလိုလို ဝင်လာဟာပဲ၊ တဏှာ၊ မာန၊ ဒိဋ္ဌိဆိုတဲ့ အစွဲသုံးပါးဟာ အလိုလို ဝင်သွားတာပဲ။ ဒါကြောင့် ကသစ်ဝိုင်း ဆရာတော်ဘုရားကြီးက "အပျက်တစ်ခုမြင်၊ လက္ခဏာရေးသုံးပါး အတွင်းဝင်၊ တစ်ခုစီသာထင် အစွဲသုံးပါးဝင်" ဟု အမိန့်ရှိတယ်။

ရှေးရှေးက ရုပ်တွေ, နာမ်တွေ ပေါ်သိပြီး ဖြစ်ပျက်သွားတယ်။ အခုလဲ ပေါ်သိပြီး ဖြစ်ပျက်သွားတယ်၊ နောင်လဲ ပေါ်သိပြီး ဖြစ်ပျက်သွားမှာပဲလို့ ထင်မြင်လာရင် သမ္မသနဉာဏ်ပဲ၊ ဥဒယဗ္ဗယဉာဏ်အတွက် ပြောမယ်ဆိုရင် လက်ငင်းပေါ်သိတိုင်း ပေါ်သိတိုင်း ဖြစ်ပျက်ပါတယ်။

အဲဒီအပျက်ကလေးကို မြင်လို့ မမြဲတဲ့သဘောလေး သိလိုတ်ရင် အနိစ္စလက္ခဏာ ဝင်လာတာပဲ့၊ မြဲအောင် အောင့်လို့ မရတဲ့ သင်္ခါရ ဒုက္ခလက္ခဏာ ဝင်လာတာပဲ။ အစိုးမရ၊ အလို မလိုက်တဲ့ အနတ္တ လက္ခဏာ ဝင်လာတာပဲ။

ရှေးက ဘိုးဘွားမိဘတွေ ပြောကြတယ် မဟုတ်လား။ "အနတ္တ ငါမဟုတ်ပါတကား၊ အနတ္တ ကိုယ်မဟုတ်ပါတကား၊ အနတ္တ အစိုးမရပါတကား" လို့ ပြောကြတာ ကြားဖူးပါလိမ့်မယ်။ ဘယ်မှာ ငါ ဟုတ်နိုင်မလဲ၊ ရုပ်နာမ်သာ ရှိတာ၊ ရှိတဲ့ ရုပ်နာမ်ကလဲ

ဖြစ်ပျက်ပြီး ဘာမှ မကျန်ရစ်ပဲ၊ ကျန်ရစ်မှ ငါဆိုတဲ့ အတ္တရှိတယ်လို့ ဆိုနိုင်တာပေါ့။

ဒါကြောင့် အနတ္တ ငါမဟုတ်ဘူးဆိုတာ မှန်တယ်၊ အတ္တ ဆိုရတဲ့ ကိုယ်မှ မကျန်ရစ်တော့ အနတ္တ ကိုယ်မဟုတ်ဘူး ဆိုတာ မှန်တယ်၊ အနတ္တ အစိုးမရပါတကားလို့ ဆိုတာလဲ မှန်တယ်။

အထူး သိမှတ်ဖို့ရာမှာ မူလဋီကာဆရာကြီးက-အပျက်ကြီး တစ်ခုမှာ လက္ခဏာရေးသုံးပါး ထင်ပေမယ့် တစ်ပြိုင်နက် မထင် ဘူးလို့ ဆိုတယ်။ ဘာကြောင့်လဲဆိုတော့ သုံးသိ သုံးဉာဏ် တစ်ပြိုင်နက် မဖြစ်နိုင်လို့တဲ့။ လက္ခဏာရေးသုံးပါးထင်တဲ့အခါမှာ ဘယ်လက္ခဏာကစပြီး ထင်သလဲဆိုရင် အနိစ္စလက္ခဏာက စထင်သတဲ့။ ဒါကြောင့် မူလဋီကာမှ 'အနိစ္စမေဝေတ္ထ ပဓာနံ'လို့ ဖွင့်ပြတယ်။ ဧတ္ထ၊ ဤသို့ ထင်ရာ၌။ အနိစ္စမေဝ၊ အနိစ္စ လက္ခဏာသည် သာလျှင်။ ပဓာနံ၊ ပြဓာန်းဖြစ်၏တဲ့။

လက္ခဏာရေးသုံးပါး ထင်ပုံကတော့ ပေါ်ရင်သိ၊ သိပြီးရင် ပျက်သွားတာမြင်တော့ အနိစ္စလက္ခဏာ ထင်တာပေါ့၊ ထိုင်ရင်လဲ ထိုင်ရင်းပျက်၊ အိပ်ရင်လဲ အိပ်ရင်းပျက် ဖြစ်နေတာတွေ မြင်တော့ သဏ္ဍာနဒုက္ခ ထင်လာတယ်။ ပူချည်တစ်လှည့်၊ အေးချည်တစ်လှည့်၊ ထုံချည်တစ်လှည့်၊ ကျင်ချည်တစ်လှည့် အမျိုးမျိုးပြောင်းလဲပြီး ဆင်းရဲတာ ထင်တော့ သန္တတိဒုက္ခ ထင်လာတယ်။

အဲဒီလို သန္တတိဒုက္ခတွေ ထင်ထာများလာတော့ တစ်နေ့ကျ အိုရမှာပဲ၊ နာရမှာပဲ၊ နောက်ဆုံး သေတောင် သေရမှာပဲလို့ ထင်လာတဲ့အခါ အဒ္ဓါနဒုက္ခလက္ခဏာဟာ အလိုလို ထင်လာပါတယ်။

အထူး သတိထားရမှာကတော့ အနိစ္စလက္ခဏာကို သန္တတိ ၂ညတ်က ဖုံးလွှမ်းထားတတ်တယ်၊ ဖြစ်ပျက်နေတာ အစဉ်က မပျက်တော့ တစ်ခုတည်း ထင်တတ်တယ်၊ ဒုက္ခလက္ခဏာကို ဣရိယာပုတ်က ဖျက်တတ်တယ်၊ ထိုင်လို့ ညောင်းလာတဲ့ ဒုက္ခကို သွားလိုက်ရင် သက်သာသွားတော့ ညောင်းတဲ့ ဒုက္ခလက္ခဏာ ပျောက်သွားတတ်တယ်၊ အနတ္တလက္ခဏာကို ဃနပညတ်က ဖုံးလွှမ်းတတ်တယ်၊ တစ်ခဲနက် မပျက်တဲ့အရာဝတ္ထုလို့ ထင်သွားတတ်တယ်။

ဒါကြောင့် သာသနာ့အပြင်က တိတ္ထိကြီးတွေဟာ ခန္ဓာကိုယ်ကြီးရဲ့ အနိစ္စဖြစ်ပုံ၊ ဒုက္ခဖြစ်ပုံကိုတော့ သူတို့ ဝန်ခံကြတယ်၊ အနတ္တကိုတော့ လက်မခံချင်ကြဘူး၊ အတ္တလို့ပဲ စွဲနေကြတယ်။ အနှစ်သာရလေးတော့ ရှိတယ်လို့ပဲ သူတို့ ယူကြတယ်။

သတ္တဝါတွေဟာ ကြိုက်တာက မြဲတာ ကြိုက်တယ်၊ ရုပ်နာမ်ဓမ္မ သင်္ခါရတွေက မမြဲကြဘူး၊ သတ္တဝါတွေက ချမ်းသာတာ ကြိုက်တယ်၊ ရုပ်နာမ်ဓမ္မ သင်္ခါရတွေက ဆင်းရဲကြတယ်။ သတ္တဝါတွေက အလိုဆန္ဒအတိုင်း ဖြစ်တာကို ကြိုက်တယ်၊ ရုပ်နာမ်တွေ သင်္ခါရတွေက အလိုဆန္ဒ မလိုက်ကြဘူး။

လက္ခဏာရေးသုံးပါးထင်မှ ဉာဏ်စဉ်လဲ တက်မယ်၊ မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်၊ နိဗ္ဗာန်ကို ရောက်မယ်၊ အဖြစ်ကို မြင်ရင်

ဉစ္ဆေဒဒိဋ္ဌိ ကွာတယ်၊ အပျက်ကို မြင်ရင် သဿတဒိဋ္ဌိ ကွာတယ်၊ အနိစ္စထင်ရင် မာနကွာတယ်၊ ဒုက္ခထင်ရင် တဏှာကွာတယ်၊ အနတ္တထင်ရင် ဒိဋ္ဌိ ကွာတယ်၊ လက္ခဏာသုံးပါး မထင်သမျှ ဘယ်ပော့မှ မဂ်မကျနိုင်ဘူး မြဲမြဲမှတ်ပါ။

ယခုကာလ မာနကြီးတာတွေ၊ ဘဝင်မြင့်တာတွေ၊ ခြေဖျား ထောက်တာတွေဟာ အနိစ္စတစ်လုံး မမြင်လို့ မှတ်၊ မာနရောဂါ ပျောက်ချင်ရင် အနိစ္စဆေးကို သောက်ရမည်။ သူဌေးဖြစ်ချင်တာ၊ မင်းဖြစ်ချင်တာ၊ နတ်ဖြစ်ချင်တာ၊ ဗြဟ္မာ ဖြစ်ချင်တာဟာ ဒုက္ခကို မမြင်လို့ လိုချင်တာတွေ ပျောက်ချင်ရင် ဒုက္ခဆေးကို သောက်၊ သံခါရဒုက္ခ ထင်လာရင် ဘာစည်းစိမ်မှ မလိုချင်တော့ဘူး။

ငါ၊ သူတစ်ပါး၊ ယောကျ်ား၊ မိန်းမဆိုတဲ့ အယူလွဲ၊ အယူမှား ဒိဋ္ဌိတွေ ပျောက်ချင်ရင် အနတ္တဆေးကို သောက်၊ အဲဒီအစွဲကြီး သုံးပါးကို ပပဉ္စတရားလို့ ခေါ်တယ်၊ ဘာဖြစ်လို့လဲ ဆိုတော့ သံသရာထဲ ကြာကြာနေရအောင် ချဲ့ထွင်တတ်လို့တဲ့။ အပါယ် ဘေးကြီးက ယခုထက်ထိ မလွတ်သေးတာလဲ ဒီတရားကြီးတွေ ကြောင့်ပဲ။

ယောဂီတို့သန္တာန်မှာ တိုက်တိုက်ကြည့်၊ ရုပ်နာမ်ဖြစ်တိုင်း ဖြစ်တိုင်း အမြဲတမ်း အသစ်လို့ ထင်မြင်နေခြင်း၊ အင်္ဂါတစ်ပါး ဖြစ်ပြီးလျှင် လျှပ်တစ်ပြက်မျှမက ပျက်သွားပါကလားလို့ ထင်နေခြင်း၊ အင်္ဂါတစ်ပါး ပျက်တဲ့နေရာမှာ ဘာမှ မကျန်ရစ်ပါ ကလား၊ အနှစ်မရှိပါတကားလို့ ထင်နေခြင်း၊ ဤအင်္ဂါသုံးပါးနှင့် ပြည့်စုံမယ်ဆိုရင် ဥဒယဗ္ဗယဉာဏ် အနုစားပိုင်ပြီလို့ မှတ်၊ ဂရုကဝိပဿကပုဂ္ဂိုလ်လို့ ခေါ်နိုင်တယ်၊ ကလျာဏပုထုဇဉ်လို့လဲ ခေါ်နိုင်တယ်၊ စူဠသောတာပန်လို့လဲ ခေါ်နိုင်တယ်။

## ၁၉။ ဝိပဿနာ၏ အညစ်အကြေး (၁၀)ပါး

ဒီအဆင့်ရောက်လာရင် သင်္ဂြိုဟ်ကျမ်းမှာ -

ဩဘာသော ပီတိ ပဿဒ္ဓိ၊

အဓိမောက္ခော စ ပဂ္ဂဟော၊

သုခံ ဉာဏမုပဋ္ဌာန၊

မုပေက္ခာ စ နိကန္တိ စ။

ဆိုသည့်အတိုင်း အရောင်ထွက်လာတယ်၊ ထွက်လာရင် စိတ်တည်လို့ သမာဓိရင့်တာလို့ ထွက်တဲ့အရောင်က တစ်မျိုး၊ ဖြစ်ပျက်မြင်လို့ ထွက်တဲ့ ဝိပဿနာအရောင်က တစ်မျိုးလို့ နှစ်မျိုး ရှိတယ်၊ စိတ်တည်လို့ ထွက်လာတဲ့ အရောင်ကလဲ စိတ်ကြောင့် ဖြစ်တဲ့ အရောင်ကတစ်မျိုး၊ ဥတုကြောင့်ဖြစ်တဲ့ အရောင်ကလဲ တစ်မျိုး၊ နှစ်မျိုးရှိတယ်။

စိတ်ကြောင့် ထွက်တာက မထင်ရှားဘူး၊ ဥတုကြောင့် ထွက်တာက ဝေးဝေးလံလံ အပြင်သို့ ထွက်သွားနိုင်လို့ ထင်ရှားတယ်။ ထွက်တဲ့အရောင်ကို ယောဂီတစ်ဦးသာ မြင်နိုင်တယ်၊ တခြားလူ မမြင်ရဘူး။ ဒီအရောင်ဟာ ဝိပဿနာအရောက်ပဲလို့ ဆုံးဖြတ်လိုက်၊ အဲဒီအရောင်လဲပဲ ဝိပဿနာအညစ်အကြေး တစ်ပါးလို့ မှတ်ထားကြ။

ပီတိငါးမျိုးလဲ ပေါ်တတ်တယ်၊ နည်းနည်း ဝမ်းသာကြည်နူးတာက ခုဒ္ဒကာပီတိတဲ့၊ ရင်ထဲမှာ အေးပြန်တော့ ကြက်သီးထသလို ဖြစ်တာမျိုးက ခုဒ္ဒကပီတိတဲ့။ ဖိန်းခနဲ ရှိန်းခနဲဖြစ်တဲ့ ပီတိကတော့ ခဏိကာပီတိ ခေါ်တယ်၊ ဝါဂွမ်းများ လေတိုက်တဲ့အခါ အပေါ်မှာ မြန်မြန်လွင့်သွားသလို မိမိခန္ဓာကိုယ်ကြီးကို မြောက်တတ်ပြီးတော့ သွားတဲ့ ပီတိမျိုးက ဥဗ္ဗေဂါပီတိလို့ ခေါ်တယ်။

ဂွမ်းများ ဆီထိသလို စိတ်ကြည်နူးပြီး သကာလူး လေပြည့်သော ပန်းပဲဖိုကြီး ဖောင်းနေသလို ဖြစ်တဲ့ ပီတိမျိုးကတော့ ဖရဏာပီတိလို့ ခေါ်တယ်။ ထိုအခါ စိတ်ကြည်နူး၍ အင်မတန်ချမ်းသာပြီး နေတတ်တယ်။ အဲဒီလို ပီတိတွေ ပေးလာခြင်းလဲ ဝိပဿနာ၏ အညစ်အကြေးတစ်ပါးလို့ မှတ်ထားကြ။

ဩဘာသော ပီတိ ပဿဒ္ဓိလို့ သင်္ဂြိုဟ်မှာ ဆိုသည့်အတိုင်း စိတ်အေးကိုယ်အေးဆိုတဲ့ ကာယပဿဒ္ဓိ၊ စိတ္တပဿဒ္ဓိလဲ ပေါ်

တတ်တယ်။ ပဿဒ္ဓိတရားတစ်စုံ ပေါ်လာတယ်ဆိုင် ကာယလဟုတာ၊ စိတ္တလဟုတာ၊ ကာယမုဒုတာ၊ စိတ္တမုဒုတာ၊ ကာယကမ္မညတာ၊ စိတ္တကမ္မညတာ၊ ကာယပါဂုညတာ၊ စိတ္တပါဂုညတာ၊ ကာယုဇုကတာ၊ စိတ္တုဇုကတာဆိုတဲ့ ယှဉ်ဖော်ယှဉ်ဖက် တရားတွေကိုလဲ အဝိနာဘာဝနည်းအားဖြင့် ပေါ်လာတတ်တာပါပဲ၊ စိတ်ပေါ့ ကိုယ်ပေါ့၊ စိတ်နူးညံ့ ကိုယ်နူးညံ့၊ စိတ်ခံ့ကိုယ်ခံ့၊ စိတ်ချမ်းသာ ကိုယ်ချမ်းသာ၊ စိတ်ဖြောင့် ကိုယ်ဖြောင့်လဲ ဖြစ်လာတတ်တာပဲ၊ ဒီလို ပဿဒ္ဓိစသော အစုံခြောက်စုံ ပေါ်လာခြင်းလဲ ဝိပဿနာ၏ အညစ်အကြေးတစ်ပါးလို့ မှတ်ထားကြ။

အဓိမောက္ခဆိုတာတော့ သဒ္ဓါတရားကို ကောက်ရတယ်၊ သဒ္ဓါဆိုပေမယ့် အင်မတန် စိတ်ကြည်လင်တဲ့ သဒ္ဓါမျိုးကို ဆိုတယ်၊ ဒီသဒ္ဓါလေး ဝင်လာပြီဆိုရင် စိတ်နောက်တွေ, စိတ်ကောက်တွေ အကုန်လုံး ပျောက်သွားတာပဲ။

ပဂ္ဂဟဆိုတာကတော့ အားထုတ်မှုကို ခေါ်တယ်။ တရားကိုယ်ကောက်ရင် ဝီရိယပါပဲ၊ သုခကတော့ အများသိကြသည့်အတိုင်း စိတ်ချမ်းသာတာကို ဆိုတာပဲ။ သုခဝေဒနာပေါ့။ ဉာဏအရကတော့ ဒီနေရာမှာ ဝိပဿနာဉာဏ်ကို ကောက်ရမယ်။ ဝရဇိန်လက်နက် မိုးကြိုးစက်ကဲ့သို့ ထက်မြက်သော ဝိပဿနာပညာပဲ၊ ထိုဉာဏ်ကြောင့် ရုပ်နာမ်တို့၌ ရှုလိုက်တိုင်း ရှုလိုက်

တိုင်း အဖြစ်အပျက်ကို ကွက်ကွက်ကွင်းကွင်း ထင်ထင်လင်းလင်းကြီး မြင်လာတာ၊ ဥပဋ္ဌာနအရကတော့ သတိပါ၊ အဲဒီသဒ္ဓါ၊ ဝီရိယ, သုခဝေဒနာ, ပညာ, သတိ- ငါးပါးတို့လဲ ဝိပဿနာ၏ အညစ်အကြေးတွေပဲ။

ဥပေက္ခာအရက (၁) တတြမဇ္ဈတ္တုပေက္ခာ၊ (၂) အာဝဇ္ဇနုပေက္ခာလို့ နှစ်မျိုးရှိတယ်၊ ဖြစ်ပျက်သဘောတွေ အလွန်ထင်နေတော့ အထူးမရှုရတော့ဘဲ အသင့်အားဖြင့် ရှုစားသော တတြမဇ္ဈတ္တာစေတသိက်ကိုလဲ ကောက်နိုင်တယ်။

ဖြစ်ပျက်မှုကို ဆင်ခြင်သောအခါ လျင်မြန်စွာ ဆင်ခြင်နိုင်သော အာဝဇ္ဇန်းနှင့် ယှဉ်သောစေတနာဖြစ်တဲ့ အာဝဇ္ဇနုပေက္ခာကိုလဲ ယူနိုင်တယ်၊ နိကန္တိကဆိုတာက ထိုဩဘာသ [illegible] အရောင်အလင်းတို့ဖြင့် ပြောင်ဝင်းနေတဲ့ ဝိပဿနာဉာဏ်ကို နှစ်သက်ခင်မင် သာယာနေတဲ့ ဝိပဿနာ၏ အညစ်အကြေးပါပဲ။ သို့အတွက် ဝိပဿနာအညစ်အကြေး (၁၀)ပါး ရှိကြတယ်နော်၊ မှတ်ထားကြ၊ မှတ်ထားကြ။

ဒီအညစ်အကြေး (၁၀)ပါးပင် မဂ်ထင်တတ်တယ်။ ငါဟာ ကိစ္စပြီးပြီ တရားအားထုတ်ထို့ မလိုတော့ဘူး။ မဂ်ထင်ပြီး ဆင်ခြင်နေတတ်တယ်။ ဆင်ခြင်နေရင် စိတ်ပျံ့လွင့်သွားတတ်တယ်။ စိတ်ပျံ့လွင့်သွားရင် ဖြစ်ပျက် မမြင်တော့ဘူး။ အနှောင့်အယှက် ဥဒ္ဒစ္စ ဝင်လာတာ။ ရန်သူဝင်လာတာကို ဝင်လာရင် ဝီရိယဗိုလ်နဲ့ တိုက်ဖျက်လိုက်၊ မတိုက်ဖျက်နိုင်ရင်

လက္ခဏာရေးသုံးပါး မထင်တော့ဘူး။ သူရောက်လာတာက ဥဒယဗ္ဗယဉာဏ် ရောက်လာတာ ဖြစ်တယ်၊ သူထင်တာက မဂ်ဉာဏ်, ဖိုလ်ဉာဏ် ရောက်တယ်လို့ ထင်နေတယ်၊ ရောက်တာက ပဲခူးရှိသေးတယ်၊ သူထင်တာ ရန်ကုန်ထင်နေရင် ဘယ်နေရာကျတော့မလဲ။

အာရဒ္ဓဝိပဿက ပုဂ္ဂိုလ်ဆိုပေမယ့် ပုထုဇဉ်ပဲ ရှိသေးတယ်၊ အထင်ကြီးပြီး ငါ သောတာပန်ပုဂ္ဂိုလ်ပဲလို့ မစွဲလိုက်နဲ့၊ ရန်သူ မာနဝင်သွားမယ်၊ မာနဝင်ရင် အနှောင့်အယှက်ရန်သူ ဝင်လာတာပဲ၊ ထင်ပြီးသာ အရင်းလေးဖြစ်တဲ့ ဥဒယဗ္ဗယဉာဏ်လေးတောင် ပျောက်သွားဦးမယ်၊ ဒီဝိပဿနာအညစ်အကြေး (၁၀)ပါးကို မဂ်ဟုတ်လေသလား၊ မဟုတ်လေသလားလို့လဲ ဝိစိကိစ္ဆာ မဖြစ်နဲ့၊ သူလဲရန်သူ၊ ပညာဗိုလ်နဲ့ တိုက်ဖျက်လိုက်၊ ပညာဗိုလ် အားကောင်းလာရင် သို့လော၊ သို့လော မဖြစ်တော့ဘူး၊ သူဟာ မဂ်အစစ်မဟုတ်ဘူး။ မဂ်အတုပဲလို့ သိတယ်၊ သိရင် မဂ္ဂါမဂ္ဂဉာဏ ဝိသုဒ္ဓိစခန်းသို့ ရောက်သွားပြီ။

အဲဒီလို ထင်ပြီး ဖြစ်ပျက်ကို ထပ်ရှုရင် ဝိပဿနာမဂ်၊ ပုဗ္ဗဘာဂမဂ်ဆိုတဲ့ ဥဒယဗ္ဗယဉာဏ် ပြန်ထင်လာတယ်၊ အရိယာမဂ်သို့ မရောက်ခင် ရှေ့ပြေးထင်တဲ့ မဂ်လို့ ဆိုလိုတယ်။ နေမထွက်ခင် အရုဏ်တက်လာသလို အရိယာမဂ် ရောက်ခါနီးလို့ ထင်လာသည်ဟု မှတ်ပါ။ ကဲ . . ဥဒယဗ္ဗယဉာဏ် ပြီးတော့ ဘင်ဂ်ဉာဏ် ဆက်ကြစို့။

ဘင်္ဂဉာဏ်ဆိုတာ အပျက်သာ မြင်နေတဲ့ဉာဏ်ပဲ။ မျက်စိ တစ်မှိတ် လျှပ်တစ်ပြက်မှာ အပျက်မြင်နေတော့ အပျက်ချည်း ပါပဲ၊ ဖြစ်တာလဲ ပျက်ဖို့ပဲပါပဲ၊ အပျက်ကိုသာ စွဲပြီး အပြစ်ကို မမှတ်မူ၍ အပျက်ကိုသာ မှတ်မှတ်နေခြင်းကို ဘင်္ဂဉာဏ်လို့ ခေါ်တယ်။ ဒီဉာဏ်ဟာ အဖြစ်နဲ့အပျက် မတွဲတော့ဘဲ ဖြစ်တာ တစ်ခဏ၊ ပျက်တာ တစ်ခဏ မတွဲတော့ဘဲ အပျက်ချည်းသာ မြင်မြင်နေခြင်းကို ဆိုလိုတယ်။

ကြောက်စရာမြင်လျှင် ဘယဉာဏ်၊ ကြောက်စရာ ဆို ပေမယ့် ယခုလို တို့သိနေကြတဲ့ ကြောက်စရာမျိုး ကြောက်တာ မဟုတ်ဘူးနော်၊ ဘီလူး၊ သရဲသဘက် တွေ့လို့၊ သူခိုး၊ ဓားပြ တွေ့လို ကြောက်ရတဲ့ အကြောက်းမျိုးက ဒေါသကြောင့် ဖြစ်တယ်။ ယခုပြောနေတာက ဉာဏ်ကြောက်ကို ပြောနေတာ။ ဉာဏ်ထဲမှာ အပြစ်မကင်းဘဲ တစ်ပျက်တည်း ပျက်နေတဲ့ ရုပ်နာမ်တွေဟာ တယ်ပြီး ကြောက်စရာ ကောင်းပါကလားလို့ တရေးရေးထင်ပြီး နေတဲ့အကြောက်မျိုးလို့ ဆိုလိုတယ်။

ရုပ်နာမ်တွေ ထူထောင်နေတဲ့ သင်္ခါရလောကကြီးကိုလဲ ကြောက်တယ်။ ရုပ်နာမ်တွေ အမြဲမပြတ် တရစပ်ဖြစ်ပျက်တဲ့ သတ္တလောကကြီးကိုလဲ ကြောက်တယ်။ လူ့ဘုံမှာ လူဖြစ်ရမှာလဲ ကြောက်တယ်။ နတ်ဘုံမှာ နတ်ဖြစ်ရမှာလဲ ကြောက်တယ်၊ ဗြဟ္မာ့ ဘုံမှာ ဗြဟ္မာကြီးတွေ ဖြစ်ရမှာလဲ ကြောက်တယ်၊. ကြောက်

မှာပေါ့။ ဘင်္ဂဉာဏ်ဖြင့် အပျက်ကိုချည်း မြင်နေတာကိုး။ ဒီလို တွေးပြီး တရေးရေး ဉာဏ်ထဲမှာ ကြောက်နေတဲ့ အကြောက် မျိုးကို ဘယဉာဏ်လို့ ခေါ်တယ်။

ကြောက်လာတော့ လောကကြီးကို ရွံ့မုန်းလာတယ်၊ လောကကြီးအတွင်း မနေချင်တော့ဘူး၊ ရုပ်နာမ်တို့၏ အပြစ် တွေကို မြင်နေတယ်၊ လူ့ဘဝလဲ မလိုချင်ဘူး၊ နတ်ဘဝလဲ မလိုချင်တော့ဘူး။ ဗြဟ္မာဘ့ဝလဲ မလိုချင်တော့ဘူး။ လောက ကြီးမှာ နေရတာ ဘာမှ ချမ်းသာတယ်လို့လဲ မထင်တော့ဘူး။ ဒီလိုလောကကြီးရဲ့ အပြစ်တွေကို မြင်လာတဲ့ဉာဏ်ဟာ အာဒီနဝဉာဏ်ပဲ၊ ဒီဉာဏ်ဖြစ်ရင် ငြီးငွေ့လာတဲ့ နိဗ္ဗိန္ဒဉာဏ် ဖြစ်ပေါ်လာတာပဲ၊ မြင်ရတာလဲ ငြီးငွေ့တာပဲ၊ စားရတာလဲ ငြီးငွေ့တာပဲ၊ ကောင်းသော အထိအတွေ့တွေလဲ ငြီးငွေ့တော့ တာပဲ။ ဒီလို ငြီးငွေ့လာတော့ သံသရာဝဋ်မှ လွတ်ချင်တဲ့ မုစ္စိတု ကမျတာဉာဏ် ဖြစ်ပေါ်လာတယ်၊ နိဗ္ဗိန္ဒဉာဏ် ဖြစ်ပေါ် လာတယ်။

အာရဒ္ဓဝိပဿက ပုထုဇဉ်ပုဂ္ဂိုလ်လို့ ဆိုပေမယ့် ရဟန္တာ စိတ်နှင့် တူသည့်အတွက် ရဟန္တာပုဂ္ဂိုလ်နှင့် မခြားဘူးလို့ ကျမ်းဂန် များမှာ ပြထားကြတယ်။ ' ကိဉ္စိ ဘဝံ နာဘိဝဒိ 'တဲ့။ ကိဉ္စိ ဘဝံ၊ ဘယ်လိုချမ်းသာတဲ့ ဘုံဘဝမျိုးကိုမှ၊ နာဘိဝဒိ၊ လိုချင် ဇောဖြင့် မမက်မောတော့ပြီလို့ ဆိုတယ်။

အဲဒီလို သံသရာဝဋ်ကြီးကို မုန်းတီးလာတော့ ငြီးငွေ့လာတော့ လွတ်အောင် ထပ်ကာထပ်ကာ ရှုမှတ်လာတယ်။ ဒီဉာဏ်ကို ပဋိသင်္ခါဉာဏ်လို့ ခေါ်တယ်။ လွတ်အောင် ဘယ်နည်းဖြင့် လုပ်ရပါ့ မလဲလို့ ဉာဏ်ထဲမှာ စဉ်းစားတယ်၊ ဥပမာ-- ညှောင်းလာရင်၊ ထုံလာရင် ညှောင်းထုံတာကို ဘယ်လို လုပ်ရပါမလဲလို့ စဉ်းစာသလိုပဲ၊ အဲဒီတော့ 'လှေမျှောရင် လှေနဲ့လိုက်၊ ဆူးစူးရင်ဆူးနဲ့ထွင်' ဆိုသလို ညှောင်းတယ်၊ ထုံတယ်ဆိုတဲ့ ရုပ်တရားတွေကိုပင် ထပ်ရှုမှပဲလို့ သိပြီး ထပ်ကာထပ်ကာ ရှုတဲ့ဉာဏ်လို့ ဆိုတယ်။

ဒီလိုထပ်ရှုမှ လွတ်မယ်ထင်ပြီး ထပ်ရှုတော့ သင်္ခါရုပေက္ခာဉာဏ်ပေါ်လာတယ်။ ဒီဉာဏ်ကတော့ သင်္ခါရတရားတွေ သူ့သဘောနဲ့သူ ဖြစ်နေကြတာပါ၊ ယောဂီပုဂ္ဂိုလ်က အထူးမရှုရဘဲ အလိုအလျှောက် သူ့သဘောနဲ့သူ ဆောင်နေပြီးတော့ အလွန်သိမ်မွေ့တယ်။ ပင်ပန်းပန်းမှု မရှိသလောက် ဖြစ်နေတာပေါ့။ ဘုရားအလောင်းတော်များ တရားအားထုတ်သည့်အခါ ဒီဉာဏ်မှာပဲ ရပ်တန့်နေတယ်လို့ ကျမ်းဂန်များမှာ ပြဆိုကြတယ်။

ယခုအခါ ဗုဒ္ဓဘာသာဝင် သူတော်စင်တို့မှာ ဘဝတိုထိုရှေးအဟိုက ယခုလို ဆည်းပူးခဲ့ဖူးသော ကုသိုလ်ထူးကြောင့် ဝိပဿနာအလုပ်တွေနဲ့ ရင်ဆိုင်တွေ့နေရတယ်။ 'လူဖြစ်ကျိုးနပ်လေစွ၊ လူ့ဘဝကြီး အရတော်လေစွ' လို့ ဝမ်းသာကြ၊ ဝမ်းသာကြ၊ ဒီလို တရားပွဲ့ တရားမြတ်တွေ နာကြရအောင်၊

အားထုတ်ကြရအောင် မိတ်ဆွေကောင်း လိုတယ်။ တို့ သာမန် လူတွေကို မဆိုထားနဲ့၊ ဘုရားလောင်းတော်ကြီး ဇောတိပါလ လုလင်တောင် ခဏတော့ ကိတ္တိဖြစ်နေသေးတယ်။

ဒါပေမယ့် ရင်းနှီးတဲ့ မိတ်ဆွေကြီး ဃဋိကာရ အိုးထိန်း သည်ကြီးကတော့ သမ္မာဒိဋ္ဌိအယူပါပဲ၊ တစ်နေ့သ၌ကျတော့ ဃဋိ ကာရအိုးထိန်းသည်ကြီးက စဉ်းစားတယ်၊ ငါ့မိတ်ဆွေဟာ ပညာ ရှိတယ်၊ ဘုရားနဲ့မတွေ့လို့ မှားတဲ့အယူကို ယူနေတယ်။ ဒီနေ့ ကတော့ ကျောင်းကို ခေါ်မယ်ဆိုပြီး သွားခေါ်တယ်၊ မလိုက်ဘူး။

ဒါနဲ့ ရေးချိုးဆိပ် ခေါ်တယ်၊ လိုက်လာတယ်၊ မိတ်ဆွေ ဘုရားကျောင်းနဲ့ နီးနေပါပြီ၊ ခဏဖြစ်စေ လိုက်ခဲ့ပါလို့ ထပ် ခေါ်တယ်၊ မလိုက်ဘူး၊ မလိုက်နေရရိုးလားဆိုပြီး အတင်းလက်ကို ဆွဲခေါ်တယ်၊ အားကောင်းတော့ အတင်းရုန်းလို့ လွတ်လိုက် ရတယ်၊ မဖြစ်ချေဘူးဆိုပြီး ဆံပင်ဆွဲခေါ်ပြန်တယ်။

ဒီတော့မှ ဇောတိပါလက စဉ်းစာတယ်၊ ငါ့မိတ်ဆွေဟာ ငါ့ကို အလွန်ချစ်တယ်၊ ခင်တယ်၊ ငါ့လောက် အထက်တန်း မကျ သူက ဆံပင်ကိုပင် ဆွဲတယ်ဆိုတော့ အင်မတန် ထူးခြားနေတယ်၊ ဒီတော့မှ 'ကဲ- ကဿပဘုရားထံ သွားမယ်လို့ ခေါ်တာ မဟုတ်လား'လို့ မေးပြီးလိုက်လာတယ်။ လိုက်လာပြီး ဘုရား တရားနာရတော့ ရဟန်းလုပ်ပြီး အားထုတ်မှ ကောင်းမယ်ဆိုပြီး ရဟန်းပြုသွားတယ်။

ဘုရားလောင်းကြီးတောင်မှ တစ်ခါတစ်ခါ အမှားယူနေတယ်၊ ကလျာဏမိတ္တဆိုတဲ့ မိတ်ဆွေကောင်း ပေါင်းမိလို့တော်သေးတယ်၊ အနာထပိဏ်သူဌေးသား ကာလကျတော့ ပိုက်ဆံပေးပြီး တရားကို နာခိုင်းရတယ်။ ပထမ သူ့ဖခင်က ငွေတစ်ရာ ပေးလိုက်တယ်၊ ဟိုယောင်ယောင် ဒီယောင်ယောင်နဲ့ လုပ်ပြီး ပြန်လာတယ်။

နောက်တစ်ခါ ငွေတစ်ထောင်ပေးပြီး ဒီတစ်ခါတော့ ဂါထာလေးတစ်ပုဒ်ရအောင် နာခဲ့လို့ မှာကြားတယ်၊ ငွေတစ်ထောင် လိုချင်တော့ မရရအောင် မှတ်သား၍ နာကြားလိုက်တော့ သောတာပန် တည်သွားတယ်။ ဒါလဲ ကလျာဏမိတ္တဖြစ်တဲ့ ဖခင်သူဌေးရဲ့ ကျေးဇူးနော်။ ဒါကြောင့် မိတ်ဆွေကောင်း လိုတယ်လို့ ပြောတာ။

အနုလောမဉာဏ် ရောက်တယ်ဆိုရင် ရှုရင်းနဲ့ နောက်နောက်က ဝိပဿနာဉာဏ်၊ ရှေ့ဖြစ်မယ့် မဂ်ဉာဏ်, ဖိုလ်ဉာဏ်တွေနဲ့ လျော်စွာ ဖြစ်ပေါ်လာတဲ့ အသိတွေ ဉာဏ်တွေ ထင်ပေါ်လာတာပဲ၊ ပရိကံ, ဥပစာ, အနုလုံ, ပဋိလုံ- ဤလေးပါးကို အနုလောမဉာဏ်ပဲလို့တော့တယ်။ နောက်ပိတ်ဆုံး ရှုရင်း ရှုရင်းနဲ့ ဖြစ်ပျက်ဆုံးတဲ့ နိဗ္ဗာန်ကို လှမ်းမြင်တယ်။ ဒီလို မြင်တာ ဂေါတြဘူတဉာဏ်ပဲ။

ဒီဉာဏ်အထိ ပုထုဇဉ်လို့ပဲ ခေါ်ရသေးတယ်။ ပုထုဇဉ်အဖြစ်ဆုံး၍ အရိယာလုံးလုံး ဖြစ်အောင်မည့်သဘောကြောင့်

ဂေါ်တြဘူတလို့ ခေါ်တယ်။ သူက ပုထုဇဉ်အဖြစ် ဒီဘက်ကမ်း ဖြစ်သော်လည်း သူမြင်တာက နိဗ္ဗာန်တည်းဟူသော ဟိုဘက်ကမ်း ဖြစ်နေတယ်။ ဥပမာ-ချောင်းတစ်ခုရောက်တော့ လူနှင့် မျက်စိကတော့ ဒီဘက်ကမ်းမှာ ရှိသေးတယ်။ သူမြင်တာကတော့ ဟိုဘက်ကမ်း ဖြစ်နေတာမျိုးပေါ့။

မဂ်ဉာဏ်ကူးလိုက်တော့ မှတ်ဉာဏ်တွေ အမှတ်ခံရတဲ့ ရုပ်နာမ်တွေ ဘာမှမရှိသလို ဖြစ်သွားတယ်။ သတိလစ်သလို ဖြစ်သွားတယ်။ ဥပမာပြောရရင် ခတ်လိုက်တတ်တဲ့ ပုဂ္ဂိုလ်များ စိတ်ကတော့ ရနေတာဘဲ ဘာမှ မသိဘူး။ အိပ်ငိုက်တာလဲ မဟုတ်ဘူး။ စိတ်ကတော့ ကြည်ကြည်လင်လင်ဘဲ။ ဘယ်လိုများ ဖြစ်သွားပါလိမ့်မလဲလို့ ဖြစ်နေတယ်။

တစ်ခါ မဂ်ဝင်ရင် သောတာပတ္တိမဂ်ပုဂ္ဂိုလ်၊ နောက် သောတာပတ္တိဖိုလ်၊ မဂ်တစ်ကြိမ်သာဖြစ်ပြီး ဖိုလ်နှစ်ကြိမ် သုံးကြိမ် ဖြစ်တာ၊ သောတာပန်ပုဂ္ဂိုလ် ဖြစ်သွားတာပါပဲ။ သကဒါဂါမိမဂ်၊ သကဒါဂါမိဖိုလ်၊ အနာဂါမိမဂ်, အနာဂါမိဖိုလ်၊ အရဟတ္တမဂ်, အရဟတ္တဖိုလ် ဖြစ်ပြီးလျှင် အာသဝေါကုန်ခန်းပြီး ရဟန္တာဖြစ်သွားတာဘဲ။

ဖိုလ်ဝင်စားတယ် ဆိုတာကတော့ ခန္ဓာမှာ ရုပ်နာမ်နှစ်ခုလုံး၏ ဖြစ်ပျက်ကို မှတ်ရင်း မှတ်ရင်းနဲ့ ဖြစ်ပျက်ချုပ်တဲ့ နိဗ္ဗာန်ကို အာရုံပြုကာ တစ်နာရီ အဓိဋ္ဌာန်ပြုလျှင် တစ်နာရီ တစ်ရက်ပဲလို့ အဓိဋ္ဌာန်လျှင် တစ်ရက် ခုနစ်ရက်ထိအောင် အဓိဋ္ဌာန်လျှင် ခုနစ်

ရက်ထိ ပိုင်းခြားပြီး ရှုမှတ်လိုက်တော့ သောတာပန်ဆိုရင် သောတာပတ္တိဖိုလ်စိတ်တွေ၊ သကဒါဂါမ်ဆိုရင် သကဒါဂါမ်ဖိုလ်စိတ်တွေ၊ အနာဂါမ်ဆိုရင် အနာဂါမ်ဖိုလ်စိတ်တွေ၊ ရဟန္တာဆိုရင် အရဟတ္တဖိုလ်စိတ်တွေသာ ဖြစ်ပြီး နိဗ္ဗာန်အာရုံပြုနေတာကိုပဲ ဖိုလ်ဝင်စားတယ်လို့ခေါ်တယ်။ အပ္ပနာဇောတိက ဣရိယာပုတ်ကို ခိုင်းစေတတ်တယ်ဆိုတော့ ထိုင်နေပြီး ဝင်စားနေလျှင် မပြီးမချင်း ထိုင်လျက်ပဲ။

အိပ်ပြီးဝင်စားလျှင် အိပ်လျက်ပဲ။ ဘယ်လောက်ပင် ကြာသော်လည်း ညောင်းညာခြင်းစသော ဝေဒနာမရှိ၊ သိလဲမသိ နိဗ္ဗာန်ကတော့ အဟောင်းဖြစ်သော ရုပ်နာမ်တွေ ချုပ်ငြိမ်းပြီး အသစ်ရုပ်နာမ် မဖြစ်ပေါ်ကိန်းဖြင့် ဇာတ်သိမ်းသွားတာကို နိဗ္ဗာန်လို့ခေါ်တယ်လို့ ကသစ်ဝိုင်း ဆရာတော်ဘုရား၏ ဝိပဿနာတရား အရ သိရှိပါသည်။

ဤကား အကျဉ်းချုပ်မျှသာ ပြလိုက်ပေသည်။

* * * * *

## ၂၀။ မိုးကုတ်ဆရာတော်ဘုရားကြီး၏တရားရှုနည်း (စကားပလ္လင်)

ကျွန်ုပ်သည် ကျေးဇူးရှင် အဂ္ဂမဟာပဏ္ဍိတ မိုးကုတ်ဆရာတော်ဘုရားကြီး ဦးဝိလမကို လွန်ခဲ့သော အနှစ်လေးဆယ်ကျော်လောက်က ဖူးမြင်ဖူးပါသည်။ ထိုစဉ်က ဆရာတော်ကြီးမှာ အဘိဓမ္မာ ဝိပဿနာတရား ဟောကြားခြင်း မပြုသေးပါ။ တောင်မြို့မှာ အဘိဓမ္မာ ညဝါယမိုက် ပဋ္ဌာန်းကျမ်းတို့ကိုသာ ကြိုးပမ်းတကုတ် အားထုတ်ပို့ချကာ သာသနာပြုနေသည်ကို သိရပါသည်။ ကျွန်ုပ်လည်း စာသင်သား ရဟန်းငယ်ဘဝမှာပင် ရှိသေးသဖြင့် ညဝါ ပဋ္ဌာန်းကျမ်းကြီးကို ဥပနိဿရည်း ခံယူဖူးပါသည်။ ထို့နောက်မှ ဆရာတော်ကြီးသည် ပဋိစ္စသမုပ္ပါဒ်နည်းတပည့်တပန်း ရဟန်းသာမဏေများနှင့် လူဒါယကာ၊ ဒါယိကာမ အပေါင်းတို့ကို နှစ်ထောင်းအားရ သဘောကျလောက်အောင် တရားစမ္မ ဟောပြောပြနေသည်ဟု ကြားသိရပါသည်။

အထူးသဖြင့် ဆရာတော်ကြီးမှာ အဘိဓမ္မာဘက်သာ အားသန်လျက်ရှိသည့် အဘိဓမ္မာပါရဂူကြီးတစ်ပါးဟု သာသနာတွင် ထင်ရှားကျော်ကြားလျက် ရှိသည်။ ငယ်စဉ်က ဥပနိသ ရည်း ခံခဲ့ဖူးသည့်အတွက် သံယောဇဉ်ငြိလျက် ထိုဆရာတော်ကြီး၏ တရားဓမ္မကို ကြားနာလိုလှသော ဆန္ဒပြင်းထန်လှသဖြင့် တရားသဘင် ဆင်ယင်ကျင်းပရာဌာနသို့ တစ်နေ့နေ့တွင် သွားတရားနာရန် အတန်တန် ကြိုးစားသော်လည်း တစ်ခါမှ ကိုယ်တိုင်ဟောကြားသည်ကို မနာခဲ့ရဖူးပါ။ သို့ရာတွင် ဆရာတော်ကြီး ဟောကြားသော တရားတော်တို့ကို စုပေါင်းရိုက်နှိပ်ထားသော ကျမ်းစာများကိုသာ ထပ်ခါထပ်ခါ နေ့ညမစဲ အမြဲကြည့်ရှုကာ ရောင့်ရဲနေရပါသည်။

လွန်ခဲ့သော (၁၅) နှစ်လောက်က ကျွန်ုပ်တို့ နေထိုင်ရာ ဝွတ္တာလစ်ရပ်ကွက်၊ ဦးချစ်မောင်လမ်းတွင် ဓမ္မမိတ်ဆွေ ဦးတင်အောင်၏အိမ်၌ အန္တရာယ်ကင်း ပရိတ်ရွတ်ရင်း ဆရာတော်ကြီး ကိုယ်တိုင် ဟောကြားသော တိတ်ရီကော်ဒါ သွင်းထားသည့် တရားကို နာကြားရသဖြင့် များစွာပင် အားရနှစ်သိမ့်သွားပါသည်။

ထို့နောက် ကျွန်ုပ်သည် ဆရာတော်ကြီးကို ကြည်ညို ရင်းစွဲ နှလုံးထဲ၌ စွဲမြဲနှစ်မြို့နေသဖြင့် မိုးကုတ်မြို့၊ ရွှေဘိုဆရာတော် ထံပါးသို့ ရောက်သွားတိုင်း ရောက်သွားတိုင်း ဆရာတော်ကြီး၏

ရိပ်သာရှိရာသို့ သွား၍ ဝမ်းပန်းတသာ ကြည်ညိုရပါသည်။ ဆရာတော်ကြီး ပျံလွန်တော်မူပြီးသော်လည်း ဆရာတော်ကြီး၏ ရှေးကံရှေးဘုန်းကို ကြည်ညို၍မဆုံး ဖြစ်နေပါသည်။ ဆရာတော်ကြီးရိပ်သာမှာ မိုးကုတ်မြို့လယ် လမ်းမကြီး၏ အနီးအပါး၌ တည်ထားသဖြင့် မိုးကုတ်မြို့သို့ ရောက်သူတိုင်း မှိုင်းမှိုင်းညို့ညို့ ရှုလို့မငြီး အံ့ချီးမကုန် ကျက်သရေမင်္ဂလာအပေါင်းနှင့် ပြည့်စုံနေသည်ကို တွေ့မြင်နိုင်ပါသည်။

မိုးကုတ်ရိပ်သာ တည်နေရာမှာ လူတကာ မြင်နိုင်သော တောင်ဝှမ်း၊ တောင်စခန်း၊ တောင်တန်းတို့၏ ခြေရင်းတွင် တည်ရှိနေခြင်းရှိသဖြင့် မုခ်ဦး၊ တန်ဆောင်း၊ ဂူကျောင်း၊ ပြာသာဒ် အထပ်ထပ်နှင့် လူလမ်း၊ နတ်လမ်း၊ စောင်းတန်းအထွေထွေ စိမ်းလန်းစိုပြည်၍ သစ်ပင်တွေ၊ ပန်းပင်တွေ ဝိုင်းပတ်ဝေဆာ သာယာတင့်မောလှပေသည်။ ဘုရားဂန္ဓကုဋိတိုက်တော်များနှင့် ရဟန်းတော် သံဃာတော်များနေရာ၊ အများသူတို့ တရားယူဖို့နေရာ၊ တစ်ကျောင်းနှင့် တစ်ကျောင်းမှာလည်း မကွာမနီး စုစည်းတည်ဆက်လျက် တစ်ဖက်နှင့်တစ်ဖက် အထက်အောက် စီရရီ ဆောက်တည်ထားပုံမှာ နတ်ဘုံနတ်နန်းပမာ ရှုမခန်း အံ့မကုန် ကျက်သရေမင်္ဂလာ စုံလှပေသည်။

လူအများတို့ သွားရာလမ်းအနီးမှာလည်း ယိုစီးကျနေသော စိမ့်ရေ စမ်းရေ အထွေထွေတို့က အပန်းဖြေစရာ တစ်

နေရာနှင့် တစ်နေရာ အလှမ်းမကွာ ဆန်းတင့်စွာ ဖြာဆင်း၍ အလှအခင်းကို ကျင်းပသောအသွင် ထင်နေရပေသည်။ နေရောင်ခြည်ထင်း၍ အလင်းရောက်သော အခါတွင် ဝါကျင်ဝင်းဖြာ ဆီးနှင်းတွေဖြာလျက် သာယာသော ငှက်သံတို့က အထက်နဘ် ကောင်းကင်ယံ၌ တက်ပြန်ကျပြန် အဖန်ဖန်ဖြင့် အသံမစွဲ မြင်ရသူစိတ်နှလုံးကို အမြဲယူကျုံး နှစ်သိမ့်လိုမဆုံးရှိပေသည်။ နေရောင်ခြည်ပျောက်၍ ညအခါရောက်သော အချိန်တွင် ခတ်မီးရောင်တထိန်ထိန်ဖြင့် တာဝတိံပြည် သုဒဿနနန်းကဲ့သို့ တင့်ဆန်းထွန်းပ ကြည့်ရှုလို့မဝ ဖြစ်နေပါသည်။ မြို့ကလည်း လှပ၊ ဌာနကလည်း ကောင်းသဖြင့် ရောက်သူအပေါင်းတို့မှာ "အောက်သားတို့ မပြန်ချင် မိုးကုတ်ကျပ်ပြင်" ဆိုသကဲ့သို့ သူတော်ကောင်းစိတ်ရှိသူ မှန်သမျှ ပြန်ချင်ကြမည်မဟုတ်ပေ။

သူတော်ကောင်းတို့၏ ကိန်းအောင်းစံရာ တည်နေရာကား အလွန်တရာ ဆိတ်ငြိမ် သာယာလှပပေ၏ဟုတကားဟု ဝမ်းပန်းတသာ မြင်ခဲ့ရပါသည်။ ယခုအခါသာ ဆရာတော်ကြီး အသက်ဝိဉာဉ်ရှိနေပါလျှင် သာ၍ပင်ကြီးကျယ်ခမ်းနား စည်ကားလိမ့်မည်ဟု စဉ်းစားကာ တွေးတော၍ ငေးမောမိခဲ့ပါသည်။ သို့သော် "နေမင်းကြီး ဝင်သွားသော်လည်း နေရောင်ခြည်ကား မပျောက်ချေ" ဆိုသလို ဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ်က

ဟောကြားခဲ့သော တရားတွေက ဤအဆောက်အဦး ဗိမာန်တွေ အတွင်း ထွန်းလင်းတောက်ပလျက် ရှိနေပေလိမ့်မည်။ ထိုနည်းတူ ဆရာတော်ကြီး ရောက်ရာ ရောက်ရာ ရန်ကုန်မြို့၊ မိုးကုတ်ရိပ်သာ စသော မြို့ရွာတို့၏ အဆောက်အဦး ဗိမာန်ကြီးတွေ အတွင်း မှာလည်း တဝင်းဝင်းတပြောင်ပြောင် ထွန်းလင်းရောင် တောက်ပ လျက်ရှိနေပေလိမ့်မည်။ စသည် စသည် ကြံစည်လျက် ပြန်လှည့် ခဲ့ရပါသည်။

ထိုဆရာတော်ကြီး ဟောကြားသော တရားတို့ကို မိမိဉာဏ် မှီသလောက်နှင့် ရိုက်နှိပ်ပြီး ကျမ်းစာများကို ထောက်၍ တရား ဟောလိုလည်း ဖြစ်အောင်၊ စကားပြောလို့လဲ ရအောင် ဖတ်ရှု လို့လဲကောင်းအောင် သုံးမျိုးသုံးစားထား၍ ရေးသားဖော်ပြ ပါမည်။

ဗုဒ္ဓသာသနာတော်ကြီးနှင့် တွေ့ကြုံခိုက် အမြိုက်နိဗ္ဗာန်ကို ရည်သန်၍ အားထုတ်လိုသော ယောဂီများအတွက် သံသရာ ဝဲဂယက်မှ ထွက်ရာထွက်ကြောင်း လမ်းကောင်းလမ်းမှန် ကျမ်းဂန်နှင့်အညီ ဖော်ပြရမည်ဆိုလျှင် အသိမှန်တဲ့ သတိပဋ္ဌာန်း ကိုနားလည်ရန် ကြိုးစားအားထုတ်ဖို့ လိုပါသည်။ အဘယ်ကြောင့် ဆိုသော် သတိပဋ္ဌာန်းသည် ဘုရားပရိနိဗ္ဗာန်စံပြီးနောက် ဘုရား ကိုယ်စား ထားတော်မူခဲ့သော နိဗ္ဗာန်ရောက်ရန် တစ်ကြောင်း တည်းသော လမ်းခရီးဖြစ်ပေသည်။

တကယ်ချမ်းသာသော နိဗ္ဗာန်မှာ လောကအတွင်း၌ မရှိ၊ လောက၏ အပြင်ဘက်၌သာရှိသော မဟဂ္ဂတ်တရားဖြစ်သည့်အတွက် လောကမှထွက်မှသာ နိဗ္ဗာန်ရောက်နိုင်မည်။ လောကမှထွက်ရန် ဒီအတိုင်းနေလို့မဖြစ် ထွက်ပေါက်လမ်းကို ရှာမှီးရပေသိမ့်မည်။

သဂါထာဝဂ္ဂ သံယုတ် ပါဠိတော်မှာ ရောဟိတနတ်သားက မြတ်စွာဘုရားကို လျှောက်ထားတယ်၊ "ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ အကြင်နိဗ္ဗာန်ရွှေပြည်ကြီးမှာ ပဋိသန္ဓေနေရတဲ့ဆင်းရဲလည်း မရှိ၊ အိုရတဲ့ဆင်းရဲလည်း မရှိ၊ အမြဲမကွာချမ်းသာနေတဲ့ နိဗ္ဗာန်သို့ရောက်ရန် အဘယ်သို့ မှန်ကန်သောလမ်းခရီးဖြင့် သွားရပါမည်နည်းဘုရား" ဟု လျှောက်ထားတယ်။

ဒီတော့ မြတ်စွာဘုရားက "န ဟိ ဧတေဟိ ယာနေဟိ ဂစ္ဆေယျ အာဂတံ ဒိသံ" ရောဟိတနတ်သား၊ လောက၌ အသုံးပြုနေကြသော လေယာဉ်၊ လှည်းယာဉ်၊ စက်ယာဉ် စသောယာဉ်တို့ဖြင့် တစ်ခါရောက် တစ်ခေါက်မပြန်သော နိဗ္ဗာန်သို့ သွားလို့ မရောက်နိုင်ဘူး။ 'နိဗ္ဗာနပူရံ ပါပေသိ၊ ယာနတ္တာယေန သော ဇိနော' အရိယာမွန် သူတော်ချွန်တို့သာ စီးသွားနိုင်သော လက္ခဏာယာဉ် ဓမ္မစကြာယာဉ် ခရီးတို့ဖြင့်သာလျှင် လောကကြီးတစ်ရပ်လုံးထက် အမြတ်ဆုံး နိဗ္ဗာန်ရွှေပြည်သို့ သွားနိုင်တယ် ရောက်နိုင်တယ်လို့ ပြောဆိုဟောကြား ထားပါသည်။

ဒီစကားကို ထောက်ထား၍ နိဗ္ဗာန်ရောက်သွားနိုင်တဲ့ လမ်းခရီးကား အနိစ္စ၊ ဒုက္ခ၊ အနတ္တဆိုတဲ့ ယာဉ်သုံးပါးဝိပဿနာ အယံ ဝုစ္စတိ အသမ်တမဂ္ဂေါ' ဟု ဆိုထားတာလဲ ရှိပါတယ်။ ဒီတော့ လူ့ဘဝကြီးကို ရလာတဲ့အခါ လူအစစ် လူအမှန် ဖြစ်ရန် အရေးကြီးတယ်။ လူအစစ်ဆိုတာ တဏှာ၊ မာန၊ ဒိဋ္ဌိ ဝိစိကိစ္ဆာ ဒီ- ကိလေသေ လုနာတိ ဆိန္ဒတီတိ လူ' ဟု ဆရာမြတ်တို့ ဝိဂြိုဟ်ဝစနတ် ပြုထားကြသလို ဒီဝိဂြိုဟ်အရ တဏှာ၊ ဒိဋ္ဌိ၊ မာန၊ ဝိစိကိစ္ဆာ စသော ကိလေသာတရားတို့ကို သတ်နိုင်မှ လူအစစ် ဖြစ်တယ်။

သို့မဟုတ် အမိုက်ကြီးငါးပါးနဲ့ အမိုက်မှောင်ကျနေလျှင် လူအန္ဓ၊ လူအတုအပတွေပဲ ဖြစ်နေမယ်၊ အမိုက်ကြီး ငါးပါး ဆိုတာ. . .

(၁) ကံ, ကံ၏အကျိုးကို မသိတဲ့ ခမ္မသမ္မောဟ အမိုက်ကြီး။

(၂) ခန္ဓာ၊ အာယတနာ၊ ဓာတ်၊ သစ္စာကို မသိတဲ့ ဓမ္မသမ္မောဟအမိုက်ကြီး။

(၃) ပဋိစ္စသမုပ္ပါဒ်ကို မသိသော ပစ္စယ သမ္မောဟ အမိုက်ကြီး၊

(၄) လက္ခဏာရေးသုံးပါးကို မသိတဲ့ လက္ခဏာသမ္မောဟ အမိုက်ကြီး။

(၅) နိဗ္ဗာန်ကို မသိတဲ့ နိဗ္ဗာနသမ္မောဟ အမိုက်ကြီး၊

ဤ အမိုက်မှောင် ပျောက်လျှင် အလင်းရောင်ရောက်တဲ့ လူလိမ္မာဖြစ်ဖို့ အရေးကြီးတယ်။ အလင်းရောင်ရောက်ဖို့ကလဲ ငါးပါးရှိတယ်။

(၁) ကံ, ကံ၏အကျိုးကိုသိတဲ့ ကမ္မဿကတဉာဏ်၊

(၂) ခန္ဓာ၊ အာယတန၊ ဓာတ်၊ သစ္စာကို သိတဲ့ ဓမ္မဝဝတ္ထာနဉာဏ်၊

(၃) ပဋိစ္စသမုပ္ပာဒ်ကို သိတဲ့ ပစ္စယဝဝတ္ထာနဉာဏ်၊

(၄) လက္ခဏာရေးသုံးပါးကို သိတဲ့ နိဗ္ဗာနပဋိဝေဒဉာဏ်၊

(၅) နိဗ္ဗာန်၏သဘောကို သိတဲ့ နိဗ္ဗာနပဋိဝေဒဉာဏ်၊

ဤ အလင်းရောင်ကြီး ငါးပါးနှင့် ပြည့်စုံမှ လူမှန် လူစစ်ဖြစ်၍ လူဖြစ်ကျိုးနပ်တယ်။ သာသနာတော်ကြီးနှင့် ကြုံကြိုက်နေပါလျက် ဝိပဿနာတရား အားမထုတ်ပါလျှင် ဘုရားသားဖြစ်ပါလျက် ထီးနန်းနှင့် မထိုက်တန်သော သားမိုက်နှင့် တူနေလိမ့်မယ်။

* * * * *

## ၂၁။ မိုးကုတ်ဆရာတော်ဘုရားကြီး၏ ဝိပဿနာရှုနည်း

ဂွဲ , ကဲ၊ ဗုဒ္ဓသာသနာတော်ကြီးနဲ့ တွေ့ကြုံခိုက် အမြိုက် နိဗ္ဗာန်သို့ ဆိုက်ရောက်ရန် နည်းလမ်းကျကျ စိတ္တာနုပဿနာ ကမ္မဋ္ဌာန်းကို စီးဖြန်းကြ၊ စိတ်တစ်ခုကိုနိုင်လျှင် သမာဓိခိုင်သည်။ သမာဓိခိုင်လာလျှင် ပညာဟာ တဖြည်းဖြည်း ပိုင်လာပါလိမ့်မည်။ ခန္ဓာကိုယ်အတွင်း လိုရင်းမှာ စိတ်ပါပဲ။ ဒါကြောင့် 'စိတ်သာ ရှင်စေ ဘုရားဟော' လို ဂိုကြတယ်။

စိတ်ကို လိုရင်းချုံး၍ အကျဉ်းရုံးကြည့်လျှင်

(၁) အိမ်ရှင်ဖြစ်သော စိတ်နှစ်ခု၊

(၂) အပြင်ဧည့်သည်ဖြစ်သော စိတ်ခြောက်ခု၊

(၃) အတွင်းဧည့်သည်ဖြစ်သော စိတ်ငါးခု၊

အားလုံးပေါင်း၍ စိတ် ၁၃-ခုကို သတိပြုရမယ်။

ပထမစ၍ရှုရန်မှာ အိမ်ရှင် စိတ်နှစ်ခုကို စ၍ ရှုရတယ်။ အိမ်ရှင်စိတ်နှစ်ခုဆိုတာ ဝင်သက်လေကို သွင်းသောစိတ်နှင့် ထွက်သက်လေကို ထုတ်သော စိတ်တို့ကို ဆိုပါသည်။

အပြင်ဧည့်သည်ဖြစ်သော စိတ်ခြောက်ခုဆိုသည်မှာ

(၁) မြင်စိတ်၊

(၂) ကြားစိတ်၊

(၃) နံစိတ်၊

(၄) စားစိတ်၊

(၅) ယားစိတ်၊

(၆) တွေးစိတ်တို့ကိုဆိုပါသည်။

အတွင်းဧည့်သည်ဖြစ်သော စိတ်ငါးခုဆိုသည်မှာ

(၁) လောဘစိတ်၊

(၂) ဒေါသစိတ်၊

(၃) မောဟစိတ်၊

(၄) အလောဘစိတ်၊

(၅) အဒေါသစိတ်တို့ကို ဆိုပါသည်။

ရှုပုံရှုနည်းမှာ ရှေးဦးစွာ အိမ်ရှင်ဖြစ်သော စိတ်နှစ်ခုကို ရှုပါ။ ထိုစိတ်နှစ်ခုမရှုနိုင်မှ အပြင်ဧည့်သည် အတွင်းဧည့်သည် ဖြစ်သော စိတ်များကို ရှုရပါသည်။

ဒါဖြင့်လျှင် ဘာနဲ့ ရှုရမလဲဟု မေးစရာရှိပါတယ်။

(၁) သမ္မာဒိဋ္ဌိ၊

(၂) သမ္မာသင်္ကပ္ပ၊

(၃) သမ္မာဝါယာမ၊

(၄) သမ္မာသတိ၊

(၅) သမ္မာသမာဓိ ဆိုတဲ့ မဂ္ဂင်တရားငါးပါးနှင့် ရှုရမယ်။ ဥပမာ-အားဖြင့်ပြရလျှင် အိမ်တစ်အိမ်မှာ သားသမီးဟာ ဧည့်သည်များ ဖြစ်ကြပါတယ်။ သားသမီးများ လိမ္မာမှအိမ်သာယာမည် ဖြစ်သဖြင့် အရေးကြီးဆုံး နံပါတ်(၁) ဖြစ်ပါတယ်။ ထို့နောက် အရေးကြီးသည်မှာ အတွင်းဧည့်သည်နှင့် တူသည့် ဆွေမျိုးညာတကာ မိတ်သဟာများ ဖြစ်ပါတယ်။ ထိုသူတို့ လိမ္မာမှ အိမ်သာယာမည် ဖြစ်ပါတယ်။ နောက်ဆုံး အပြင်ဧည့်သည်နှင့် တူသည့် သူစိမ်းဧည့်သည်များလဲ လိမ္မာဖို့ လိုတာပါပဲ။ ဒါမှသာလျှင် ထိုအိမ်မှာ အစစအရာရာ အဆင်ပြေမှာ ဖြစ်ပါတယ်။

သို့အတွက် ခန္ဓာကိုယ်အတွင်းမှာ လိုရင်းဖြစ်တဲ့ ဝင်သက်လေကို သွင်းသောစိတ်နှင့် ထွက်သက်လေကို ထုတ်သောစိတ်တို့ကို မိမိ၏ အသိဉာဏ်ဖြင့် သတိအဖန်ဖန်ထားပြီး တခြားသို့ မသွားရအောင် စောင့်ထိန်းကြပ်မတ် သတိချပ်၍ နေတာကိုပင် တရားအားထုတ်တယ်လို့ ခေါ်ပါတယ်။ အဲဒီလို သတိကပ်ပြီး ရှုမှတ်နေတော့ ကိလေသာရန်တွေ မဝင်နိုင်ဘူးပေါ့၊ မိမိခန္ဓာကိုယ်မှာ တကယ်ရှိတာကလဲ ရုပ်နှင့်နာမ် နှစ်ပါးသာရှိတယ်။ ထိုရုပ်နှင့်နာမ် ကွဲပြားအောင် ရှုလိုက်တော့ ဒိဋ္ဌိနှင့် ဝိစိကိစ္ဆာနှစ်ခု ကွာသွားတယ်။ သူတို့နှစ်ခု ကွာရင်ပဲ စူဠသောတာပန်စခန်းသို့

မှန်းပြီး အားတတ်ကြမှ ပိနိပါတဆိုတဲ့ ကျချင်ရာကျတဲ့ အပါယ်ဘေးမှ အေးသွားမယ်။

ဒီတော့ ဒိဋ္ဌိနှင့် ဝိစိကိစ္ဆာကွာအောင် ပြုတ်အောင်လုပ်ဖို့ ဆိုတာကလဲ သူတို့ ကိန်းအောင်းနေတဲ့နေရာ သိဖို့လိုပါတယ်။ ကိုယ်နေရာမှာ အများဆုံး ကိန်းသလဲဆိုတော့ စိတ်ဆိုတဲ့ ဝိညာဏက္ခန္ဓာမှာ အများဆုံးကိန်းတယ်။ ငါစွဲဟာ စိတ်မှာ အများဆုံးဖြစ်တယ်။ ဒါကြောင့် "ငါ့စိတ်လာမစမ်းနဲ့၊ သိသွားမယ်" စသည်ဖြင့် စိတ် ပေါ်မှာသာ ငါစွဲ စွဲကြတယ်။ တဏှာ, မာန, ဒိဋ္ဌိဆိုတဲ့ တရားများကလဲ စိတ်ကိုပဲ မြှောက်ထိုးပင့်ကော် လုပ်နေကြတယ်။

အမှန်မှာ ငါ့စိတ် ဘယ်ဟုတ်မလဲ၊ သူ့အကြောင်း တိုက်ဆိုင်လို့ သူ့သဘောနှင့်သူ ပေါ်လာတာပဲ၊ ပေါ်ပြီး ပေါ်တဲ့ နေရာမှာ ချုပ်သွားတာပဲ၊ အမြဲမရှိဘူး။ ပျက်စီးသွားပါပဲ၊ မပိုင်ပါဘူး။ စိတ်ကလေးတစ်ခု ဖြစ်ပျက်သွားရင် နောက် အစားထိုးတဲ့ စိတ်ကလေးတစ်ခု ပေါ်လာလိုက်၊ ချုပ်လိုက်၊ နောက်တစ်ခါ ဖြစ်လိုက်၊ ချုပ်လိုက်နှင့် ဓမ္မနိယာမအတိုင်း သူ့ကိစ္စနှင့်သူ ဖြစ်ပြီး ပျက်ပျက်ပြီး သွားတာပါပဲ၊ ဒါပေမယ့် တဏှာ, မာန, ဒိဋ္ဌိက ဝင်စွက်နေတော့ ငါ့စိတ်၊ ငါ့ဟာ၊ ငါပိုင်တာဟု ထင်နေကြတယ်။

ဒါကြောင့် ဒီစိတ်ပေါ်မှာ ယှဉ်ကပ်နေတဲ့ သခင်ခတ် အရှင်ခတ်ပါသည့် ဒိဋ္ဌိပျောက်အောင် သေအောင် မကိန်း နိုင်အောင် မယှဉ်ကပ်နိုင်[illegible]င် စိတ္တာနုပဿနာဆေးနဲ့ ကျွေး

သတ်ရတယ်၊ စိတ္တာနုပဿနာဆိုတာ မိမိသန္တာန်မှာ ပေါ်လာတဲ့ စိတ်ကလေးကို တခြားမပြေးရအောင် ဉာဏ်နှင့် ကပ်ပြီး အကဲခတ်ရတဲ့ အလုပ်ပါပဲ၊ မြတ်စွာဘုရားကလဲ သူတပါး စိတ်ကို အကဲခတ်ရတာ မှားသော်ရှိ မှန်သော်ရှိမယ်၊ မိမိစိတ်ကို အကဲခတ်ရတာကတော့ အမှန်ဆုံးပဲဟု ဟောကြားထားပါတယ်။

ဝိပဿနာ အလုပ်ဆိုတာ 'မှုဆိုးစိုင်သင်သလို' အလုပ်လုပ်ရင်း အလုပ်က သင်သွားပါတယ်၊ မှားရင်လဲ ပြင်ပေးဖို့ ကမ္မဋ္ဌာနာစရိယ ဆရာတွေ ယခုအခါ အများကြီးရှိပါတယ်၊ မေးကြ, မြန်းကြ, စိစစ်ကြပေ့ါ။ မိုးကုတ် ဝိပဿနာနည်းအရ အလုပ်လုပ်ကြမယ်ဆိုရင် ပဋိစ္စသမုပ္ပါဒ်ဒေသနာဟာ အလွန်တရာ အရေးကြီးပါတယ်၊ ဒီပဋိစ္စသမုပ္ပါဒ်ကို သဘောကျနားလည်မှ အရင်းခံဖြစ်တဲ့ သဿတဒိဋ္ဌိ၊ ဥစ္ဆေဒဒိဋ္ဌိ နှစ်ပါး ပြုတ်ပါတယ်။

အဘယ်ကြောင့်ဆိုသော် အကြောင်းကြောင့် အကျိုးဖြစ်တာပဲ၊ အကြောင်းတရား ချုပ်ခဲ့သော် အကျိုးတရား ချုပ်တာပဲဟု အကြောင်း အကျိုးတွေ ဆက်စပ်နေမှုကို နားလည်မှ ပုဂ္ဂိုလ်, သတ္တဝါ, ငါ, သူတစ်ပါး, ယောကျ်ား, မိန်းမရယ်လို့ မရှိဘူး။ ရုပ်နှင့်နာမ် ဖြစ်လိုက် ချုပ်လိုက် ဖြစ်လိုက် ချုပ်လိုက်နဲ့ နေတာပဲဟု စွဲမြဲမှန်ကန်စွာ သိလာမှာ ဖြစ်ပါတယ်။

ဒါကြောင့် အကြောင်းကြောင့် အကျိုးဖြစ်တယ်ဟု အဖြစ်ကို သိရင် ဥစ္ဆေဒဒိဋ္ဌိ ပြုတ်တယ်၊ အကြောင်းချုပ်ခဲ့သော် အကျိုးချုပ်တာပဲ၊ အပျက်ကို သိရင် သဿတဒိဋ္ဌိ ပြုတ်တာပဲ အဲဒီ ဒိဋ္ဌိနှစ်ပါး ချုပ်သွားမှ ဒ... သ်လမ်းရောက်ပါတယ်၊ ဒိဋ္ဌိ

နှစ်ပါးခံနေရင် အချိန်ကြာတဲ့ ဒုဗ္ဗလဝိပဿနာလို့ ခေါ်တယ်၊ မြတ်စွာဘုရား လက်ထက်က အရှင်ဆန္နဟာ အကြောင်းတရား ကြောင့်သာ အကျိုးတရားဖြစ်ပေါ်သည့် ပဋိစ္စသမုပ္ပါဒ် နား မလည်ဘဲ တရားအားထုတ်ခဲ့ရာ အနိစ္စ, ဒုက္ခ, အနတ္တ မြင်ပါလျက် (၄၅) နှစ်ပတ်လုံး မဂ်ဖိုလ်မရနိုင်ဘဲ ဘုရားပရိနိဗ္ဗာန် စံလွန်တော်မူပြီးမှ အရှင်အာနန္ဒာက ပဋိစ္စသမုပ္ပါဒဓမ္မ အကြောင်း အကျိုး ဆက်ပြလိုက်မှ အကျွတ်တရားကို ရသွားတယ်။

ဒိဋ္ဌိကိုသိမှုနဲ့ ပြုတ်ပြီးမှ ပွားမှုနောက်က လိုက်ရပါတယ်။ ကျွန်ုပ်တို့တွေဟာ လေကို အမြဲတစေ ရှူရှိုက်နေမှ အသက်ရှင် ကြရပါတယ်။ ထိုလေကို စိတ်နှင့်ပင် ရှူနေတာ ရှိုက်တာဖြစ် ပါတယ်၊ အားထုတ်တဲ့ စိတ်မပါဘဲနဲ့ ရှူလို့ရှိုက်လို့ မရပါဘူး၊ အကိုးအကားနဲ့ ပြရမယ်ဆိုရင် ဝင်သက် ထွက်သက်ဟာ စိတ်ကြောင့် ဖြစ်တယ်လို့ ဆိုထားပါတယ်။ ဒီတော့ အချိန်တိုတိုနဲ့ လိုရင်းရောက်အောင် ပြောရမယ် ဆိုရင် 'ရှူစိတ် ရှိုက်စိတ်' လို့ ခေါ်ကြပါစို့ ကျေးဇူးရှင် ဆရာတော်ကြီး ဆုံးမသွန်သင် ထားသည့်အတိုင်း" သတိကို အရင်ထား၊ လုံ့လဝီရိယစိုက်၊ ပညာနဲ့ရှု၊ ဤသုံးခုဟာ အရေးကြီးဆုံးပါပဲ လို့မှတ်ပါ။

ရှေးဦးစွာ ဝင်လေထွက်လေကို သတိထားပြီးရင် လုံ့လဝီရိယ ကြိုးစားစိုက်ပြီး လေကိုရှူတဲ့အခါ ရှူစိတ်ကလေးတွေ ပေါ်ပေါ်လာတာကို ဉာဏ်ပညာနဲ့ ရှုပါ၊ လေကို ရှိုက်တဲ့အခါ ရှိုက်စိတ် ကလေးတွေ ပေါ်ပေါ်လာတာကို ဉာဏ်ပညာနဲ့ ရှု လိုက်ပါ၊ လူသစ်များ အဖို့ဆိုရင် မိနစ် ၂၀-လောက် အစကန

ဦးမှာ စိုက်စိုက်ပြီး ရှုဖို့လိုပါတယ်။ 'ရှုရမှာသည် ဝင်သက် ထွက်သက် မဟုတ်ပါ၊ ဝင်လေကို ဖြစ်စေတဲ့စိတ်၊ ထွက်လေကို ဖြစ်စေတဲ့စိတ်' ကိုသာ အထူးဂရုစိုက် ရှုပါ။

စိတ္တာနုပဿနာဆိုတာ စိတ်ကို ရှုမှာဖြစ်တဲ့အတွက် ရှုရမှာကလည်း 'ဝင်သက် ထွက်သက် မဟုတ်ပါ။ ဝင်လေကို ဖြစ်စေသောစိတ်'ကိုသာ ရှုရမည် ဖြစ်ပါသည်။ အဲဒီလို စိတ်ရှုလိုက်တော့ စိတ်တွေ တစ်ခုနဲ့တစ်ခု ဆက်ဆက်ပြီး ပေါ်လာတာတွေ တွေ့ပါလိမ့်မယ်။ စိတ်တွေ့နေရင် ပထမဆင့်တော့ အတော်နေရာကျပြီလို့ အောက်မေ့ပါ။ ဒါပေမယ့် ဝမ်းမြောက်စရာ မဟုတ်သေးပါဘူး။

အဘယ့်ကြောင့်ဆိုသော် စိတ်ကို အရှုခိုင်းထားသော်လည်း စိတ်ရဲ့ ချုပ်ပြတ်မှုကို သိမှ အထက်ဉာဏ်လို့ ခေါ်ရပါတယ်။ စိတ်ကို ရှုလို့ စိတ်တွေ့ပြီဆိုရင် စိတ်ဆိုတာ နာမ်တရား ဖြစ်ပါတယ်။ သို့အတွက် ဝင်သက် ထွက်သက် ရုပ်နဲ့ ဝင်သက် ထွက်သက်ကို ဖြစ်စေတတ်သော စိတ်ခေါ်နာမ်၊ ဤနှစ်ပါးတို့ ပိုင်းခြားကွဲပြား သွားတဲ့ နာမရူပပရိစ္ဆေဒဉာဏ် ရောက်ရုံ သာမန်ပဲ ရှိသေးလို့ ဖြစ်ပါတယ်။ အထက်ဉာဏ် မရောက်သေးပါဘူး၊ ပေါ်လာပြီး ပျက်ပျက် သွားတာတွေ့မှအထက်ဉာဏ် ရောက်ပြီလို့ ဆိုရပါတယ်။ ဒီအထက် ဖြစ်တဲ့ ဉာဏ်ရောက်မှ ယထာဘူတဉာဏ်၊ ဓမ္မဒိဋ္ဌိဉာဏ် ပေါက်ပြီလို ဆိုရပါတယ်။

မိုးကုတ်ဝိပဿနာရှုနည်းမှာ ထူးခြားချက် ရှိပါတယ်။ ပေါ်တိုင်းပေါ်တိုင်း မှတ်နေတာ မဟုတ်ပါဘူး၊ ပေါ်ပေါ်လာ

ပြီးတော့ ပျောက်ပျောက်သွားတာကို ဉာဏ်နဲ့ သိအောင် ရှုရခြင်း၊ အကဲခတ်ရပြင်းသာ ဖြစ်ပါတယ်။ ထိုင်ချင်တဲ့ စိတ်ပေါ် လာရင် ဒီထိုင်ချင်ဟဲ့ စိတ်ဟာ ပေါ်ပြီး ပျက်ပျက် သွားတာပဲလို့ ရှုပါ။ ထချင်တဲ့စိတ်ပေါ်ရင် ဒီထချင်တဲ့စိတ်ဟာ ပေါ်ပြီး ပျက်ပျက်သွားတာပဲလို့ ရှုပါ။ သွားချင်တဲ့စိတ်၊ စာချင်တဲ့စိတ် စသည်တို့လည်း ပေါ်ပြီးတိုင်း ပေါ်ပြီးတိုင်း ပျက်ပျက်သွားတာ ပဲလို့ ရှုပါ။ ပေါ်လဲပေါ်တယ်၊ ပျက်လဲ ပျက်ပျက်သွားတာကို သိတဲ့အသိဉာဏ်သာ ဝိဇ္ဇာဉာဏ်၏ အစပဲလို့ ဆိုနိုင်ပါတယ်။

မိမိတို့သန္တာန်မှာ လေကိုရှူတဲ့စိတ်ကလေးတွေ၊ လေကို ရှိုက်တဲ့ စိတ်ကလေးကို နောက်စိတ်နဲ့ ရှိမရှိ အကဲခတ်လိုက်ပါ။ ဒီလို နောက်စိတ်နဲ့ အကဲခတ်လိုက်တော့ ပထမရှူတဲ့ စိတ်ကလေး ရှိသေးသလား၊ မရှိတော့ဘူးလား၊ မရှိတာ တွေ့မှာပဲ၊ အဲဒီလိုတွေ့ရင် အထက်ဉာဏ်ရောက်ပြီးလို့ မှတ်၊ အဘယ် ကြောင့်ဆိုသော် ရှင်တော် ဘုရားက 'ဟုတွာ အဘာဝဋ္ဌေန အနိစ္စံ' ဟု ဟောကြားထားလို့ ဖြစ်တယ်။ ဟောကြားသလို လက်တွေ့လုပ်ကြည့်တော့ သိတယ်။ အဲဒါဟာ အနိစ္စလက္ခဏာ ထင်တော့တာပဲ။

မရှိတာကို ရှုရမှာ မဟုတ်ပါဘူး၊ ရှိတာကိုသာ ရှုရပါမယ်။ မရှိတာကို ရှုနေရင် ပညတ်ကို ရှုတာဖြစ်သွားမှာပေါ့။ 'ဘူတံ ဘူတတော ယထာဘူတံ ဝိပဿတိ'တဲ့၊ ထင်ရှားရှိတဲ့ တရားကို ထင်ရှားရှိတဲ့ တရားနဲ့ရှုမှ ယထာဘူတဉာဏ် လမ်းမှန်ကျ ပါတယ်။ ဒီထင်ရှားတဲ့တရားကို ပျောက်ပျက်သွားတာ သိမှ အနိစ္စကို ရှုရာကျမယ်၊ တရားတွေ့မယ် တွေ့တယ်ဆိုတာ

အနိစ္စတွေ့မှ တရားတွေ့တယ်လို့ ခေါ်တယ်၊ ဝေဒနာကို ရှုတဲ့ ပုဂ္ဂိုလ်များလဲ ဝေဒနာအနိစ္စကို မတွေ့ဘဲ ဝေဒနာတွေသာ တွေ့နေရင် လမ်းမှန် မဟုတ်သေးဘူး။ ဝေဒနာရဲ့ အပျက်ကို တွေ့မှသာ အနိစ္စတွေ့ပြီလို့ ဆိုရပါ့မယ်။

ဘာကြောင့်လဲ ဆိုတော့ မြတ်စွာဘုရားက 'ဝေဒနာ ဘိက္ခဝေ အနိစ္စာ ဇာနတော ပဿတော အဝိဇ္ဇာ ပဟီယတိ၊ ဝိဇ္ဇာ ဥပ္ပဇ္ဇတိ' လို့ ဟောထားပါတယ်။ အနိစ္စပဲလို့ ဝိပဿနာဉာဏ် မဂ်ဉာဏ်နဲ့ သိရမယ်။ ဒါမှ အဝိဇ္ဇာအမှောင်ပျောက်ပြီး ဝိဇ္ဇာ အလင်းရောင် ရောက်မယ်။ စိတ္တာနုပဿနာ ရှုပုံရှုနည်း ထပ်ပြီး ကြည့်ကြစို့၊ လေကို ဝင်စေတဲ့ စိတ်ကလေးတွေ၊ လေကို ထွက်စေတဲ့ စိတ်ကလေး တွေကို ရှုနေရင်း အကဲခတ်နေရင်း မိမိတို့သန္တာန်မှာ ပေါ်ရိုး ပေါ်စဉ်ဖြစ်တဲ့ စိတ်တွေ ပေါ်လာ လိမ့်မယ်။

အဲဒီလို့ ပေါ်လာတဲ့ စိတ်အများတို့တွင် ဆရာတော်ကြီးက ကျမ်းဂန်အသီးသီးနဲ့ ညှိနှိုင်းပြီး အပြင်ဧည့်သည်စိတ် (၆)ခု၊ အတွင်း ဧည့်သည်စိတ် (၅)ခု၊ ပြောခဲ့သောလေကို ဝင်စေတဲ့ စိတ်တစ်ခု၊ လေကိုထွက်စေတဲ့ စိတ်တစ်ခု၊ ပေါင်း (၁၃)ခုကို အကျဉ်းချုံးပြီးတော့ ပေးထားပါတယ်၊ ဧည့်သည်စိတ်များ ဆိုတာတော့ ရံဖန်ရံခါသာ ပေါ်လာတတ်တဲ့ စိတ်တွေ ဖြစ်လို့ ဧည့်သည့်စိတ်လို့ အမည်ပေးထား ပါတယ်။

အဲဒီ ဧည့်သည်စိတ်တွေ ပေါ်တိုင်းပေါ်တိုင်းလဲ ဖြစ်ပျက် ကိုရှု၊ မြင်ရင်လဲ မြင်စိတ်ကိုရှု၊ ကြားရင်လဲ ကြားစိတ်ကိုရှု၊

စားရင်လဲ စားချင်တဲ့စိတ်ကိုရှု၊ ယားရင်လဲ ယားစိတ်ကိုရှု၊ အရှုသာ မပျက်စေနဲ့၊ ဧည့်သည်စိတ်တွေ မပေါ်လို့ ရှိရင် အိမ်ရှင်ဖြစ်တဲ့ ရှုစိတ်ရှိုက်စိတ်ကို ပြန်၍ရှုကြပါ။ အိမ်သည်စိတ် ကတော့ အမြဲရမှာပဲ။ သူတို့က သက်စောင့်စိတ်လို့ ခေါ်ရ ပါတယ်။ သူတို့ကို မရှုနိုင် မရှိုက်နိုင်ရင်သေတယ် ဆိုရတယ်။

ဆရာတော်ကြီးက ပင့်ကူကြီး ဥပမာကို ပြဆိုထားပါတယ်။ ပင့်ကူကြီးဟာ အစာရှိတဲ့နေရာကို ခဏခဏ သွားသွားပြီး ခဏခဏစားတယ်။ စားတဲ့သောက်တဲ့ကိစ္စ ပြီးတဲ့အခါကျတော့ သူနေရာဌာနပဲ ပြန်ပြီးတော့ ထိုင်တယ်။ ဒီလိုပဲ စိတ်ဆိုတာ ထိုထိုအာရုံတွေကို ကျက်စားနေတာဘဲ၊ တခြားကျက်မစားနိုင်ရင် ပင်ကိုရင်းဖြစ်တဲ့ ဝင်စိတ်ထွက်စိတ်တွေအပေါ်မှာ ပြန်လာတာဘဲ၊ အဲဒီလိုပေါ်တိုင်း ပေါ်တိုင်း ရှုရှုပြီးပျက်ပျက်သွားတာတွေ၊ ပျောက်ပျောက်သွားတာတွေ တွေ့အောင်ရှုဖို့ အရေးကြီးပါတယ်။

အပျက်ကိုတွေ့မှ အနိစ္စတွေ့တယ်လို့ ခေါ်နိုင်ပါတယ်။ မှတ်ပြီးနေရုံမျှနှင့် အနိစ္စတွေ့ဖို့ မလွယ်ပါဘူး၊ အနိစ္စတွေ့ရင်လဲ လမ်းမှန်ကျတယ်လို့ မခေါ်နိုင်ပါဘူး၊ သေသေချာချာ စဉ်းစားကြည့်ကြပါ။ မိမိတို့ ခန္ဓာကိုယ်ကြီးတစ်ခုလုံးဟာ အနိစ္စတုံးကြီး၊ ဒုက္ခတုံးကြီး၊ အနတ္တတုံးကြီးဖြစ်နေတော့ ဖောက်ပြန်တာနဲ့ ပျက်စီးနေတာဘဲ ရှိတယ်၊ ပျက်ပျက်သွားတဲ့ အနိစ္စတွေ့တော့ တကယ်ရှိတာကလဲ ရုပ်နာမ်တွေသာ ရှိနေတော့ အရှိနဲ့ အသိနဲ့ ကိုက်ကိုက်နေတယ်လို့ ဆိုနိုင်ပါတယ်။

မှတ်နေရုံမျှနဲ့ အနိစ္စတွေဖို့ မလွယ်ပါဘူး၊ ငါရှု ငါမှတ်မှုသာ ဖြစ်ပြီး အတ္တဒိဋ္ဌိကြီး ပြုတ်ဖို့မလွယ်ပါဘူး၊ အင်မတန် ခဲယဉ်းပါ လိမ့်မယ်၊ အနိစ္စလဲမြင်ဖို့ ခဲရင်းပါလိမ့်မယ်၊ အနိစ္စမမြင်ရင် ဒုက္ခလဲ မမြင်နိုင်ပါဘူး၊ ဒုက္ခမမြင်ရင် ဒုက္ခသစ္စာတွေ့ရန် ခဲယဉ်း သွားပါတယ်၊ ဒါကြောင့် အနိစ္စမြင်အောင် အရင်ရှုပါ၊ ခန္ဓာကိုယ် ကြီးကလဲ ငါ့မှာ အနိစ္စသာရှိတယ်၊ ဒုက္ခသာရှိတယ် အနတ္တသာ ရှိတယ်လို့ ပြနေတာ ပါဘဲ။

အတိုချုံးပြီး အကျဉ်းရုံးလိုက်တော့ ရုပ် ဝေဒနာ သညာ သင်္ခါရ ဝိညာဉ်ဆိုတဲ့ ငါးပါးလုံးဟာ ဖြစ်ဖြစ်ပြီး ပျက်ပျက် နေတယ်ဆိုတာ ခန္ဓာကပဲ ပြပါတယ်၊ ခန္ဓာက ပြတာ အမှန်ယူပါ။ လူက ထင်နေတာကို အမှန်မယူချင်ပါနဲ့၊ 'အမေကျော်ပြီး ဒွေးတော် မလွမ်းချင်ပါနဲ့' 'မြတ်စွာဘုရားကလဲ ဝေဒနာ ဘိက္ခဝေ အနိစ္စာ ဇာနတော ပဿတော အဝိဇ္ဇာ ပဟီယတိ ဝိဇ္ဇာ ဥပ္ပဇ္ဇတိ'လို့ ဟောထားတာဘဲ၊ အဝိဇ္ဇာကနေပြီး ဝိဇ္ဇာ ရောက်ဖို့ ဆိုတာကလဲ အနိစ္စကို ရှုမှ အနိစ္စကိုမြင်မှ အဝိဇ္ဇာ ပျောက်ပြီးတော့ ဝိဇ္ဇာရောက်တယ်လို့ ဆိုလိုပါတယ်၊ ရှုတယ် ဆိုတာကလဲ ပါးစပ်က အနိစ္စ အနိစ္စဆိုလို့ မရပါဘူး၊ ရှုမှတ်ခံနေ ရတဲ့ စိတ်ကလေးတွေ ပျက်ပျက်သွားတာကို ဉာဏ်ပညာနဲ့ သိသိနေရမယ်လို့ ဆိုတာပါ။

သတိပဋ္ဌာန်မှာလဲ အပိုင်းတိုင်းအပိုင်းတိုင်းမှာ "သမုဒယ ဓမ္မာနုပဿီ ဝါ ဝယဓမ္မာနုပဿီ ဝါ သမုဒယဝယဓမ္မာနုပဿီ ဝါ" ဆိုထားပါတယ်။ ဖြစ်တာကိုလဲ ရှုပါ။ ပျက်တာကိုလဲ ရှုပါ၊ ဖြစ်တာရော ပျက်တာရော ရှုပါလို့ ဆိုထားပါတယ်။ ဒါကို တချို့

သတိ မမူကြဘဲ အာနာပါန သမထလောက်နဲ့ ကျေနပ်ပြီး သောင်တင် နေကြတာ အများကြီး ရှိကြတယ်နော်၊ အမှန်မှာ သမုဒယ၊ ဝယ၊ သမုဒယ, ဝယထိအောင် လိုက်ကြဖို့လိုပါတယ်။

အဲဒီတော့ ဖြစ်ပေါ် ဖြစ်ပေါ်လာပြီး ပျက်ပျက်သွားတာ အနိစ္စပဲ၊ အနိစ္စ အမြဲမရှိသည်ကို နောက်နောက် ဉာဏ်က သိလိုက်တာဟာ မဂ္ဂပဲ၊ ရှေ့ကဖြစ်ပျက် နောက်က မဂ်နဲ့သွား ပြီးတော့ အံကိုက်ဖြစ်နေပါတယ်။ ရှေ့က ပျက်ပျက်သွားတာက အနိစ္စ၊ နောက်ကလိုက်လိုက်ပြီး ဉာဏ်နဲ့စိုက်လိုက်တော့ အပျက် ကလေးတွေကို သိသိသွားတာက မဂ္ဂ၊ အဲဒီလို သွားကိုက်နေ ပါတယ်။

ဒီအတိုင်းသာ ဆက်ကာဆက်ကာ "ရှေ့ကဖြစ်ပျက် နောက်ကမဂ်၊ ရှေ့က ဖြစ်ပျက် နောက်ကမဂ်" ဖြစ်ဖြစ်ပြီး ပျက်ပျက်သွားတာက အနိစ္စ၊ နောက်ကလိုက်ပြီးသိနေတာက မဂ္ဂဆိုတော့ ဖြစ်ပျက်နဲ့ မဂ် အံဝင်ခွင်ကျ ကိုက်သွားပြီး ကြားထဲမှာ ကိလေသာ တရားတွေ လာပြီးဖြစ်ပွားနိုင်ပါဦးမလား၊ မဝင်နိုင်ဘူး၊ မဖြစ်နိုင်တော့ပါဘူး၊ ဒီလိုသာ ကြာကြာ "ရှေ့ကဖြစ်ပျက် နောက်ကမဂ်၊ ရှေ့ကဖြစ်ပျက် နောက်ကမဂ်" နှင့်သာ စွဲမြဲနေရင် မိမိတို့၏ဝမ်းထဲမှာ သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ၊ သမ္မာဝါယမ၊ သမ္မာသတိ၊ သမ္မာသမာဓိဆိုတဲ့ ပဥ္စင်္ဂိကမဂ် ပေါ်နေပြီလို့ ဆိုတာ မှတ်ပါ။

အဘယ်ကြောင့် ဆိုသော် ရှေ့ကဖြစ်နေတဲ့ စိတ်ကလေးဟာ နောက်စိတ်သို့မပါ။ ဖြစ်ပြီးလျှင် ပျက်ပျက်သွားနေတာပါကလားဟု မမြဲသောအဖြစ်ကို သိနေတာက သမ္မာဒိဋ္ဌိမဂ္ဂင်၊ စိတ်ကလေးတွေ တစ်ခုနဲ့တစ်ခု ဆက်စပ်ပြီးဖြစ်နေတာကို ထင်အောင် တင်ပေးနေတာက သမ္မာသင်္ကပ္ပမဂ္ဂင်၊ တခြားသို့ အာရုံမပြောင်းစေရဘဲ ဇွဲနဲ့အမြဲ လုံ့လထုတ်နေတာက သမ္မာဝါယာမမဂ္ဂင်၊ စိတ်ကလေးတွေက ဖြစ်ပုံပျက်ပုံကိုသာ အာရုံကပ်ပြီး ရှုမှတ်နေတာက သမ္မာသတိမဂ္ဂင်၊ အဲဒီလို ဝီရိယနဲ့သတိအမြဲရှိနေတော့ စိတ်တည်းဟူသော အာရုံပေါ်၌သာ ငြိမ်သက်စွာ တည်နေတာက သမ္မာသမာဓိမဂ္ဂင် ဖြစ်ပွားနေတော့ ပဉ္စင်္ဂိကမဂ် ပေါ်နေပြီလို့ ဆိုရတာပါပဲ။

ဤကဲ့သို့ ရှေ့ကဖြစ်ပျက်နဲ့ နောက်က မဂ်ကိုက်နေပါလျှင် နောက်ထပ်မြှင့်၍ တစ်ဆင့်တက်ပေးပါ။ ဘယ်လိုတက်ပေးရမလဲ ဆိုတော့ ဖြစ်ဖြစ်နေတာလဲ မဖြစ်ချင်လို့မရ ဒုက္ခပဲ၊ ပျက်ပျက်နေတာလဲ မပျက်ချင်လို့မရ ဒုက္ခပဲ၊ ဒီတော့ ခန္ဓာကိုယ်ကြီးဟာ ဒုက္ခမှတပါး ဘာမျှမရှိပါတကား၊ ဒုက္ခတုံးကြီးပါတကား။

သုခဆိုလို့ ဘာမျှမရှိပါတကား၊ ဒုက္ခသာ မုချဧကန် ရှိတယ်လို့ ဉာဏ်နဲ့လိုက်ပြီး အံကိုက်အောင် နာနာရှုပါ၊ နာနာရှုပေးရင် ဒုက္ခ အမှန်ပဲလို့ ဝိဇ္ဇာဉာဏ်ဝင်လာရင် ဒုက္ခသစ္စာနဲ့ မဂ္ဂသစ္စာကို တဒင်္ဂအားဖြင့် ပိုင်းခြားသိနေပြီဟု ဆိုရပါတယ်။

ဒါကြောင့် ခန္ဓာကိုယ်ကြီးပေါ်မှာ ဖြစ်ပျက်နေတဲ့ ရုပ်နှင့် နာမ်က ဒုက္ခသစ္စာ၊ အဖြစ်အပျက်ကို သိနေတာက မဂ္ဂသစ္စာလို့ ပိုင်ပိုင်နိုင်နိုင် သိလာရင် မိမိတို့ ရည်မှန်းထားတဲ့ နိဗ္ဗာန်လမ်းတော့ ပွင့်ပြီ။ ရည်မှန်းချက် ပန်းတိုင်တော့ နီးပြီဟု လက်ခမောင်း ခတ်နိုင် ကြပါပြီ။

မြတ်စွာဘုရားကလဲ သတိပဋ္ဌာန်ပါဠိတော်မှာ. . . .

'က္လမေ ဘိက္ခဝေ ဘိက္ခု စိတ္တေ စိတ္တာနုပဿီ ဝိဟရတိ အာတာပီ သမ္ပဇာနော သတိမာ ဝိနေယျ လောကေ အဘိဇ္ဈာ-ဒေါမနဿံ' ဟု ဟောကြားထားပါတယ်။

ဘိက္ခဝေ၊ ချစ်သားတို့။ က္လမ၊ ဤသာသနာတော်၌။ အာတာပီ၊ ကိလေသာကို ပယ်ခွာနိုင်အောင် စိတ်ကို တစိမ့်စိမ့် ကျိုတ်၍ ရှုလေ့ရှိသော။ သမ္ပဇာနော၊ စိတ်နေစိတ်သွားကို ပိုင်းခြားသိမြင် ပညာအဆင်အခြင်နှင့် ပြည့်စုံသော။ ဘိက္ခု၊ သံသရာဘေးကို မျှော်တွေး လေ့ရှိသော ပုဂ္ဂိုလ်သည်၊ လောကေ၊ ဝိညာဏုပါဒါနက္ခန္ဓာတည်း ဟူသော လောက၌။ အဘိဇ္ဈာ ဒေါမနဿံ၊ တပ်နှစ်သက်သော အားဖြင့် ရေးရှုကြခြင်းဟူသော ဒေါမနဿကို။ ဝိနေယျ၊ တကယ် မရောက်အောင် ပယ်ဖျောက် ရန်အလို့ငှာ။ စိတ္တေ၊ မိမိခန္ဓာကိုယ်မှာ အလိုလိုသာ ဖြစ်ပေါ် လာသောစိတ်၌။ စိတ္တာနုပဿီ၊ ဖြစ်ပေါ်ခိုက် ဖြစ်ပေါ်ခိုက် စိတ်သို့လိုက်၍ ကိုက်အောင် ရှုသည်ဖြစ်လျက်။ ဝိဟရတိ၊ နေထိုင်ရ၏တဲ့။

ဤပါဠိတော် စကားရပ်တို့တွင် 'အာတာပီ သမ္ပဇာနော' ဟူသော စကားဖြင့် စိတ္တာနုပဿနာ ပွားလိုသော ပုဂ္ဂိုလ်သည် ကိလေသာအပူခါတ်ကို ပယ်သတ်နိုင်လောက်အောင် လုံ့လ ဝီရိယ ရှိရမည်။ သတိသမ္ပဇဉ်ဉာဏ် ယှဉ်ရမည်ဟူသော အင်္ဂါ ရပ်ကို ပြသည်။ 'ကိလေ စိတ္တေ' ဟူသော စကားဖြင့် ဥပါဒါန်၏ အာရုံဖြစ်သော စိတ်တို့ကိုသာ ရှုမှတ်ရမည့်အဖြစ်ကို ပြသည်။ 'အဘိဇ္ဈာ ဒေါမနဿ ကင်းကွာနိုင်ခြင်းအကျိုးကို ပြသည်။ စိတ္တာနုပဿီ' ဟူသော စကားဖြင့် ဖြစ်ပေါ်လာသော အိမ်သည် စိတ်တို့ကို အမှတ်မပျက်အောင် အဖန်တလဲ အမြဲရှုမှတ်နေရ မည်ဟု ရှုမှတ်ပုံ အခြင်းအရာကို ပြသည်။

ဒါကြောင့် စိတ်တစ်လုံးကိုနိုင်ရင် သမာဓိခိုင်သည်။ သမာဓိ ခိုင်ရင် ပညာပိုင်သည်။ ပညာပိုင်ရင် နိဗ္ဗာန်သို့ ရောက်နိုင်ပါ သည်ဟု ဆိုနိုင်ပါသည်။ မြတ်စွာဘုရားသခင် သာဝတ္ထိပြည် ဇေတဝန် ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် သာဝတ္ထိ ပြည်ဖွား သူဌေးသားတစ်ယောက်သည် မိမိအိမ်သို့ ကြွ ရောက် သော ရဟန်းတစ်ပါးအား လျှောက်ထားတယ်။

အရှင်ဘုရား၊ တပည့်တော်သည် သံသရာဝဋ်အတွင်းမှ လွတ်ကင်းရန် တရားမမှုဖြင့် ဆုံးမတော်မူပါဟု လျှောက်၏။ ထိုအခါ ရဟန်းတော်က "ဒကာ မိမိမှာရှိတဲ့ပစ္စည်း ဥစ္စာများကို သုံးပုံထား၍ တစ်ပုံကို အရင်းအနှီးလုပ်၊ တစ်ပုံကို သားမယား

တို့ကိုကျွေး၊ တစ်ပုံကို သာသနာ့တော်ထမ်း ရဟန်းတို့ကို ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ ဆေးဟူသော လေးပါးသော ပစ္စည်းတို့ဖြင့် စေတနာကြီးကြီးထား၍ လှူဒါန်းပါလော့"ဟု တိုက်တွန်း၏။

ဒကာသည် "ကောင်းပါပြီ အရှင်ဘုရား"ဟု ဝန်ခံပြီးလျှင် ရဟန်းတော် ဟောကြားသည့်အတိုင်း မဆိုင်းမကြာ ပစ္စည်းဥစ္စာတို့ကို လှူဒါန်း၍ နောက်ထပ်တစ်ဖန် ထပ်မံ၍ လျှောက်ထားပြန်၏။ "အရှင်ဘုရား ယခုပြုလုပ်သော ကုသိုလ်ထက် ပိုလွန်သော ကုသိုလ်ကို အမိန့်ရှိပါ"ဟု လျှောက်၏။

ဒါဖြင့်ရင် ဘုရား တရား သံဃာ ရတနာသုံးပါးတို့ကို အိပ်ရာထနဲ့ အိပ်ရာဝင် နေရစဉ်မပြတ် မခြားရအောင် ခစား ဆည်းကပ်၍ ငါးပါးသီလတို့ကိုလည်း ခါးဝတ်ပုဆိုးကဲ့သို့ မကျိုး မပေါက်ရအောင် ကောင်းစွာ တည်ဆောက်၍ နေတော့ဟု ဟောကြားပြန်၏။

အရှင်ဘုရား ကောင်းပါပြီဟု ဝန်ခံပြီးလျှင် ရဟန်းတော်မြတ် ဟောကြားအပ်သော တရားတို့ကို ရိုသေလေးစား၍ ဟောကြားသည့်အတိုင်း မဆိုင်းမကြာ ပြုလုပ်၏။

ထို့ကြောင့် ၎င်းဒကာကို 'အနုပုဗ္ဗသေဋ္ဌိ' မြန်မာလိုတော့ မောင်ကံဌေးလို့ ခေါ်ကြသည်။

"အရှင်ဘုရား၊ ထိုထက် သာလွန်ကောင်းမြတ်သော တခြား ကုသိုလ်များ ရှိပါသေးသလား၊ တပည့်တော်ဖြင့် ဒီ

ကုသိုလ်တွေ နေ့စဉ်နှင့်အမျှ ပြုလုပ်နေရတာ အားမရဖြစ်နေပါသည်။ ထပ်မံ၍ သည်းခံပြီး ဟောကြားတော်မူပါ"ဟု လျှောက်ထားပြန်၏။

"ဒါဖြင့်ရင် ဒကာရယ် သာသနာတော်ထမ်း ရဟန်းပြုလုပ်ဖို့ပဲ ရှိပါတော့တယ်" ဟု ဟောကြား၏။ ဟောကြားသည့်အတိုင်း ဒကာသည် မကြာမီ ရဟန်းပြုလိုက်၏။ ပြုလုပ်ပြီးနောက် ရဟန်းကျင့်ဝတ်ဖြစ်သော (၂၂၇) သွယ်သော ဝိနည်းသိက္ခာပုဒ်တွေကို ဝိနည်းမိုရ် ဥပဇ္ဈာယ်ဆရာတော်ဘုရားထံ သင်ကြားရာတွင် များပြားသည့်အတွက် မလှုပ်သာ မလှည့်သာ အကျဉ်းအကျပ်နဲ့ တွေ့နေရ၍ သာသနာတော်၌ ငြီးငွေ့လာ၏။ စိတ်ပျက်လာ၏။ စိတ်ပျက်သဖြင့် မအိပ်စက်နိုင်သောကြောင့် အားကုန်၍ ပိန်ကြုံလာ၏။

ထိုအခါ အပေါင်းအဖော် ရဟန်းတော်တွေက "ငါ့ရှင်၊ သင် သည် ယခင်က ဝဝဖြိုးဖြိုး ရွှင်ရွှင်လန်းလန်းနဲ့ သာသနာတော်တာဝန်ကို ထမ်းရသည်မှာ ပျော်ပုံရ၏။ ယခု အသင်ကို ကြည့်ရ သည်မှာ နေထိသော ပန်းပမာကဲ့သို့ နွမ်းကာပိန်ချုံး၍ လူလုံးတောင်မပေါ် အောင် ဖြစ်နေပါသည်။ သာသနာတော်မှာ မပျော်လိုလား"ဟု မေးကြသဖြင့် မိမိ ဖြစ်ပုံအကြောင်းအရာကို ကောင်းစွာပြန်၍ သာသနာတော်ထမ်း ရဟန်းများမှာ ဝိနည်းသိကာပုဒ်တွေ များလွန်းနေ၍ လုံခြုံအောင် မကျင့်နိုင်သဖြင့် လက်ပွမ်းချကာ စိတ်ပျက်ပြီး မအိပ်စက်နိုင် မစားနိုင်ဖြစ်

နေ၍ ဤကဲ့သို့ ပိန်ချုံးသွားပါသည် ဘုရားဟု လျှောက်ထား သဖြင့် ဘုရားထံသို့ ခေါ်သွားကြ၏။

ဘုရားက "ချစ်သားတို့၊ သင်တို့သည် အဘယ်သို့သော အကြောင်းအရာ ပေါ်ပေါက်လာ၍ ငါ၏ထံမှောက်သို့ လာကြပါ သနည်းဟု မေးတော်မူလတ်သော် . . . .

"ဘုန်းတော် ကြီးမြတ်တော်မူသော မြတ်စွာဘုရား၊ ဒီ ရဟန်းသစ်ဟာ ရဟန်းဖြစ်ကာစ သာသနာတော်မှာ အတော် နပျော်ပိုက်၍ ရဟန်းပြုလုပ်ကိုင်ခြင်း ဖြစ်ပါသည်။ ယခုအခါမှာ စိတ်ပျက်၍ လူထွက်လိုသော စိတ်သန်နေသဖြင့် မြတ်စွာ ဘုရားထံ ခေါ်လာရခြင်းပါသည်ဘုရား"ဟု လျှောက်ထားကြ၏။

ဒီတော့ မြတ်စွာဘုရားက "ချစ်သား၊ သူတို့ ပြောကြသော စကားသည် မှန်ပါ၏လော" ဟု မေးမြန်း စစ်ကြောတော်မူ၏။

"မှန်ပါသည် ဘုရား" ဟု လျှောက်ထားသောအခါ "သင် အဘယ်ကြောင့် လူထွက်လိုသောဆန္ဒ ပြင်းပြနေပါသနည်း" ဟု မေးတော်မူ၏။

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ တပည့်တော်သည် သံသရာဝဋ်မှ ကျွတ်လွတ်လိုသော အာသာဖြင့် ရဟန်းပြုခဲ့တာ မှန်ပါသည်။ သို့ရာတွင် သာသနာတော်ထမ်း ရဟန်းဖြစ်သော အခါ ဥပဇ္ဈာယ်ဆရာက (၂၂၇) သွယ်နှင့် အကျယ်ကုဋေ ကိုးထောင်ကျော် သိက္ခာပုဒ်တိုကို တပည့်တော်အား သင်ကြား

ပါ၏။ ထိုသို့ သင်ကြားသောအခါ တပည့်တော်မှာ နေလို့မရ၊ ထိုင်လို့ မရလောက်အောင် စိတ်ဓာတ် ကျဉ်းကျပ်လှပါ၏။ ရဟန်းဘဝသည် ဤမျှများပြားလှသော ဝိနည်းတရားတို့နှင့် အညီ ရပ်တည်နိုင်ရန်အရေး ဝန်လေးလှသဖြင့် ရဟန်းဘဝမှ မနေသာသဖြင့် အိမ်မှာသာနေ၍ ကုသိုလ်တွေ ပြုလုပ်တော့အံ့ နည်းဟု အကြံရှိ၍ ပြန်လှည့်ကာ လူထွက်ချင်သော ဆန္ဒ ပြင်းပြနေပါသည်ဘုရား” ဟု လျှောက်ထားလေ၏။

“ချစ်သားရဟန်း၊ သင်သည် စိတ်ကလေးတစ်ခုကိုသာ အလေးပြု၍ လုံခြုံအောင် စောင့်ရှောက်နေရမည်ဆိုလျှင် သင် နေနိုင်ပါ့မလား” ဟု မေးတော်မူ၏။

“ဘုန်းတော်ကြီးမြတ်သော မြတ်စွာဘုရား၊ စိတ်ကလေး တစ်ခုကိုသာ စောင့်ရှောက်နေထိုင်ရမည်ဆိုလျှင် မငြိုငြင် မပင် ပန်းဘဲ ချမ်းချမ်းသာသာ သာသနာဘောင်မှာ ကောင်းစွာ ထမ်း ဆောင်နိုင်ပါသည်ဘုရား” ဟု လျှောက်ထား၏။

“ချစ်သား၊ ဒါဖြင့်ရင် သင်သည် တခြားသိက္ခာပုဒ်တွေ ဘာမျှ စောင့်ရှောက်မနေပါနဲ့၊ သင်၏စိတ်ကိုသာ လုံခြုံစွာ စောင့်ရှောက် ပါလော့” ဟု မိန့်ကြားတော်မူပြီး အောက်ပါတရား ဓမ္မကို ပြတော်မူ၏။

“ချစ်သားရဟန်း၊ အလွန်အမင်း ဖြစ်နိုင်ခြင်းငှါ ခဲခက်၍ အကဲခတ်ရန် သိမ်မွေ့သော မျိုးနွယ်နိမ့်မြင့် သင့်မသင့်ကို ထောက်ချင့်မရှိ တွေ့မိတွေ့ရာ အာရုံ၌သာ ကျရောက်မနေး

ကြံတွေးသော စိတ်ကလေးကို အလေးဂရု မှတ်ရှုနေသော ပညာရှိသည်တိတိကျကျ မိမိရရရှိအောင် စောင့်ရှောက်ရာ၏။ စောင့်ရှောက်ရှုမှတ် ဂရုပြုအပ်သော စိတ်သည် နိဗ္ဗာန်ထိ ချမ်းသာအောင် ဆောင်ရွက်နိုင်ပါသည်ဟု ဟောတော်မူ၏။

ထိုအခါ လူထွက်လိုသောရဟန်းမှာ မိမိသန္တာန်၌ အဖန်ဖန်ဖြစ်နေသော စိတ်ဓာတ်ကို တခြားသို့ မကပ်ရောက်အောင် စောင့်ရှောက်သဖြင့် ကုသိုလ်ရရုံ. ရဟန်းဘဝ ရပ်တည်လောက်ရုံမကဘဲ ရည်မှန်းချက် ပန်းတိုင်ဖြစ်သော မဟာသောတာပန်စခန်းသို့ တက်လှမ်းရနိုင်လေတော့သည်။

ဤဖြစ်ပျက်မှု အကြောင်းဝတ္ထုကို ထောက်ရှု၍ စိတ်သဘောကို နားလည်သူထံမှ နည်းခံမေးမြန်း မှတ်သား၍ ရှုပွားပါက မကြာမီ လိုရာပန်းတိုင်သို့ ရောက်နိုင်ကြလိမ့်မည်။ စိတ်ဆိုသည်မှာ မျက်စိနဲ့ မမြင်နိုင်၊ လက်နှင့်လည်း စမ်းသပ်လို့ မရ၊ ကိုယ်နှင့်လည်း ထိတွေ့လို့ ရကောင်းသည့်အရာ မဟုတ်၊ ဉာဏ်ဖြင့်သာ ထုတ်၍ စိတ်ကို အကဲခတ်ရှုမှတ်ရသည့် အရာမျိုး ဖြစ်ပါတယ်။

သို့အတွက် ဝင်လေ ရှုစိတ်၊ ထွက်လေ ထုတ်စိတ်ကို ဉာဏ်ပညာဖြင့် ကျိတ်၍ တစိမ့်စိမ့် ရှုမှတ်နေရသောအလုပ် ဖြစ်ပါသည်။ ဝင်လေ ရှုစိတ်ကို သတိကပ်ကာ စူးစိုက် ရှုပွားနေပါ။ လေကို မရှုရပါ။ စိတ်ကိုသာ ရှုမှတ်နေရပါမည်။ ထွက်လေ ထုတ်လေကိုသာ သတိကပ်ကာ ရှုမှတ်နေရပါမည်။ လေကို

မရှုရပါ၊ ထုတ်စိတ်ကိုသာ ရှုမှတ်နေရမည်။ လေနဲ့ စိတ်နဲ့ ကွဲပါစေ၊ လေကိုရှုရင် လေက ဝါယောဓာတ်ဖြစ်၍ ကာယာနုပဿနာကို ရှုတာ ဖြစ်သွားပါလိမ့်မည်။

ယင်းသို့ ရှုပွားဖန်များသော် လောဘစိတ် ဖြစ်လာရင် လောဘစိတ် ဖြစ်မှန်းသိ၊ ဒေါသစိတ်ဖြစ်လာရင် ဒေါသစိတ်ဖြစ်မှန်းသိ၊ လှူချင်စိတ်ဖြစ်လာရင် လှူချင်စိတ် ဖြစ်မှန်းသိ။ သီလဆောက်တည်ချင်စိတ် ဖြစ်လာရင် သီလဆောက်တည်ချင်စိတ် ဖြစ်မှန်းသိ၊ ကြားစိတ်၊ နံစိတ် စသည်ဖြစ်ရင်လဲ ကြားစိတ်၊ နံစိတ် စသည်ဖြစ်မှန်း သိ၊ သိနေဖို့သာ လိုပါသည်။

ထိုသို့ ရှုပွားသောအခါ စိတ်တွေဟာ ပုတီးကုံးသီထားစီထားသည့်ပမာ တသီတတန်းကြီး တစ်စိတ်ပြီး တစ်စိတ် တရိပ်ရိပ်နဲ့ ဆက်ကာဆက်ကာ ဖြစ်ပေါ်လာလိုက်၊ ပျောက်ပျက်သွားလိုက်၊ ဖြစ်ပေါ်လာလိုက်၊ ပျောက်ပျက်သွားလိုက် ဖြစ်နေသည်ကို တွေ့မြင်ရပါလိမ့်မည်။ ထိုအခါ တစ်ဆင့်ထက် တစ်ဆင့် ဉာဏ်စဉ်ရင့်၍ မဂ်ဖိုလ်သို့ ဆိုက်ရောက်နိုင်ပါသည်။

စိတ္တာနုပဿနာ ပွားနေသည့်အခါ ရေဆိပ်မှာ ထိုင်ကြည့်နေတဲ့ လူနှင့် တူပါသည်။ မိမိရှေ့မှာ ရေတွေ အသွင်သွင်စီးနေတာမြင်ပြီး အရင်ရေတွေမရှိ၊ နောက်မှစီးကျတဲ့ ရေတွေသာရှိတယ်လို့ သိသိနေသလို၊ မိမိသန္တာန်မှာ အဖန်ဖန်ပေါ်လာတဲ့ ရှေ့စိတ်တွေ မရှိ၊ ချုပ်ပျက်သွားပြီး နောက်မှ တစ်ခါ အသစ်သစ်ပေါ်လာတဲ့ စိတ်သာ ရှိတယ်လို့ အကဲခတ်၍ အမြဲရှုမှတ်နေတာပဲ ဖြစ်ပါတယ်။

ဒါကြောင့် မြတ်စွာဘုရားက သန္ဒိဋ္ဌိကောလို့ မ ဘာ်မူပါတယ်။ 'သာမံ ပဿိတဗ္ဗော သန္ဒိဋ္ဌိကော။ သာမံ၊ မိမိကိုယ်တိုင်၊ ပဿိတဗ္ဗော-ကိုယ်ပိုင်ဉာဏ်နဲ့ မြင်အောင်ကြည့်၊ သိအောင်လုပ်ရတဲ့ တရားလို့ဆိုလိုတယ်။ ဒီတော့ မိမိသန္တာန်မှာ ပေါ်ပေါက်လာတဲ့ စိတ်ကလေးတွေဟာ ပေါ်ပြီးတော့ မြဲသလား၊ မမြဲသလား၊ မမြဲပါဘူး။ ပျက်ပျက်သွားတာပါပဲ။ ဖြစ်ဖြစ်ပြီး ပျက်ပျက်သွားတာဟာ သူများ အပြောလား၊ ကိုယ်တိုင် အသိလား၊ အားထုတ်သူတိုင်း ကိုယ်တိုင်အသိလို့ ပြောကြာမှာပါပဲ၊ ဒါကြောင့် အထူးသိစေချင်တာက ဖြစ်ပျက်မြင်အောင်ကြည့်၊ ဖြစ်ပျက်ကို အမှန်သာသိရင် သံသရာကို ရွံ့မုန်းလာတာပါပဲ။ ရွံ့မုန်းလာရင် သံသရာ အဆုံးနိဗ္ဗာန်ကို ဧကန်မျက်မှောက် ပြုနိုင်ပါတယ်။ 'နိဗ္ဗာနံ သံသာရပရိယန္တေ ဠိတော 'တဲ့။

ထို့အပြင် ဝတ္ထုကြောင်းနဲ့ ဆရာတော်ကြီး ဟောခဲ့တာလဲ ရှိပါသေးတယ်။ မြတ်စွာဘုရားလက်ထက်က သုသိမပရိဗိုဇ် ဆိုတာ ရှိပါတယ်။ ထိုပရိဗိုဇ်ကို မြတ်စွာဘုရားက "ပုဗ္ဗေ ခေါ သုသိမ၊ ဓမ္မဋ္ဌိတိဉာဏံ၊ ပစ္ဆာ နိဗ္ဗာနေ ဉာဏံ' တဲ့။ ရှေ့က ဖြစ်ပျက်ကို သိတဲ့ ဉာဏ်နဲ့ နောက်က နိဗ္ဗာန်ကိုမြင်တဲ့ ဉာဏ်နှစ်ပဲ ရှိတယ်။ သုသိမ သို့အတွက် သင်ဟာ ဖြစ်ပျက်ကို အရင်ပိုင်အောင်လုပ်၊ ဖြစ်ပျက် အဆုံးကျတော့ နိဗ္ဗာန်ကို မြင်တဲ့ မဂ်ဉာဏ် ဖိုလ်ဉာဏ် ဆိုက်တော့တာပဲ" လို့လဲ ဟောကြားခဲ့ပါတယ်။

ဓမ္မစကြာသုတ်တော်မှာလဲ အားလုံးသိတော်မူပြီး ဖြစ်ကြ တဲ့အတိုင်း ဉာဏ်သုံးဆင့်သာ ဟောကြားထားပါတယ်။ ဉာဏ်စဉ် (၁၀) ပါးတို့၊ (၁၆) ပါးတို့ ဆိုတာကတော့ အရှင်သာရိပုတ္တရာက နောင်လာနောင်သားများအတွက် ဟောကြားချက်ပဲ ဖြစ်ပါတယ်၊ သို့ဖြစ်၍ ပညာအရာမှာ ငါဘုရားကလွဲရင် တစ်ပါးတည်းသော ရှိသည့်အတွက် သူ့လို အရှည်လိုက်နေစရာ မလိုပါဘူး။ ဖြတ် လမ်းကသာ လိုက်ဖို့လိုပါတယ်။ ကျေးဇူးရှင် ဆရာတော်ကြီးများ ကလဲ မင်းတို့အရှည်မလိုက်ကြနဲ့၊ အရှည်လိုက်ရင် အမေ ဆိုက်ပြီး တောမိုက်ကြီးနဲ့တူတဲ့ သံသရာထဲ တဝဲလည်လည် နေရလိမ့်မယ်လို့ အမိန့်ရှိပါတယ်။

ဒါကြောင့် ဆရာတော်ကြီး၏ တရားကို နှစ်သက်လို့ ဆရာ တော်ကြီးကို ကြည်ညိုကြရင် ဆရာတော်ကြီး ဩဝါဒအတိုင်း လိုက်နာကြ၊ ဆရာတော်ကြီးက တရားအားထုတ်တယ်ဆိုတာ ဝါးနှစ်ခြမ်း မီးထွက်အောင် ပွတ်တဲ့သူနဲ့ တူတယ်။ မနေမနား ပွတ်ရင် မီးထွက်သလို ယောဂီပုဂ္ဂိုလ်များလဲ မနေမနား ကြိုး စားပြီး ဖြစ်ပျက်မြင်အောင် ရှုရင်ဖြစ်ပျက်တာတွေ စိပ်စိပ် လာအောင် ရှုရင် နောင်ဖြစ်ပျက်အစဉ် သံသရာအလျဉ်ကို မုန်း တဲ့ဉာဏ် ဝင်လာအောင် ရှုရင် ဖြစ်ပျက်ဆုံးပြီး နိဗ္ဗာန်ကို လုံးလုံးကြီးဆိုက်ရောက်တော့တာပဲဟု မိန့်တော်မူပါတယ်။

ဒီတော့ ပွတ်တာက မီးပွတ်သမားအလုပ် မီးထွက်တာက ဝါးအလုပ်၊ တရားအားထုတ်တာက ယောဂီအလုပ် နိဗ္ဗာန်မြင်

တာက ပမရားအလုပ်ဖြစ်သဖြင့် အားထုတ်ကြည့်ကြပါဟုသာ တိုက်တွန်း လိုပါတယ်။ ဒါကြောင့် ဆရာတော်ကြီးက . . .

ယုံကြည်ကျန်းမာ၊ စိတ်ဖြောင့်စွာနှင့်၊
လွန်စွာအားထုတ်၊ နာမ်နှင့်ရုပ်ကို၊
ဖြစ်ချုပ်ဉာဏ်မြင်၊ ဤငါးအင်၊
မှန်ပင်မဂ်ရကြောင်းဟု မိန့်ကြားတော်မူပါသည်။

## ၂၂။ ဟံသာဝတီကမ္မဋ္ဌာန်းတိုက် ဆရာတော်ကြီး၏

## ဝိပဿနာရှုနည်း

## (စကားပလ္လင်)

စာရေးသူ ကျွန်ုပ်သည် ဟံသာဝတီ ကမ္မဋ္ဌာန်းတိုက် ဆရာတော်ကြီး၏တရားကို ကြားနာဖူးပါသည်။ (၁၉၆၅) ခုနှစ်လောက်က ရန်ကုန်မြို့၊ (၂၄)လမ်း၊ ဣစ္ဆာသယစာပုံနှိပ်တိုက်ရှင် ဦးသောင်းနှင့်အတူ တရားနာယူခဲ့ရပါသည်။ ဦးသောင်းသည် ကျွန်ုပ်အပေါ် ကျေးဇူးများသော မေမိတ်ဆွေကြီးတစ်ယောက် ဖြစ်ပါသည်။

ကျွန်ုပ်အခက်အခဲများကို ဦးသောင်း ကောင်းကောင်းသိသဖြင့် ကျွန်ုပ်ရှိရာ အိမ်သို့လာ၍ သူ၏ စာပုံနှိပ်တိုက်မှာ စာပြင်အယ်ဒီတာ လာ၍လုပ်ပါရန် တောင်းတောင်းပန်ပန်နှင့် သူ၏ အလုပ်တိုက်မှာ အလုပ်သမားမလိုဘဲ သက်သက်ကြည့်ရှုသည့်သဘောဖြင့် အလုပ်ပေးခဲ့ပါသည်။ ကျွန်ုပ်လည်း အလွန်တရာပင်

ကျေးဇူးဂ.ုင်၍ မကြာခင် သွားပြီး အလုပ်ဝင်ပါသည်။"ထို့ အပြင် ကျွန်ုပ်ရေးသားသော 'ပရိတ်ကြီးပါဠိ မြန်မာပြန်' ကျမ်းစာကို လက်ရှိကော်လှန်ရေးအစိုးရက ဆက်လက်ပြီး'ကျောင်းသုံးပြုမပြု သေချာမှုမရှိခင် ကြိုတင်၍ စာအုပ်တစ်သောင်းပင် ဝယ်လိုက်ပါ သေးတယ်။

မိမိမှာ ၎င်းစာအုပ်အတွက် ငွေလေးထောင် အမြတ်ထွက် ပါသည်။ ထိုအခါ ငါတော့ ရှင်ပြုနိုင်ပြီဟု ဝမ်းမြောက်ဝမ်းသာနှင့် ငွေလေးထောင်လုံး အကုန်ကျခံကာ သားရှင်ပြု သမီးနားထွင်း အလှူမင်္ဂလာကြီးကို ပြုလိုက်ပါသည်။ သို့ဖြစ်၍ ဦးသောင်းသည် ကျွန်ုပ်အား ကျေးဇူးများသော ဓမ္မမိတ်ဆွေ တစ်ယောက် ဖြစ်ကြောင်း ရေးသား၍ မှတ်တမ်းတင်ထားရပါသည်။

ထိုအခါက ဦးသောင်းမှာလည်း လည်ပင်းကင်ဆာရောဂါ ဖြစ်နေရှာ၍ 'ကုသိုလ်လည်းရ ဝမ်းလည်းဝ' ဆိုသလို စိတ်လည်း ချမ်းသာအောင်၊ ကုသိုလ်လည်းရအောင် ကြံဆောင်၍ ဟံသာ ဝတီကမ္မဋ္ဌာန်းတိုက်မှာ ရဟန်းဘောင်ဝင်ကာ တရားအားထုတ် ပြန်ပါသည်။ ကျွန်ုပ်သည် လူချင်းလည်းခင်မင်ပြီး ဆရာတော် ကြီး၏ တရားလည်း နာရအောင် စိတ်မှန်းလျက် ဟံသာဝတီ ကမ္မဋ္ဌာန်းတိုက် ဦးသောင်းရှိရာသို့ သွားသောအခါ အဆင်သင့် ဆရာတော်ကြီး၏ တရားဟောခိုက်နဲ့ ကြုံကြိုက်သဖြင့် အထက်၌ ပြဆိုခဲ့သည့်အတိုင်း ကျေးဇူးရှင် ဟံသာဝတီ ကမ္မဋ္ဌာန်းတိုက် ဆရာတော်ကြီး၏ ဝိပဿနာတရားကို ကြားနာခဲ့ရပါသည်။

သို့ကြားနာပြီးသည့် နောက်ပိုင်းတွင် ကျေးဇူးရှင် ဆရာတော်ကြီး ဟောကြားထားသော တရားတို့ကို ပုံနှိပ်ထားသော-

(၁) နိဗ္ဗာန်ဝင်လမ်း (၇) ရက်စခန်း စာအုပ်များ၊ (၂)ကိုယ်တွေ့ဝိပဿနာ ရှုပုံတရားစာအုပ်များကို ညမခြား နေ့မကွာ အားလပ်သည့်အခါများတွင် ကြည့်ရှုဖတ်ကြား၍ ကိုယ်တိုင်လည်း လက်တွေ့ဖြစ်အောင် ကြိုးစားအားထုတ်နေပါသည်။ မိမိအားထုတ်သလို ဟံသာဝတီ ဝိပဿနာရှုနည်းကို အားထုတ်လိုသော ထိုထိုမြို့ရွာများနေ စာဖတ်ပရိသတ်တို့ကိုလည်း အားထုတ်သလောက် သဘောပေါက်အောင် ရေးသားတင်ပြလိုသော ဆန္ဒအပြည့်အဝ ရှိသဖြင့် ဤအသစ်ပြင်ဆင်၍ ရိုက်သော ဆရာတော်ကြီး (၈)ပါး၏ 'ဝိပဿနာရှုနည်း ညွှန်ပေါင်းကျမ်း'မှာ ထည့်စွက်ဖြည့်သွင်း၍ ဖော်ပြလိုက်ခြင်းဖြစ်ပါသည်။

ဝိပဿနာအလုပ်ကို အားထုတ်လိုသော ယောဂီပုဂ္ဂိုလ်များမှာ ကနဦး အရေးကြီးတာက ဗောဓိပက္ခိယတရား၌ မြတ်စွာဘုရားဟော ကြားထားသော သဒ္ဓါ၊ ဝီရိယ၊ သတိ၊ သမာဓိ၊ ပညာ ဤငါးဖြာသော တရားတို့ကို လက်ကိုင်ထားဖို့ လိုပါသည်။ ထိုတရားငါးပါးကို မိမိခန္ဓာကိုယ်၌ အမြဲမပြတ် ကိန်းဝပ်နေအောင် လေ့ကျင့်ထားရမည်။ လေ့ကျင့်ထားဖို့ လမ်းကိုကျမ်းဂန်တို့၌ပါသော နည်းများမှ တရားအားထုတ်ရာ၌ လျော်ကန်သော နည်းများကို သီးခြားထုတ်၍ ဖော်ပြပါမည်။

ထိုငါးပါးတို့တွင် သဒ္ဓါတရားဖြစ်ခြင်း၏ အကြောင်းကား-

၁။ ဘဝအဆက်ဆက်က ထက်မြက်သော သဒ္ဓါဖြစ်ပွား လာမှုများခြင်း၊

၂။ သူတော်ကောင်း သူတော်မြတ်အပေါင်းတို့နှင့်သာ ပေါင်းသင်းဆက်ဆံခြင်း၊

၃။ သဒ္ဓါတရားရှိသောသူများကို မှီဝဲဆည်းကပ်ခြင်း၊

၄။ သဒ္ဓါကင်းမဲ့သော ပုဂ္ဂိုလ်များကို ရှောင်ကြဉ်ခြင်း၊

၅။ သူတော်ကောင်း သူတော်မြတ်အပေါင်းတို့ ဟော ကြားအပ်သော တရားကို ယုံကြည်ခြင်း၊

တို့ ဖြစ်ပါတယ်။ ဤအင်္ဂါများနှင့် ပြည့်စုံလျှင် မဖြစ် သေးသော သဒ္ဓါတရားများလဲ ပွားလာပါမည်။ သဒ္ဓါတရား ကိုလည်း (၄)ပါး ရှိသည်အနက် ဩကပ္ပနဆိုတဲ့ ရတနာသုံးပါး၊ ကံ, ကံ၏အကျိုးများကို မတုန်မလှုပ် သက်ဝင်ယုံကြည်တဲ့ သဒ္ဓါ ဖြစ်နေဖို့ လိုပါတယ်။

သဒ္ဓါတရားရှိရုံနဲ့လဲ မပြီးသေးပါ။ လုံ့လဝီရိယ အားထုတ်ဖို့ လိုပါတယ်။ လုံ့လဝီရိယဖြစ်ခြင်း အကြောင်းများကတော့ . . .

၁။ ဘဝအဆက်ဆက်က လုံ့လဝီရိယတရား ဖြစ် ပွားလာ မှုများခဲ့ခြင်း၊

၂။ ဝီရိယရှိမှ အစစအရာရာ အောင်မြင်တာကို နား လည်မှု ရှိခြင်း၊

၃။ ဝီရိယရှိသောသူများကိုသာ မှီဝဲဆည်းကပ်ခြင်း၊

၄။ ပျင်းရိထုံထိုင်းသော သူတို့ကို မပေါင်းမသင်း ရှောင်ကြဉ်ခြင်း၊

၅။ လုပ်ကိုင်သောအမှု၌ လုံ့လဝီရိယရှိရန် အတန်တန် တိုက်တွန်းအားပြု ကြိုးစားမှုရှိခြင်း၊

တို့ဖြစ်ပါတယ်။ ဤအင်္ဂါများနှင့် ပြည့်စုံလျှင် ဝီရိယတရား ဖြစ်ပွားလာပါမည်။ ဝီရိယကလည်း ရှေးဦးစွာ အားထုတ်မှု အာရမ္ဘဝီရိယ ပျင်းရိတာ ထွက်ခွာသွားအောင် အားထုတ်သော နိက္ကမဝီရိယ၊ တစ်ဆင့်ထက်တစ်ဆင့် မြင့်သထက်မြင့်အောင် အားထုတ်သော ပရက္ကမဝီရိယဟူ၍ သုံးမျိုးရှိတယ်။ ထိုသုံးမျိုး စလုံး သိမ်းကျုံးအားထုတ်မှ အောင်မြင်နိုင်တယ်။

ဝီရိယရှိပြန်တော့လဲ အမြဲမပြတ် မှတ်နေတဲ့ သတိတရား ကလဲ ရှိဦးမှဖြစ်မယ်။ သတိဆိုတာ အရာရာမှာ ပိုတယ်လို့ မရှိဘူး။ လိုပိုနေတတ်တယ်။

သတိတရားဖြစ်ပွားခြင်း၏ အကြောင်းများကတော့ . . .

၁။ ဘယ်အမှုကိစ္စမဆို သတိသမ္ပဇဉ်ဉာဏ် ယှဉ်၍ လုပ်လေ့ရှိခြင်း။

၂။ သတိတရားကောင်းသူများနှင့် သတိပေးသူများသာ မှီဝဲခြင်း။

၃။ သတိလွတ်ကင်း နံ့ဖျင်းသော သူများကို အပေါင်း အသင်း မလုပ်ခြင်း။

၄။ သတိကောင်းလျှင် အစစအရာရာ အောင်မြင်ကြောင်းကို နားလည်ခြင်း။

၅။ သတိကောင်းအောင် ဖျက်လတ်အောင် အလေ့အကျင့် ပြုလုပ်ပေးခြင်းတို့ ဖြစ်ပါတယ်။

ဤသတိဖြစ်ကြောင်း အင်္ဂါများနှင့် ပြည့်စုံလျှင် သတိတရား ဖြစ်ပွားလာပါလိမ့်မည်။ သတိတရားကလဲ -

(၁) ရှုမှတ်နေသောအခါ အာရုံပြတ်မသွားရအောင် ကပ်ထားရသော ဥပဂ္ဂဟသတိ၊

(၂) ရှုပွားနေသော သတိလဲ၏အပြတ်မရှိရဘဲ နည်းနည်းပေါ်လာသော အာရုံကို များများ ထင်ရှားစွာပေါ်အောင် အားထုတ်ရသော အသမ္မောဟသတိ၊

(၃) အာရုံကို ဉာဏ်ဖြင့် သုံးသပ်နိုင် အဖန်ဖန် စောင့်ရှောက်ရသော အာရက္ခသတိဟူ၍ သုံးမျိုးရှိတယ်။

အဲဒီသုံးမျိုးလုံး ဖြစ်ဖို့လဲ လိုပါတယ်။

ဘယ်လောက်ပဲ သတိရှိပေမယ့် ဝီရိယနဲ့ သမာဓိ အညီအမျှရှိမှ အကျိုးထူး ဝိသေသ ရပါတယ်။ သမာဓိတရားဖြစ်ပွားခြင်းအကြောင်းကတော့ . . .

၁။ ကိုယ်တွင်းကိုယ်ပ မိမိပိုင် ပစ္စည်းဟူသမျှ စင်ကြယ်ရခြင်း၊

၂။ စက္ခုန္ဒြေစသော ဣန္ဒြေငါးပါး လုံခြုံရခြင်း။

၃။ ကိုယ်စိတ်နှစ်ဖြာ တည်ကြည်စွာ ရှိသော သူများကို ပေါင်းသင်းရခြင်း။

၄။ ကိုယ်စိတ်နှစ်ဖြာ လှုပ်ရှားမတည်ကြည်သူများကို ရှောင်ရှားရခြင်း။

၅။ အရာရာ၌ တည်ကြည်စွာနေ၍ သမာဓိအား ကောင်းကောင်းမွေးရခြင်းတို့ ဖြစ်ပါတယ်။

ဤအင်္ဂါများနှင့် ပြည့်စုံအောင် လေ့ကျင့်ထားပါလျှင် သမာဓိတရား ဖြစ်ပွားလာပါလိမ့်မယ်။ သမာဓိကလည်း သမထ သမာဓိ၊ ဝိပဿနာ သမာဓိလို့ နှစ်မျိုးရှိတယ်။ ဤတရား အားထုတ်ရာမှာ ဝိပဿနာပညာကို ရှေ့သွားပြုသည့် သမာဓိရှိဖို့ အရေးကြီးပါတယ်။ သမာဓိရှိရုံနှင့် မပြီးသေးပါ။ နိဗ္ဗာန်ရောက်ရန် အရေးပါဆုံးအကြောင်း အနီးဆုံးဖြစ်တဲ့ ပညာဟာ အထူး လိုပါတယ်။

ပညာဖြစ်ရန် အကြောင်းများကတော့ . . .

၁။ ဝမ်းတွင်းပဋိသန္ဓေ ပညာဉာဏ်ရင့်သန်လာခဲ့ခြင်း၊

၂။ မသိသော အရာတို့၌ ပညာရှိထံ နည်းခံမေးမြန်း ရခြင်း၊

၃။ ကိုယ်တွင်းကိုယ်ပ နှစ်ဌာနတို့၌ သန့်ရှင်းမှုကို ပြုရခြင်း၊

၄။ ပညာမရှိသူကို ရှောင်ကြဉ်၍ ပညာရှိသူကို ပေါင်း သင်းရခြင်း။

၅။ သိမ်မွေ့နက်နဲ ခက်ခဲသော အရာတို့ကို မကြာ မကြာ ဆင်ခြင်ရခြင်းတို့ ဖြစ်ပါတယ်။

ဤပညာဖြစ်ကြောင်း အင်္ဂါများနှင့် ပြည့်စုံအောင် အလေ့အကျင့်များပါလျှင် ပညာတရား ဖြစ်ပွားလာပါလိမ့်မယ်။ ပညာကလည်း သုတပညာ၊ အနုဗောဓပညာ၊ ပဋိဝေဓပညာလို့ သုံးမျိုး ရှိပါတယ်။ ပထမ သူတစ်ပါးထံ နည်းခံတဲ့ သုတပညာရအောင် ရှာပြီး၊ ဒုတိယ မဂ်, ဖိုလ်အားလျော်သော အနုဗောဓပညာ ဖြစ်လာအောင် လုပ်ရမယ်၊ နောက်ဆုံး ပဋိဝေဓပညာ ဖြစ်လာလျှင် နိဗ္ဗာန်ကို မြင်တော့တာပဲ။

ဒီတော့ 'သဒ္ဓါ-ပညာ၊ သမာဓိ-ဝီရိယ၊ စောင်းနှယ်ညှိလော့' ဟူသော ဝိဏာဝါဒနကထာအတိုင်း မလျော့မတင်း စောင်းကြိုးညင်းသို့ ဖြစ်အောင် သဒ္ဓါနှင့် ပညာ၊ ဝီရိယနှင့်သမာဓိ မျှအောင် ညှိပြီး အားထုတ်ရပါတယ်။ သဒ္ဓါလွန်လျှင် ဆွဲ့တယ်။ ပညာလွန်လျှင် ကွန့်တယ်၊ ဝီရိယလွန်လျှင် လွင့်တယ်။ သမာဓိလွန်လျှင် ဖင့်တယ်။ သတိကတော့ လွန်တယ်လို့မရှိ၊ ပိုတယ်သာ ရှိပါတယ်။ ဒါကြောင့် သတိတရားဆိုတာကတော့ ဟင်းချက်ရာမှာ ဆားကဲ့သို့ ဘယ်ဟင်း ချက်ချက် ဆားမပါလျှင် မပြီးပါဘူး၊ ဆားပါမှ အရသာ ရှိသလို ပိုတယ်လို့ မရှိပါ။ အခါခပ်သိမ်း အလိုရှိအပ်တဲ့ တရားဖြစ်ပါတယ်။

ဤတရားငါးပါးနှင့် ပြည့်စုံအောင် ကြိုးစားပြီး အားထုတ်လျှင် လိုရာပန်းတိုင်သို့ ရောက်နိုင်ပါတယ်၊ ဥပမာ-

မိမိတိုင်းပြည်သို့ တိုင်းတစ်ပါးက ရန်သူတွေ ဝင်မလာအောင် တိုက်ထုတ်မယ် ဆိုရင် ရှေးဦးစွာ စစ်ဆင်ပုံ စစ်ဆင်နည်း နားလည်တဲ့ စစ်ဗိုလ်ကြီးလဲ ရှိရမယ်၊ စားနပ်ရိက္ခာနှင့် လက်နက် ကိရိယာ နားလည်တဲ့ စစ်ဗိုလ်ကြီးလဲ ရှိရတယ်၊ ထို့အပြင် ကြည်းတပ်ဗိုလ်၊ ရေတပ်ဗိုလ်၊ လေတပ် ဗိုလ်များလဲ ရှိရတယ်၊ အဲဒီ ဗိုလ်ကြီးငါးပါး ပြည့်ပြည့်စုံစုံ ညီညီမျှမျှ သဘောချင်း တိုက်ဆိုင်ကြမှသာလျှင် ရန်သူများကို တိုက်၍ နိုင်သလိုပါပဲ။

တရားအားထုတ်တဲ့ ပုဂ္ဂိုလ်မှာလဲ အဝိဇ္ဇာ၊ တဏှာ၊ မာန၊ ဒိဋ္ဌိ၊ ဝိစိကိစ္ဆာစသော ရန်သူကိလေသာ တရားဆိုးများ ထိုးဖောက်မလာနိုင်အောင် မိမိခန္ဓာကိုယ်မှာ ခိုလှုံပြီး မနေနိုင်အောင် မနှိပ်စက် နိုင်အောင် နှင်ထုတ်တိုက်ပစ်ရတဲ့ အလုပ်ဖြစ်ပါတယ်၊ သို့အတွက် သဒ္ဓါဗိုလ်၊ ဝီရိယဗိုလ်၊ သတိဗိုလ်၊ သမာဓိဗိုလ်၊ ပညာဗိုလ်တည်း ဟူသော ဗိုလ်ထိုက်တဲ့ တရားငါးပါးကို ညီညီမျှမျှ သဘောချင်း တိုက်ဆိုင်ရအောင် လုပ်ရပါတယ်။

အားထုတ်တဲ့ အခါမှာလည်း လွှတိုက်သော လွှသမား ယောက်ျားသည် မိမိတိုက်မည့် သစ်သားတုံးကို မျဉ်းကြောင်းဆွဲ၍ မလွဲအောင် မပြတ်မစဲ အမြဲကြည့်၍ ဋွသတ္တိဖြင့် မနားမနေ ကြိုးစားတိုက်သလို တရားအားထုတ်သော ယောဂီပုဂ္ဂိုလ်သည် လည်း နှာသီးဖျားကို အာရုံထားပြီး မျက်စိကို အသာမှိတ်လျက် ဝင်သက်လေကို ဝင်သက်မှန်းသိ ထွက်သက်လေကို ထွက်သက် မှန်း သိ၍.. အပြတ်မလပ် မရှိရအောင်၊ လက်မချိုး ပုတီးမစိပ်၊

မရေမတွက်၊ မစဉ်းစား မတွေးတောဘဲ ကမ္မဋ္ဌာန်းအာရုံ၌သာ စိတ်ကို အမြဲ ကပ်လိုက်လျက် သတိချပ်ပြီး ထပ်ကာထပ်ကာ မှတ်ရှုရပါတယ်။

ယောဂီများ (၇) ရက် အားထုတ်သော လုပ်ငန်းမှာ ရှေးဦးစွာ သီလဆောက်တည်၍ (၃) ရက်လောက် ပြဆိုခဲ့ပြီးသည့် အတိုင်း သမထအလုပ်ကို ကြိုးစားလိုက်လျှင် အမှန်ပင် သမာဓိ ရနိုင်ပါတယ်၊ (၃)ရက် သမာဓိကို ထူထောင်ပြီးသောအခါ ဝိပဿနာကို ကူးပြောင်းရပါတယ်။

'စိတ္တေန နီယတေ လောကော' ဟု ဘုရားဟောထားသည့်အတိုင်း စိတ်သာလျှင် ရှေ့သွားဖြစ်၍ စိတ်တစ်လုံး နိုင်အောင်ကိုင်ပြီး အားထုတ်နိုင်လျှင် လိုရာစခန်းဖြစ်တဲ့ မဒိုရာ၊ မနာရာ၊ မသေရာ နိဗ္ဗာန်နန်းသို့ တက်လှမ်းနိုင်ကြပါတယ်။

ကမ္မဋ္ဌာန်းအားထုတ်တယ်ဆိုတာ အားထုတ်ပြုလုပ်သည့် အာရုံပေါ်၌ စိတ်ကို နိုင်အောင် ပိုင်အောင်ကိုင်ပြီး ငြိမ်သက်စွာ တည်ရှိနေအောင် လုပ်ဆောင်သော အလုပ်ဖြစ်ပါတယ်၊ စိတ်ဆိုတဲ့ နာမ်တရားဟာ အရေးကြီးဆုံး ဖြစ်ပါတယ်။

သို့အတွက် ကျေးဇူးရှင် ဆရာတော် ဘုရားကြီးက. . . .

နာမ်လိမ္မာလျှင်၊ ရုပ်သက်သာမည်။

နာမ်မလိမ္မာလျှင်၊ ရုပ်နာလိမ်မည်။

နာမ်မအေးလျှင်၊ ရုပ်ချွေးဖြစ်လိမ့်မည်ဟု မိန့်ဆိုပါသည်။

## ၂၃။ ဆရာတော်ဘုရားကြီး၏ ဝိပဿနာရှုနည်း တရားတော်

တရားအားမထုတ်မီ ရှေးဦးစွာ ဘုရားရှိခိုးကြ၊ ဘုရားရှိခိုးဟာကလဲ. . . .

(၁) ကိုယ်ဖြင့် ရှိခိုးခြင်း ကာယပဏာမ၊

(၂) နှုတ်ဖြင့် ရှိခိုးခြင်း ဝစီပဏာမ၊

(၃) စိတ်ဖြင့် ရှိခိုးခြင်း မနောပဏာမ၊

(၄) လောကုတ္တရာအားလျော်သော အကျင့်ပဋိပတ်ဖြင့် ရှိခိုးခြင်း ဓမ္မာနုဓမ္မပဋိပတ္တိ ပဏာမဟူ၍ လေးမျိုးရှိတယ်။

ထိုလေးမျိုးတို့တွင် နောက်ဆုံးကတော့ ဓမ္မာနုဓမ္မပဋိပတ္တိ ပဏာမဟာ ပို၍လွန်၍ မြတ်တယ်။ အလွန် အဖိုးအနဂ္ဃ ထိုက်တန်လှသော ပစ္စည်းအမျိုးမျိုးတို့ဖြင့် ပူဇော်ခြင်းထက် ပို၍လွန်၍ အကျိုးကြီးမြတ်တယ်လို့ မြတ်စွာဘုရား ဟောကြားထားတာ ရှိတယ်။ တရားအားထုတ်တဲ့ ပုဂ္ဂိုလ်များ ဘုရားရှိခိုးရတဲ့ အလုပ်ဟာ ရှေးဦးစွာ ပြုလုပ်ရတဲ့ နံပါတ် (၁) ကိစ္စပဲ။

ဘုရားရှိခိုးတာဟာ ဘေးအမျိုးမျိုး၊ ရန်စွယ်အသွယ်သွယ် အန္တရာယ်ကင်း၍ လိုရင်းဖြစ်သော နိဗ္ဗာန်ကို အမြန်ရောက်နိုင်ပါတယ်။ ထို့အပြင် အပြုသဘောဖြစ်သော ကုသိုလ်ခတ်လဲ မပြတ် ဖြစ်၍ အဖျက်သဘောဖြစ်သော အကုသိုလ်ခတ်ကိုလဲ ပယ်သတ် နိုင်သဖြင့် လိုအပ်သော အကျိုးကို ဖွံ့ဖြိုးနိုင်ပါတယ်။ အချို့က တရားအားထုတ်တဲ့အခါ ဘုရားမရှိခိုးရဘူးလို့ ပြောကြတယ်။ ဒါက တရားအမှတ် ပြတ်မှာစိုးလို့ ပြောတာပါ။ ကျမ်းဂန်များမှာ ဘုရားကို အောက်မေ့တဲ့ ဗုဒ္ဓါနုဿတိ၊ နိဗ္ဗာန်ကို အောက်မေ့တဲ့ ဥပသမာ နုဿတိတို့သည် တရားအားထုတ်ရာ၌ အလွန် တရားကျေးဇူးများသော အနုဿတိတရားများ ဖြစ်ကြောင်းကိုပင် ပြဆိုထားပါတယ်။

(၂) နံပါတ်ပြုရမယ့် ကိစ္စကတော့ အစမထင် သံသရာ တစ်ခွင်မှစ၍ ဘဝအဆက်ဆက် ပေါင်းဖက်နေထိုင်ကြသော ပုဂ္ဂိုလ်တို့အပေါ် မိမိက ပြစ်မှားမိခဲ့သော ကာယကံမှု၊ ဝစီကံမှု၊ မနောကံမှု ပြုပြုခဲ့သမျှ အပြစ်တို့ကို သည်းခံကြပါရန် တောင်းပန်လိုက်ကြ ထိုထိုပုဂ္ဂိုလ်တို့က မိမိကို ပြစ်မှားမိလျှင်လဲ သည်းခံပါဟု ဆိုရမယ်။ ဤကဲ့သို့ ပြစ်မှားမိသော အပြစ်တို့ကို တောင်းပန်ရတာကတော့ ပြစ်မှားမိတဲ့ ပုဂ္ဂိုလ်များဟာ အရိယာပုဂ္ဂိုလ်ဖြစ်နေရင် 'အရိယူပဝါဒအန္တရာယ်' ထိုက်၍ တရားအားထုတ်လို့ တရားကို မရနိုင်တော့ တောင်းပန်မှ ပျောက်တယ်။ အရိယာပုဂ္ဂိုလ်မဟုတ်သော်လဲ မိဘဆရာသမားစတဲ့ ကျေးဇူးရှိသော

ပုဂ္ဂိုလ်များ ဖြစ်နေရင်လဲပဲ အနှောင့်အယှက်တော့ ဖြစ်တယ်။ ဒါကြောင့် တောင်းပန်ကန်တော့ရတယ်။ ဒါမှ ကျေသွားတယ်၊ ကင်းသွားတယ်။

(၃) နံပါတ်ကိစ္စကတော့ မိမိခန္ဓာကိုယ်နှင့် အသက်ကို မြတ်စွာဘုရားနှင့် ကမ္မဋ္ဌာန်းဆရာအား လှူဒါန်းပါ၏ ဆိုပြီး လှူဒါန်းရမယ် လှူဒါန်းရခြင်း၏ အကြောင်းကတော့ တရားကို အားထုတ်လို့ ဖြစ်စေ၊ အခြားအကြောင်းကြောင့် ဖြစ်စေ၊ ကြောက်မက်ဖွယ် ကောင်းသော အာရုံနဲ့ တွေ့ကြုံလာခဲ့သော် ငါဟာ ငါခန္ဓာကိုယ်နဲ့ ငါ့အသက်ကို ဘုရားနှင့် ဆရာသမားအား လှူဒါန်းပြီးပြီပဲ၊ ငါ့ကိုယ် ငါ့အသက်မှ မဟုတ်တော့ဘဲ ဘာ ကြောက်စရာရှိသလဲဟု ခန္ဓာကိုယ်နဲ့ အသက်ကို တခြားလွှဲ လိုက်တော့ အကြောက်ဟာ သက်သာသွားတယ်။ ဒါကြောင့် လှူရတယ်။

(၄) နံပါတ်ကိစ္စ ကမ္မဋ္ဌာန်းတရား တောင်းပန်ရမယ်။ ဗုဒ္ဓ ဘာသာဝင် သူတော်စင်တွေဟာ ဒါနပြုကြတယ်။ သီလဆောက် တည်ကြတယ်။ ဘာဝနာ ပွားများကြတယ်ဆိုတာ နောက်ဆုံး ပန်းတိုင်ဖြစ်တဲ့ နိဗ္ဗာန်ကို လိုချင်ကြလို့ပဲ၊ မြတ်စွာဘုရားကလဲ 'သီဝံ ပတ္တေထ ဘိက္ခဝေ သီဝံ ပတ္တေတွာန ဒါနံ ဒါတဗ္ဗံ သီလံ ရက္ခိတဗ္ဗံ ဘာဝနံ ဘာဝေတဗ္ဗံ' လို့ ဟောထားတော်မူတယ်။ ဒါနပဲ ပြုပြု၊ သီလပဲ ဆောက်တည်ဆောက်တည်၊ ဘာဝနာပဲ ပွားများ ပွားများ၊ နိဗ္ဗာန်တရားကို တောင့်တပြီး ပြုလုပ်ကြရမယ်တဲ့။

ဒီတော့ ပါဠိတော်လို 'ဘန္တေ သံသာရဝဋ္ဋဒုက္ခတော မောစနတ္ထာယ ဗိဇ္ဇတ္ထာယ စ ကမ္မဋ္ဌာနံ ယာစာမိ' (သုံးခေါက်ဆို)

ဘန္တေ၊ အရှင်ဘုရား။ သံသာရဝဋ္ဋဒုက္ခတော၊ သံသရာ ဝဋ်ဆင်းရဲအပေါင်းတို့မှ။ မောစနတ္ထာယ၊ ထွက်မြောက်ပါရခြင်း အကျိုးငှာလည်းကောင်း။ ဗိဇ္ဇတ္ထာယ စ၊ အတိတ်က ပါလာသော ဝိဇ္ဇာမျိုးစေ့ ရှိခဲ့သော်လည်းကောင်း၊ အကယ်၍ မျိုးစေ့မရှိခဲ့သော် ယခုအားထုတ်အပ်သော ကမ္မဋ္ဌာန်းသည် ဝိဇ္ဇာမျိုးစေ့ အဖြစ်ဖြင့် မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်၊ နိဗ္ဗာန်ကို မျက် မှောက်ပြုပါရခြင်းအကျိုးငှာလည်းကောင်း။ ကမ္မဋ္ဌာနံ၊ ကမ္မဋ္ဌာန်းကို။ ယာစာမိ၊ တောင်းပန်ပါ၏လို့ ကမ္မဋ္ဌာန်းကို တောင်းရတယ်။

ဤကဲ့သို့ သုံးကြိမ်တောင်းပန်ရတာကိုတော့ သူတော်ကောင်း၊ သူမြတ်အပေါင်းတို့၏ ထုံးဟောင်း ဓမ္မတာ အလေ့အကျင့်ပါပဲ၊ မိမိပြုလုပ်တဲ့ လုပ်ငန်းကို ရိုသေလေးစားရာလဲ ကျတယ်။ ဒါကြောင့် မြတ်စွာဘုရားလဲ သတ္တဝါတွေကို သနားလို့ တရားဟောပြီး နိဗ္ဗာန် ပို့ချင်လွန်းလို့ အချိန်ကြာရှည်ရှည့် ပါရမီတွေ ဖြည့်ကျင့်ခဲ့ပေမယ့် နောက်ဆုံးဘဝ ဘုရားဖြစ်တဲ့ ကာလရောက်တော့ အလိုအလျောက် တရားမဟောသေးဘဲ သဟမ္ပတိ ဗြဟ္မာကြီး တောင်းပန်ခံပြီးမှ ဟောတယ်။

ကမ္မဋ္ဌာန်း ယူပြီးနောက် နံပါတ် (၅)ကိစ္စ မေတ္တာပို့ အမျှဝေရမယ်၊ အရှင်ဘုရား တပည့်တော်သည် သံသရာတည်းဟူသော ဝဲဩဃရေအလျဉ်မှ ထွက်မြောက်၍ အရဟတ္တဖိုလ်

နိဗ္ဗာန်ကို မျက်မှောက်ပြုပါရခြင်းအကျိုးငှာ သိက္ခာသုံးရပ် အကျင့်မြတ် ဖြစ်သော ကမ္မဋ္ဌာန်းကို စီးဖြန်းပါ၏။ စီးဖြန်းရသော ကုသိုလ်အဖို့ကို မွေးသမိခင်၊ မွေးသဖခင် ကျေးဇူးရှင်တို့နှင့် ဆရာသမား ဘိုးဘွားတို့အား အမျှပေးဝေပါ၏။

ကိုယ်စောင့်နတ်၊ အိမ်စောင့်နတ်၊ မြို့စောင့်နတ်၊ ရွာစောင့်နတ်၊ သာသနာစောင့် စသော နတ်မြတ်နတ်ကောင်း နတ်အပေါင်းတို့အားလည်း အမျှပေးဝေပါ၏။ ထိုမှတစ်ပါး သိကြားဒေဝါ နတ်ဗြဟ္မာများနှင့် အထက်ဘဝဂ် အောက်အဝီစိ ရှိရှိသမျှ ဖီလာထုတ်ချင်း အကြွင်းမရှိ သုခိတဒုက္ခိတ သတ္တဝါအပေါင်းတို့အား အမျှပေးဝေ ပါကုန်၏၊ အမျှပေးဝေပါကုန်၏၊ အမျှပေးဝေပါကုန်၏။

အမျှရ၍ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာကြပါစေ။ ဘေးရန်ခပ်သိမ်း ကင်းငြိမ်းကြပါစေ။ လိုရာဆန္ဒ ပြည့်ဝကြပါစေဟု မေတ္တာပို့ အမျှပေးဝေရမယ်။ မေတ္တာပို့တယ်ဆိုတာ မိမိကိုယ်ကို သက်သေအရာ၌ထား၍ ငါသည် ချမ်းသာခြင်းကို အလိုရှိသလို၊ ဆင်းရဲခြင်းကို အလို မရှိသလို တခြားသော ပုဂ္ဂိုလ်တွေလဲ ချမ်းသာခြင်းကို အလိုရှိ၍ ဆင်းရဲခြင်းကို အလိုမရှိကြောင်းနှင့် မိမိစိတ်ထဲမှာ ကောင်း ကောင်း စွဲမြဲထင်လာဖို့ လိုတယ်။ ဒါမှ မေတ္တာဟာ စူးရှတယ်။ ထို့အပြင် မိကိုယ်တိုင်က သူများကို မေတ္တာပို့မှ သူများပို့တဲ့ မေတ္တာကိုလဲ ခံယူနိုင်စွမ်းရှိတယ်။

နောက်ဆုံး နံပါတ် (၅) ကိစ္စဖြစ်တဲ့ မေတ္တာပို့ အမျှဝေကတော့ တရားအားထုတ်ပြီးမှ လုပ်ရင်လဲ ရပါတယ်။ တရားအားမထုတ်ခင် လုပ်ရင်လဲ ရပါတယ်။ တရားအားထုတ်ပြီးမှ လုပ်ရမယ့် ကိစ္စကတော့ သစ္စာဓိဋ္ဌာန် ပြုရန်ပါပဲ၊ တပည့်တော်သည် မြတ်စွာဘုရား ဟောကြားတဲ့တရားကို မည်ရွေ့မည်မျှ ကြာအောင် သက်ဝင်ယုံကြည် စွာဖြင့် အားထုတ်ခဲ့ပါသည်။ ဟောကြားသည့် တရားသည်လည်း နိဗ္ဗာန်ရောက်ကြောင်း အကျင့်ကောင်း မှန်ပါသည်။ ဤသို့ မှန်ကန်သောသစ္စာစကားကြောင့် မိမိအလိုရှိအပ်သော ဆန္ဒသည် ပြည့်ဝပါစေသတည်းဟုလဲ သစ္စာအဓိဋ္ဌာန် ပြုကြရမယ်။ တရား အားထုတ်ပြီးမှ ပြုတဲ့သစ္စာဟာ အလွန်စွမ်းတယ်။

ကဲ, ကဲ- တရားအားထုတ်ကြရအောင်၊ ယောဂီယောကျ်ားများကလဲ တင်ပျဉ်ခွေထိုင်ကြ၊ ယောဂီမိန်းမများကလဲ မိန်းမထိုင်ထိုင်ကြ၊ ပေါင်ပေါ်မှာ လက်တင်ပြီး မျက်စိကို မှိတ်ထားကြ။

မိမိခန္ဓာကိုယ်တွင် ဆံပင်အစ ခြေဖျားအထိ ရှိရှိသမျှ (၃၂) ကောဋ္ဌာသ အစုအဝေးကြီးအား ပုဂ္ဂိုလ်၊ သတ္တဝါ၊ ယောကျ်ား၊ မိန်းမရယ်လို့သာ သမ္မုတိနယ်မှာ ခေါ်နေကြတယ်။ အမှန်စင်စစ်၊ ပရမတ္ထသစ္စာနဲ့ ကြည့်ရင် ရုပ်နဲ့ နာမ်သာရှိတယ်။ ထိုနှစ်ပါးတို့တွင် ရုပ်မှာ အမျိုးအစား (၂၀)ပါး ရှိသော်လည်း အမာခံရုပ်ကြီးမှာ ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယောဟူသော လေးပါးသာ ရှိတယ်။

ထိုလေးပါးတို့တွင် ပထဝီဆိုတဲ့ မြေဓာတ်က မာကျောတဲ့ သဘောနူးညံ့တဲ့ သဘောရှိတယ်။ အာပေါဆိုတဲ့ ရေဓာတ်က ဖွဲ့စည်းတဲ့သဘော၊ ယိုစီးတဲ့ သဘောရှိတယ်။ တေဇောဆိုတဲ့ မီးဓာတ်က ပူတဲ့သဘော အေးတဲ့သဘော ရှိတယ်။ ဝါယောဆိုတဲ့ လေဓာတ်က လှုပ်ရှားတဲ့သဘော ထောက်ကန်တဲ့သဘော ရှိတယ်။ အဲဒီ ရုပ်တရားတွေက လွဲရင် တစ်ကိုယ်လုံးမှာ ဘာမှ မရှိဘူး။ ဒီရုပ်တရားတွေကလဲ လောကမှာ ဘာမှ သိတဲ့တရား တွေ မဟုတ်ဘူး။

ဥပမာ တောင်ပို့တစ်ခုရှိတယ်။ တောင်ပို့ပေါ်မှာ ပန်တော် ဖြူမြက်တွေ ပေါက်နေတယ်။ တောင်ပို့ကလဲ ငါ့အပေါ် ပန်တော် ဖြူမြက်တွေ ပေါက်နေတယ်ဆိုတာ မသိဘူး။ ပန်တော်ဖြူမြက် တွေကလဲ ငါဟာ တောင်ပို့ပေါ်မှာ ပေါက်နေရတယ်လို့ မသိဘူး။ ဘာကြောင့် မသိသလဲဆိုရင် သိတတ်တဲ့ နာမ်တရားမရှိလို့ မသိ ဘူး။ ဒီဥပမာလို ဦးခေါင်းကလဲ ဓာတ်လေးပါးရုပ်ပဲ၊ ဆံပင်တွေ ကလဲ ဓာတ်လေးပါးရုပ်ပဲ၊ အချင်းချင်း ဘယ်သိမလဲ၊ ရုပ်တရား ချည်းပဲ ဟာကိုး။

မြင်လို့သိတယ်၊ ကြားလို့သိတယ်၊ နံလို့သိတယ်၊ စားလို့ သိတယ်၊ တွေ့လို့ သိတယ်၊ ကြံလို့သိတယ်ဆိုတာက နာမ်ပဲ၊ ဒီတော့ ယောဂီတို့ တစ်သက်လုံး မှတ်ထားကြ၊ ရုပ်သည် ဘာကိုမှ မသိ၊ နာမ်သာလျှင် သိတယ်၊ ဒီရုပ်တရား နာမ်တရားတွေဟာ

ဘယ်က ဂြိစ်လာသလဲ၊ ဘယ်သူဖန်ဆင်းသလဲ၊ အဘယ်ကြောင့် ဖြစ်နေသလဲ၊ စဉ်းစားကြပါ၊ မိုးပေါ်က ကျလာသလား၊ မဟုတ်ပါဘူး။ သိကြားဒေဝါ၊ ဗြဟ္မာ၊ ဗိဿနိုး၊ တန်ခိုးကြီးတဲ့ ပုဂ္ဂိုလ်တွေ ဖန်ဆင်းလို့လား မဟုတ်ပါဘူး။ ကံ၊ စိတ်၊ ဥတု၊ အာဟာရ အကြောင်းတရား လေးပါးကြောင့် ဖြစ်လာတာပါ။

ဤရုပ်တရား၊ နာမ်တရားတွေကို မြတ်စွာဘုရားက မမြဲတဲ့ အနိစ္စတရားတွေ၊ ဆင်းရဲတဲ့ ဒုက္ခတရားတွေ၊ အစိုးမရတဲ့ အနတ္တ တရားတွေလို့ ဟောထားတယ်၊ ဘုရားဟောတာ ဘယ်ဟာမှ မမှားဘူး၊ ဘယ်တော့မှ မမှားဘူး၊ မလွဲဘူး၊ မှန်တယ်၊ မှန်တာကို ဉာဏ်ကသိတယ်၊ ထိုဉာဏ်က ဘယ်ကရမလဲ၊ သမာဓိရှိရမယ်၊ ဒါကြောင့် ဦးခေါင်းက အစခြေဖျားအထိ ရုပ်သာ ရှိတယ်ဆိုတာ အာရုံပြုကြ။

အာရုံပြုပြီးတော့ ဦးခေါင်းငယ်ထိပ်နေရာမှာ ဒင်္ဂါပြားမျှ ကွက်၍ သမာဓိကို ခိုင်မြဲစွာထားလျက် ရှုမှတ်ပါ။ ရှုမှတ်တော့ ဘာတွေ တွေ့မလဲ . . .

"ကာယဉ္စ ပဋိစ္စ၊ ရူပေ စ ဥပ္ပဇ္ဇတိ ကာယဝိညာဏံ" ဆိုသည့်အတိုင်း ပထဝီ ဖောဋ္ဌဗ္ဗနှင့် ကာယပသာဒ တွေ့ရင် နာကျင်ကိုက် ခဲမှု ဖြစ်လာမည်။

ထိုနည်းတူ တေဇောဖောဋ္ဌဗ္ဗနှင့် ကာယပသာဒတွေ့လျှင် ပူပူအေးအေး၊ နွေးနွေးရှိမ်းရှိမ်း ဖြစ်လာမည်။ ဝါယော ဖောဋ္ဌဗ္ဗနှင့်

ကာယပသာဒတွေ့လျှင် လှုပ်လှုပ်ရွရွ ဒိတ်ဒိတ်ရိပ်ရိပ် ဖြစ်လာမည်။ ဘာကိုပဲတွေ့တွေ့ ရုပ်တွေပဲဆိုတာ မှတ်ထားပါ။

အာရုံပြုပြီးရှုမှတ်ဖန်များလာလျှင် တစ်ကိုယ်လုံး ရုပ်ဓာတ်တွေ ခဏမစဲ တဖွဲဖွဲနှင့် အမြဲဖြစ်ပျက်၍ ဖောက်ပြန်နေတာ တွေ့လိမ့်မည်။ သမာဓိကောင်းရင် ကောင်းသလို များများတွေ့တတ်တယ်။ ယောဂီပုဂ္ဂိုလ်မှာ ငါ့ဘယ်လိုဖြစ်လာသလဲဟု အထင်လွဲ အထင်မှားတောင် ဖြစ်တတ်တယ်။ သူ့သဘော သူဆောင်နေသော ရုပ်သဘောတွေပဲဟု စွဲမြဲစွာ အားထုတ်ပါ။ မကြာမီ အမြင်မှန်၍ ပထမတွင် ဆင်ခြင်ဉာဏ်ဖြစ်သော သမ္မသနဉာဏ်။ ထို့နောက် ရုပ်မှန်းသိ၍ ဖြစ်ပျက်ကို သဘောပေါက်သည့် ဥဒယဗ္ဗယဉာဏ် ဖြစ်လာပြီး မမြဲတဲ့အနိစ္စ၊ ဆင်းရဲတဲ့ဒုက္ခ၊ အစိုးမရတဲ့ အနတ္တခေါ်တဲ့ လက္ခဏာရေးသုံးပါး ထင်လာတော့တာပဲဟု မှတ်ကြ။

အဲဒါကြောင့် ပထမနားလည်ဖို့ အချက်က ရုပ်နှင့်နာမ် အမှန်သိဖို့ လိုတာပဲ၊ ရုပ်နှင့်နာမ်ကွဲသွားဖို့ လိုတာပဲ၊ မြတ်စွာဘုရားကလဲ ရုပ်နှင့်နာမ် ကွဲအောင် ဒီလို သဘောထားပါတယ်။

အနိစ္စာနဂတာ ဘဂ္ဂါ၊ ပုဉ္ဇော နတ္ထိ အနာဂတေ။

နိဗ္ဗတ္တာ ယေပိ တိဋ္ဌန္တိ၊ အာရဂ္ဂေ သာသပူပမာ။

ဘဂ္ဂါ၊ ဖြစ်ပေါ်လာပြီး ချုပ်ပျက်စီးကြသော ရုပ်နာမ်တရားနစ်ပါးတို့သည်။ အနိစ္စာနဂတာ၊ ငြိမ်းလေပြီးသည့် ဆီမီးပမာ

သို့မှီးရာမရှိသောအဖြစ်သို့ ရောက်ကြရလေကုန်၏။ အနာဂတေ၊ မဖြစ်သေးမီ အနာဂတ်ကာလဆီ၌။ ပုဗ္ဗေ၊ လာ၍ဖြစ်ရန် အသစ် တစ်ဖန် စီမံထားမှု ရုပ်နာမ်စုသည်။ နတ္ထိ၊ မရှိနှင့်ချေ။ ယေပိ၊ အသစ်တစ်ဖန် ဖြစ်ပြန်သော ရုပ်နာမ်တို့သည်လည်း။ နိဗ္ဗတ္တာ၊ ဥပါဒ်၊ ဌီ၊ ဘင် အစဉ်ခဏ ဖြစ်ပြန်ကြ၍၊ တိဋ္ဌန္တိ၊ တည်ကြရ ကုန်၏။ တေပိ၊ ထိုပစ္စုပ္ပန် ရုပ်နာမ်တို့သည်လည်း။ အာရဂ္ဂေ၊ သေးငယ်အပ်သွား ပွတ်ဆောက်ဖျား၌။ သာသပူပမာ၊ အလျှင် အလျား တင်ထားအပ်သော မုန်ညင်းစေ့ပမာ ဖြစ်ကြပါကုန်၏တဲ့။

အဲဒီလို ဘုရားဟော မဟာနိဒ္ဒေသလာ ဒေသနာတော် အရ နားလည်ကြဖို့ အားထုတ်တက်ကြဖို့ သင်ကြားတဲ့ စကားတော်ပါပဲ။ ဖြစ်ပေါ်လာပြီးနောက် လျှင်မြန်စွာ ချုပ်ပျောက်ကြကုန်သော နာမ်ရုပ်တရား နှစ်ပါးတို့သည် ဖြစ်ဖြစ်ပြီး မြန်မြန်ကြီး ပျောက်ပျောက်သွားတယ်၊ ဒီတော့ ဖြစ်တယ်ဆိုတာ ဘယ်လို ဖြစ်သလဲ၊ ပျောက်တယ်ဆိုတာ ဘယ်လို ပျောက်သလဲလို့ မေးစရာရှိတယ်၊ ကျမ်းဂန်အရ ပြောကြတာကတော့ မျက်စိနဲ့ အဆင်းနဲ့တွေ့တော မြင်သိလုံးလေး ပေါ်လာတယ်။ ပေါ်လာပြီး မြင်သိအသစ်ပြောင်း၊ အဟောင်းပျက်တာဟာ ရုပ်နာမ်ဖြစ်ပျက်ပဲလို့ ပြောရမှာပဲ။ ပြောလို့တော့ လွယ်တယ်။ စာကလဲ ဒီလိုဆိုတာပဲ၊ ထိုနည်းအတူ နားနဲ့အသံနဲ့ တွေ့တော့ ကြားသိလုံးလေး ပေါ်လာတယ်။ ပေါ် လာပြီး ကြားသိ

အသစ်ပြောင်း အဟောင်းပျက် စသည်ဖြင့် ရုပ်နာမ်အဖြစ်ပျက်ကို အပြောလွယ်ပြီး ဝိပဿနာနည်းကျတော့ ခက်ခက်နေကြတယ်။

ဒါကြောင့် ကျေးဇူးရှင် လယ်တီဆရာတော်ကြီးက ဝိပဿနာတရားဆိုတာ အပြောလွယ်ပြီး အလုပ်ခက်တယ်။ ဥပမာ အားဖြင့်ဆိုလျှင် ရေကြည်ငါးကို ဖမ်းတဲ့သူများနဲ့ တူတယ်။ အလွန်တရာကြည်လို့ သေးသေးမွှားမွှား ကျောက်ခဲ သလဲများတောင် မြင်နိုင်တဲ့ ရေကြည်မှာ ငါးတွေမြင်တော့ အလွယ်တကူနဲ့ ရယူနိုင်မယ် ဆိုပြီး ဆင်းဖမ်းတဲ့အခါ ငါးတွေကိုတော့ ထင်ထင်ရှားရှား အမြင်သားပဲ၊ ဒါပေမယ့် လက်ထဲရောက်အောင် ဖမ်းတဲ့အခါကျတော့ မလွယ်ဘူး၊ လွတ်လွတ်သွားတယ်၊ ဒီလိုပဲ ရှုပုံရှုနည်း နိဿရည်း ကြားနာရတော့ လွယ်ကူမယ် ထင်တယ်၊ တကယ် ရုပ်နာမ်တွေ မြင်ဖို့ကတော့ မလွယ်ဘူး။

တွေ့မြင်ကြရအောင် တထာဘူတကျမ်းဂန်နှင့် အလျော်ပြမယ်ဆိုသော် 'ကာယဉ္စ ပဋိစ္စ ဖောဋ္ဌဗ္ဗေ စ ဥပ္ပဇ္ဇတိ ကာယ-ဝိညာဏံ' ဆိုသည့်အတိုင်း မိမိတို့ အဇ္ဈတ္တသန္တာန်မှာ အမှန်တွေ့ကောင်းတဲ့ ကာယပသာဒရုပ်၊ ဖောဋ္ဌဗ္ဗရုပ်၊ စက္ခုဝိညာဉ်၊ ဖြစ်ပေါ်လာပြီးနောက် လျင်မြန်စွာ ချုပ်ပျောက် ချုပ်ပျောက်သွားကြသော ရုပ်နာမ်နှစ်ပါးတို့ဟာ 'ဘင်္ဂ'၊ ဖြစ်ပေါ်လာပြီး ချုပ်ပျောက် ပျက်စီးသော ရုပ်နာမ်နှစ်ပါး တရားတို့သည်လို့'

ဆိုသည့်အတိုင်း ဝီရိယ၊ သတိ၊ သမာဓိ၊ ပညာတို့နှင့် ပြည့်စုံနေဖို့လျှင် ယောဂီတွေဟာ သူများအပြော မဟုတ်ပါဘူး၊ ချုပ်ပျောက်တာ ကိုယ်တိုင်တွေ့နိုင်ကြပါတယ်၊ ကိုယ်တိုင် သိနိုင်ကြပါတယ်။

သမ္မာပဋိပန္နော နိဗ္ဗာနံ သစ္ဆိကရောတိ -ဟူသော ဒေသနာတော်နှင့်အညီ ကျင့်ပါလျှင် နိဗ္ဗာန်ကိုပင် ရောက်၍ မျက်မှောက်ပြုနိုင်ကြပါတယ်၊ နာကျင်ကိုက်ခဲတဲ့ ဖောဋ္ဌဗ္ဗရုပ်မှာလဲ ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယော၊ ဝဏ္ဏ၊ ဂန္ဓ၊ ရသ၊ ဩဇာဟူ၍ ခွဲ၍မရကောင်းတဲ့ အဋ္ဌကလာပ်ရုပ် ရှစ်ခုရှိပါတယ်။ ဒီရုပ်တွေကား မျက်တောင်တစ်ခတ် လျှပ်တပြက်မှာ ကုဋေပေါင်း ငါးထောင်ကျော် ဖြစ်တယ်၊ ပျက်တယ်။ ကာယပသာဒရုပ်ကလဲ သူနဲ့သဟဇာတဖြစ်တဲ့ ရုပ်တွေနဲ့ တွဲပြီး ထိုနည်းအတူပဲ ကုဋေပေါင်း ငါးထောင်ကျော် ဖြစ်တယ်၊ ပျက်တယ်၊ စက္ခုဝိညာဉ်စိတ်နဲ့ သူ၏ယှဉ်ဖော်ယှဉ်ဖက် တရားတွေကတော့ ကုဋေပေါင်း တစ်သိန်းကျော် ဖြစ်တယ်၊ ပျက်တယ်။ ဘယ်လောက် လျင်မြန်သလဲ ဆိုတာ စဉ်းစားကြည့်ကြ။

ဤတရားတွေဟာ ကံ၊ စိတ်၊ ဥတု၊ အာဟာရတည်းဟူသော အကြောင်းကြောင့် ဖြစ်ပေါ်နေရတဲ့ ရုပ်နာမ်တရားတွေပဲ၊ ပထဝီလွန်ကဲတဲ့ အရာဝတ္ထုကို ပထဝီလို့ ခေါ်တာပဲ၊ ဟေဇောလွန်ကဲတဲ့အခါ တေဇောလို့ ခေါ်တာပဲ၊ ဝါယောလွန်ကဲ

တဲ့အခါ ဝါယောလို့ ခေါ်တာပဲ၊ နာမ်တရားတွေထဲမှာ လောဘ လွန်ကဲတရားကို လောဘ၊ ဒေါသလွန်ကဲတဲ့ တရားကို ဒေါသ၊ မောဟလွန်ကဲတဲ့တရားကို မောဟလို့ ခေါ်တာပဲ၊ အမှန်ကတော့ သဟဇာတသမ္ပယုတ္တအဖြစ်နဲ့ တခြားတရားတွေလဲ ပါတာပါပဲ။ ဥပမာ - ဟင်းချက်တဲ့အခါ ရေလဲ ပါတယ်၊ ဆီလဲပါတယ်၊ ဆားလဲပါတယ်၊ ကြက်သွန်လဲ ပါတယ်၊ ငရုတ်သီးလဲ ပါတယ်။ အချိုလဲပါတယ်။ အချဉ်လဲပါတယ်၊ အဆိမ့်လဲ ပါတယ်။ ဒါပေမဲ့ မြည်းကြည့်တဲ့အခါ အချိုလွန်ကဲလျှင် ချိုတယ်၊ အချဉ်လွန် ကဲလျှင် ချဉ်တယ်၊ အငန်လွန်ကဲလျှင် ငန်တယ်လို့ ဆိုသလိုပါပဲ။

အဲဒီလိုပေါ့၊ တစ်ခုခု ဓာတ်သဘာဝလွန်ကဲတာ တွေ့တော့ လွန်ကဲတဲ့ဓာတ်အားလျော်စွာ ခေါ်ကြတာပဲ၊ တစ်ချို့က နာတာ၊ ကျင်တာ တွေ့တယ်၊ တစ်ချို့က ပူတာ၊ အေးတာ တွေ့တယ်။ တစ်ချို့က လှုပ်တာ၊ ရွတာ တွေ့တယ်။ ဘယ်လိုတွေ့တွေ့ ဒီဟာ တွေဟာ ရုပ်တရားတွေပဲလို့ သေသေချာချာ တွေ့ရင် တရားကို တွေ့တော့တာပဲ၊ ငယ်ငယ်တုန်းကလဲ ဒီတရားတွေ တွေ့တာပဲ၊ အောင်မလေး၊ ငါ့ခြေနာလိုက်တာ၊ ငါ့ခြေကျင်လိုက်တာ၊ ငါ့လက်တွေ နာလိုက် ကျင်လိုက်တာ၊ နှိပ်ပေးကြစမ်းပါလို့ မပြောကြဘူးလား ပြောကြပါတယ်။

နာကာ, ကျင်တာတော့ သိတာပဲ၊ သို့သော် အဝိဇ္ဇာ ဖုံးနေတော့ ဘယ်လို သိတာလဲ၊ ငါနာတာ၊ ငါကျင်တာကိုပဲ

သိတယ်။ ဒီလိုသိတာဟာ အတ္တဒိဋ္ဌိ၊ သက္ကာယဒိဋ္ဌိနဲ့ ယှဉ်တွဲပြီး နာတဲ့ရုပ်ဓာတ်၊ ကျင်တဲ့ရုပ် ဓာတ်ကို ငါမှတ်နေတယ်။ ပထဝီရုပ်ဓာတ်မှန် မသိဘူး၊ အဲဒီတော့ အပါယ်ဘုံသားနဲ့ ဘာထူးသေးသလဲ၊ နာတာ ကျင်တာဟာ ခွေးလဲ သိတာပဲ၊ နွားလဲ သိတာပဲ၊ ခွေးကို ရိုက်ကြည့်စမ်းပါ၊ နာရှာလွန်းလို့ 'ဂိန် ဂိန်' နဲ့ အော်တယ်။ နောက်တစ်ခါ ရိုက်မယ်လို့ လုပ်ရင် ရိုက်တောင် မရိုက်သေးဘူး၊ ထတောင် ပြေးတယ်။ ဒါကြောင့် အပါယ်ဘုံသား တိရစ္ဆာန်များလဲ သိတယ်ဆိုတာ ထင်ရှားပါတယ်။ ဒါပေမဲ့ ရုပ်ဓာတ်တွေ ဖြစ်ပျက်နေတာပဲလို့တော့ မသိဘူး။

ဘုရားပွင့်တဲ့ သာသနာတော်ခေတ်အတွင်း အမှန်ကို အမှန်အကိုင်း သိနိုင်တဲ့အခွင့်ကောင်းကြီး ကြုံကြိုက်ပါလျက် မသိလိုက်ဘူး ဆိုလျှင် 'အမိုက်နင့်ပြင် ရှိဦးမှာတဲ့လား'ဆိုတဲ့ စကားလို ဖြစ်နေတယ်။ နာတာ ကျင်တာဟာ လွယ်လွယ်နာကျင်တာ မဟုတ်ဘဲ ပထဝီဓာတ်ပြင်းဓာတ်လို့ နာတာပေါ့၊ အခုအပြင်မှာရှိတဲ့ လက်နဲ့ မှာကြောတဲ့ လက်နက်နဲ့ ရိုက်ကြည့်စမ်းပါလား၊ ကြပ်ကြပ်မာလေ ကြပ်ကြပ်နာလေပဲ။ ဒါဟာ ပထဝီဓာတ်၏ ခိုင်မာတဲ့သဘော ဖြစ်တယ်။

အဲဒီလို နာတာသိရင် တို့ယောဂီတွေက ဉာဏ်နဲ့ ရှင်းလိုက်၊ ဒီနာတာတွေဟာ အလကားသက်သက် မဟုတ်ဘူး။ ပထဝီနဲ့ တွေ့လို့ ဖြစ်တာပဲ။ ဩော်- ပထဝီဓာတ်ရုပ်နဲ့ ကာယပသာဒနဲ့ ထိခိုက်ခြင်းကြောင့် နာမှု, ကျင်မှု ဖြစ်ပေါ်လာ

တာပါလား၊ နာမှန်း ကျင်မှန်း သိတာကတော့ ဒုက္ခသဟဂုတ် ကာယဝိညာဉ်ဆိုတဲ့ စိတ်ကလေးပဲ၊ သူဟာ အကြောင်းတိုက် ဆိုင်လို့ ဖြစ်တာပါပဲ။ ဘယ်ကမှ လာတာလဲ မဟုတ်ဘူး၊ မိုးပေါ်က သိကြား၊ ဗြဟ္မာ၊ နတ်ဒေဝါတို့ ဖန်ဆင်းတာလဲ မဟုတ်ဘူးဟု အမှန်ယထာဘူတဉာဏ် ပေါ်လာတော့တာပဲ။ အဲဒါကို သိအောင် ပြနေတယ်။

ပထဝီဓာတ်ရုပ်ကလေးကို တွေ့ပါလျက် ရုပ်မှန်းမသိကြ၊ ပထဝီဓာတ်နဲ့ ကာယပသာဒရုပ် တွေ့ထိလို့ နာကျင်သိတဲ့ ကာယ ဝိညာဉ်စိတ်ကလေး ပေါ်လာတာကို တွေ့လျက် နာမ်မှန်း မသိကြဘူး၊ မသိတော့ ငါထင်တယ်။ ငါထင်တော့ အပါယ်ဘုံ သံသရာဘေးက မလွတ်သေးဘူးပေါ့။

အဲဒီလို့ ပထဝီဓာတ် ရုပ်မှန်း တကယ်တွေ့လို့ ဖြစ်ပျက် ဖြစ်ပျက်ကို သိသွားရင် နိဗ္ဗာန်နဲ့ နီးပြီးမှတ်၊ ဒါကြောင့် သံယုတ် ပါဠိတော်မှာ မြတ်စွာဘုရားက 'ပထဝီဓာတုံ ခေါ ရာဟုလ အနိစ္စတော ဇာနတော ပဿတော သက္ကာယဒိဋ္ဌိ ပဇဟတိ၊ အဝိဇ္ဇာ ပဟီယတိ၊ ဝိဇ္ဇာ ဥပ္ပဇ္ဇတိ' လို့ ဟောထားတယ်။

ရာဟုလ၊ ချစ်သားရာဟုလာ။ ခေါ၊ စင်စစ်။ ပထဝီဓာတုံ၊ ပထဝီဓာတ်ကို။ ဝါ၊ နာတာ ကျင်တာကို။ အနိစ္စတော၊ မမြဲဘူး ဟူ၍။ ဇာနတော၊ ရုပ်ဟူ၍ သိသောသူအား။ ပဿတော၊ ရုပ်ဟူ၍ မြင်သောသူအား။ သက္ကာယဒိဋ္ဌိ၊ သက္ကာယဒိဋ္ဌိကို။

ပဇဟာတိ၊ စွန့်၏။ အဝိဇ္ဇာ၊ အဝိဇ္ဇာကို။ ပဟီယတိ၊ ပယ်အပ်၏။ ဝိဇ္ဇာ၊ ဝိဇ္ဇာဉာဏ်သည်။ ဥပ္ပဇ္ဇတိ၊ ဖြစ်ပေါ်လာ၏တဲ့။

ဘယ်လောက်ဟုတ်သလဲ ပထဝီဓာတ်ကလေး တွေ့တာနဲ့ တစ်ချက်တည်း သက္ကာယဒိဋ္ဌိနဲ့ အဝိဇ္ဇာနှစ်ရပ်ကို ပယ်သတ်ပြီး ဝိဇ္ဇာဉာဏ်ဓာတ် ဖြစ်ပေါ်လာသတဲ့။ ဖြစ်ပေါ်မှာပေ့ါ။ ပထဝီဓာတ်က ရုပ်၊ ကာယပသာဒက ရုပ်၊ ကာယဝိညာဉ်က နာမ်လို့ ရုပ်နာမ်ကွဲသွားတာပဲ၊ ဒါကို နာမရူပပရိစ္ဆေဒဉာဏ်လို့ ခေါ်တယ်။ ဒီဉာဏ် ရရင် သမ္မာဒိဋ္ဌိပုဂ္ဂိုလ်အစစ် ဖြစ်တော့တာပါ။

ထိုရုပ်နာမ် ဖြစ်ပျက်တွေ့တော ဘာဖြစ်သလဲ၊ ခန္ဓာ, အာယတန, ဓာတ်တွေ့တော့တာပဲ ဘယ်လို တွေ့သလဲ ဆိုတော့ ပထဝီဓာတ်ကရုပ်၊ ကာယပသာဒက နာမ်ဆိုတော့ ခန္ဓာအားဖြင့် ရူပက္ခန္ဓာအစစ်ပဲ။ ဘယ်သူက ရူပက္ခန္ဓာ တွေ့ပါ ဘူးလို့ ပြောနိုင်သေးသလဲ။ ရုပ် ၂၈-ပါးတွင်း အပါအဝင် ဖြစ်နေတာပဲ၊ ကာယဝိညာဉ်နာမ်တရားကို တွေ့လိုက်တော့ ဝိညာဏက္ခန္ဓာတွေ့တာပဲ။ အဲဒီ ဝိညာဏက္ခန္ဓာက တစ်းပါးတည်း ဖြစ်တာ မဟုတ်ဘူး။ သူနှင့် ယှဉ်ဖော်ယှဉ်ဖက် အပေါင်းအသင်းနဲ့ ဖြစ်တာ၊ မကွဲပြားရဘူး။

အဘယ်ကြောင့်ဆိုသော် အာရုံဝတ္ထုတစ်ခုခုကို တွေ့ပြီဆိုလျှင် သင်္ခါရက စုံပေးတယ်။ ဝိညာဉ်က သိအောင် လုပ်တယ်။ သညာက မှတ်သားထားတယ်။ ဝေဒနာက ခံစားတယ်၊ ဒါကြောင့် ဤလေးခု စုမိမှ ကိစ္စပြီးသည့်အတွက် ကာယဝိညာဉ်စိတ်ကလေး ဖြစ်လာရင် ဖဿစသော သင်္ခါရက္ခန္ဓာထိုက်သော တရားတွေ

ကလဲ ပါရတယ်။ မှတ်သားတဲ့ သညာက္ခန္ဓာထိုက်တဲ့ သညာလဲ ပါရတယ်။ ခံစားရတဲ့ ဝေဒနာက္ခန္ဓာထိုက်တဲ့ ဝေဒနာကလဲ ပါရတယ်။ ဒီတော့ နာမ်ခန္ဓာလေးပါး ပါသွားတာပဲ။

ပါသွားတော့ ဆိုခဲ့တဲ့ ရူပက္ခန္ဓာနှင့် ပေါင်းလိုက်တဲ့အခါ ခန္ဓာငါးပါးလုံး ဖြစ်မသွားဘူးလား၊ အဲဒါ ခန္ဓာတွေ့တာပေါ့။ ခန္ဓာငါးပါးဖြစ်၊ ခန္ဓာငါးပါးပျက် သိတယ်လို့ ဆိုရမယ်။ အာယတနလဲ ပထဝီဓာတ်က ဖောဋ္ဌဗ္ဗာယတန၊ ကာယပသာဒက ကာယာယတန၊ ကာယဝိညာဉ်က မနာယတန ထိုက်တယ်ဆိုတော့ အာယတနလဲပါသွားတာပဲ။ ဓာတ်အားဖြင့်ဆိုလျှင် ပထဝီဓာတ်က ဖောဋ္ဌဗ္ဗဓာတ်၊ ကာယပသာဒက ကာယဓာတ်၊ ကာယဝိညာဉ်က ကာယဝိညာဏဓာတ်ဆိုတော့ ဓာတ်လဲ ပါသွားတာပဲ။ ဒါကြောင့် ဘုရားက ခန္ဓာ၊ အာယတန၊ ဓာတ်မသိရင် အပါယ်နဲ့ နီးတယ်လို့ ဟောထားတာဖြစ်တယ်။

အဝိဇ္ဇာ၊ တဏှာ၊ ဒိဋ္ဌိ ပါနေသေးလျှင် ဒါနကို ဤလူ့ပြည်က ဗြဟ္မာ့ပြည်ထိအောင် ရွှေတွေ၊ ငွေတွေ ပုံလှူ ပုံလှူ သီလကို ဝါဂွမ်းကဲ့သို့ ဖြူစင်အောင် စောင့်စောင့်၊ သမထကို ဈာန် အဘိညာဉ် ရ၍ မြေလျှိုး မိုးပျံနိုင်အောင် အားထုတ်အားထုတ်၊ ကုသိုလ်ကံ ဈာန်အဘိညာဉ် အရှိန်ကုန်လျှင် အပါယ်ဘုံကျမှာပဲ။

ဒါဖြင့်လျှင် ဒါန၊ သီလ၊ သမထကား အလကားပဲလားလို့ မေးရင် အလကားတော့ မဟုတ်ပါဘူး၊ အကျိုးကြီးပါတယ်။ ဒါနက လူ့ပြည်၊ လူမင်း၊ လူမိဖုရား၊ လူသူဌေး၊ လူသူဌေးကတော်

တို့၏ စည်းစိမ်တွေ ခံစားရပါတယ်။ နတ်ပြည်မှာလဲ နတ်မင်း၊ နတ်ဘုရား၊ နတ်သူဌေးနတ်သူဌေးကတောတို့၏ စည်းစိမ်တွေ ခံစားရပါတယ်။ သီလကလဲ လူ့ပြည်၊ နတ်ပြည်မှာ ကြာကြာ စည်းစိမ်တွေ ခံစားရအောင် အကျိုးပေးပါတယ်။ သမထကလဲ ဗြဟ္မာ့ပြည်မှာ ဗြဟ္မာစည်းစိမ်တွေ၊ လူ့ပြည် နတ်ပြည်မှာ မြေလျှို မိုးပျံတဲ့ . ဈာန်အဘိညာဉ် တန်ခိုးဣဒ္ဓိပါဒ်တွေ ဖြစ်စေနိုင်တဲ့ အကျိုးတွေ ပေးပါတယ်။ ဒါပေမယ့် အပါယ်ကျအောင် လည်ရမယ့် ကိစ္စက မပြီးဘူး။

ဒါကြောင့်မို့လို ဒိခန္ဓာ၊ အာယတန၊ ဓာတ်၊ ပဋိစ္စသမုပ္ပါဒ်ကို သိအောင် လုပ်ကြလို့ ဟောရတာ။ ခန္ဓာ၊ အာယတန၊ ဓာတ် တွေထဲမှာလဲ အကုန်အစုံသိမှ နိဗ္ဗာန်သို့ ရောက်တာ မဟုတ် ပါဘူး။ တစ်စိတ် တစ်ဒေသ သိရင် ရောက်နိုင်ပါတယ်။ မူလ ပဏ္ဏာသ အဋ္ဌကထာမှာ 'သာဝကာ ဟိ စတုန္နံ ဓာတူနံ ဧကဒေသမေဝ သမ္မသိတွာ နိဗ္ဗာနံ ပါပုဏန္တိ'လို့ ဆိုထားပါတယ်။ ဘုရားတပည့်သား သာဝကများဟာ ဓာတ်လေးပါးတို့တွင် တစ်ပါးတစ်ပါးကို ပိုင်းခြားအမှန် ဧကန်သိလျှင် နိဗ္ဗာန်သို့ ရောက် နိုင်ပါသတဲ့။

ပဋိစ္စသမုပ္ပါဒ်ဆိုတာကတော့ ဒိခန္ဓာ အာယတန ဓာတ် တွေ အကြောင်းအကျိုးဆက်ပြီး ဖြစ်ပေါ်နေပုံကို ပြတာပါပဲ။ ယင်ရှားအောင် မြန်မာပြန်၍ ပြပါမယ်။

* * * * *

## ပဋိစ္စသမုပ္ပါဒ် မြန်မာပြန်

၁။ အဟုတ်အမှန် ကောင်မမြင် မထင်မလင်း မသိခြင်း ဟူသော အကြောင်းတရား ထင်ရှားရှိ နေခြင်း ကြောင့် ပစ္စုပ်သံသရာ နှစ်ဖြာအမှု ပြုစုပျိုး ထောင်ခြင်းဟူသော သင်္ခါရအစု ပြုပြင်မှုတို့သည် ဖြစ်ပွားကုန်၏။

၂။ ပစ္စုပ် သံသရာ နှစ်ဖြာအမှု ပြုစုပျိုးထောင်ခြင်း ဟူသော သင်္ခါရတရား ထင်ရှားရှိနေခြင်းကြောင့် ဘဝတစ်ပါး၌ ဝိညာဉ်တစ်ပါး ဖြစ်ပွားလာရ၏။

၃။ ဘဝသစ်၌ ဝိညာဉ်တစ်ဖန် ဖြစ်ပြန်ရခြင်းဟူသော အကြောင်းတရား ထင်ရှား၊ ရရှိလာသောကြောင့် ရုပ်နာမ် နှစ်ပါးတို့သည် ဖြစ်ပွားလာရ၏။

၄။ ရုပ်နာမ်အစု ဖြစ်ပေါ်မှုကြောင့် ဒွါရခြောက်မည် အကြည်ခြောက်ပါးတို့ဖြင့် ဖြစ်ပွားလာရ၏။

၅။ ဒွါရခြောက်မည် အကြည်ခြောက်ပါး ထင်ရှားရှိ နေခြင်းကြောင့် အာရုံ၌ တွေ့မှုအပြား ဖဿ ခြောက်ပါးသည် ဖြစ်ပွားလာရ၏။

၆။ ဖဿခြောက်ပါး ထင်းရှားရှိနေခြင်းကြောင့် အာရုံ ခံစားမှု ဝေဒနာစု ခြောက်ပါးသည် ဖြစ်ပွား လာရ၏။

၇။ ဝေဒနာခြောက်ပါး ထင်ရှားရှိနေခြင်းကြောင့် ဝတ္ထု အာရုံ ကာမဂုဏ်ကို ခုံမင်တွယ်တာ တဏှာခြောက်ပါးတို့သည် ဖြစ်ပွားလာရ၏။

၈။ တဏှာခြောက်ပါး ထင်ရှားရှိနေခြင်းကြောင့် စွဲလမ်းပြင်းထန်သော ဥပါဒါန်လေးပါးသည် ဖြစ်ပွားလာရ၏။

၉။ ဥပါဒါန်လေးပါး ထင်ရှားရှိနေခြင်းကြောင့် ကံဥပပတ် နှစ်ရပ်အပုံ ဘဝအစုံသည် ထင်ရှားဖြစ်ပွားလာရ၏။

၁၀။ ကံဥပပတ် နှစ်ရပ်အပုံ ဘဝအစုံ ထင်ရှားရှိခြင်းကြောင့် ပဋိသန္ဓေတည်နေစွဲမြဲသည့် ဇာတိတရားသည် ဖြစ်ပွားလာရ၏။

၁၁။ ဇာတိတရား ထင်ရှားရှိနေခြင်းကြောင့် အိုခြင်း၊ သေခြင်း၊ စိုးရိမ်ခြင်း၊ ငိုကြွေးခြင်း၊ ဆင်းရဲခြင်း၊ နှလုံးမသာယာခြင်း၊ သက်ကြီးရှိုက်တငင် ပင်ပန်းခြင်းတို့သည် တစ်ခါတည်းပါပြီး ဖြစ်ပွားလာကြကုန်၏။ ဤသို့ ချမ်းသာမဖက် ဆင်းရဲသက်သက်သာ ဖြစ်သော တရားအစုတို့သည် အကြောင်းအကျိုးပြု၍ ဖြစ်ပေါ် လာကြကုန်၏။

ဤသည်ကား အားလုံးသောပုဂ္ဂိုလ်များ နားလည်အောင် ပါဠိမဖက် မြန်မာပြန်သက်သက် ဖော်ပြလိုက်ခြင်း ဖြစ်ပါတယ်။

ဤသို့ ခန္ဓာ၊ အာယတန၊ ဓာတ်၊ ပဋိစ္စသမုပ္ပါဒ် တရားစုများကို သိကျွမ်းလိမ္မာမှ ဗုဒ္ဓဘာသာဝင် ဆိုစလောက်သည်။

ဒါနမှုမျိုး၊ သီလမှုမျိုး၊ သမထ ဘာဝနာမှုမျိုးစုံကား ကမ္ဘာ အစဉ်အဆက်မှ ဖြစ်ပျက်လာခဲ့သော ကမ္ဘာတန်ဆာ တရားစုများ ဖြစ်သည်။ ငါတို့ ဘုရားပွင့်ရာကာလသည် အလွန်ကိုလေသာ သောင်းကျန်းသော အသက်တစ်ရာတမ်းမှာ ပွင့်လာသဖြင့် ထိုကမ္ဘာ့တန်ဆာ တရားစု များပင် တိမ်မြှုပ်သောအခါဖြစ်၍ များစွာထုတ်ဖော်၍ ဟောတော် မူရသည်။

မြတ်စွာဘုရားပွင့်မှ ပေါ်ရှိလာသော တရားစုကား ခန္ဓာ၊ အာယတန၊ ဓာတ်၊ ပဋိစ္စသမုပ္ပါဒ် တရားစုပေတည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင်ဆိုလျှင် ဘုရားပွင့်မှ သိရှိရသော တရားစုကို အထူးသိ ကျွမ်းအောင် အားထုတ်သင့်ပေသည်။

သတ္တဝါတွေဟာ သံသရာလေကကြီးထဲ၌ လူဖြစ်ချည်၊ နတ်ဖြစ်ချည်၊ ဗြဟ္မာဖြစ်ချည်၊ ငရဲဖြစ်ချည်၊ ခွေး၊ ဝက်၊ ကြက်၊ ငှက် တိရစ္ဆာန် ဖြစ်ချည်စသည် အလီလီဖြင့် တစ်ဘဝပြီး တစ်ဘဝ ဆက်ကာဆက်ကာ ဘဝစဉ်မပျက် ဆက်လက် ကျင်လည်နေကြခြင်းသည် အမှန်တရားကို မသိအောင် ဖုံးလွှမ်း ထားသော အဝိဇ္ဇာနှင့် တွယ်တာစွဲမက်သော တဏှာတို့၏ လက်ချက်ကြောင့်ပင် ဖြစ်သည်။

အဝိဇ္ဇာဟူသော တရားကား အဟုတ်ရှိ အမှန်ရှိ တကယ် ရှိသော တရားတို့ကို ဟုတ်မှန်သည့်အတိုင်း မသိ၊ မမြင် လေအောင် ဖုံးကွယ်ထားသော တရားတည်း။ တဏှာက ဘဝသံသရာက မထွက်ချင်အောင် စွဲငင်တတ်သောတရားတည်း၊ ထိုတရားဆိုးများ ခြယ်လှယ်ထားသဖြင့် အဟုတ်အမှန်ရှိသော ရုပ်, နာမ်တရားတို့၏ မမြဲခြင်း အနိစ္စ၊ ဆင်းရဲခြင်း ဒုက္ခ၊

အစိုးမရမြင်း အနတ္တတို့ကို မသိမမြင်ဘဲ အဟုတ်အမှန်မရှိသော သဏ္ဌာန်ပညတ်ကို စွဲ၍ လူကောင်၊ နတ်ကောင်၊ ဗြဟ္မာကောင်၊ ငရဲကောင်၊ တိရစ္ဆာန်ကောင် စသည်တို့ကို အဟုတ်ထင်အောင် သိမ်းပိုက်စွဲလမ်းလျက် ခန္ဓာကိုယ်ထဲ၌ အမြဲတမ်း ကိန်းအောင်း နေသော သက္ကာယဒိဋ္ဌိကြီး ရှိနေခြင်းဖြစ်သည်။ ဒါကြောင့် သံသရာက မထွက်နိုင်ကြတာ။

ခန္ဓာ၊ အာယတန၊ ဓာတ်၊ သစ္စာ၊ ပဋိစ္စသမုပ္ပါဒ် စသည် တို့ကို မသိသော အတိဗာလပုထုဇဉ်၊ အန္ဓပုထုဇဉ်မိုက်၊ မကျွတ် ထိုက်သော ပုဂ္ဂိုလ် မဖြစ်ကြစေနဲ့၊ ခန္ဓာ၊ အာယတန၊ ဓာတ်၊ သစ္စာ၊ ပဋိစ္စသမုပ္ပါဒ်တို့ကို အဟုတ်အဟုတ် အမှန်ကေန် သိသော ကျွတ်ထိုက်သည့် ကလျာဏပုထုဇဉ်ဖြစ်အောင် အားထုတ်ကြ။ ထိုမှတဖန် သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ်၊ ရဟန္တာထိ ဖြစ်အောင် အားထုတ်မှ သံသရာ ဝဲဂလုံက်မှ ထွက်နိုင်ကြမယ်။

သောတာပန်ဖြစ်အောင် ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံ၊ ဓမ္မာရုံ ဟူသော အတိုက်အာယတန ခြောက်ပါးနှင့် စက္ခု၊ သောတ၊ ဃာန၊ ဇိဝှာ၊ ကာယ၊ မန ဟူသော အခံ အာယတန ခြောက်ပါး၊ မြင်သိ၊ ကြားသိ၊ နံသိ၊ စားသိ၊ တွေ့သိ၊ ကြံသိ ဟူသော အပွင့်ဝိညာဏခြောက်ပါးကို အနိစ္စ၊ ဒုက္ခ၊ အနတ္တအားဖြင့် ရှုမှတ်ကြ၊ ထိုမှတက်၍ ထိုရုပ်နာမ် နှစ်ချက် တို့ကိုပင် အနိစ္စ၊ ဒုက္ခ၊ အနတ္တ၊ အသုဘအားဖြင့် ထပ်ကာ ထပ်ကာ ရှုမှတ်ကြ၊ ဒါမှသာလျှင် သံသရာ ဇာတ်သိမ်း၍ ခန္ဓာပြတ်ငြိမ်းပြီး အမတာအမြတ်ကိန်းသို့ ရောက်ကြမယ်။

ဒီတော့ မြတ်စွာဘုရားက သူ့သားရာဟုလာကို ဟောခဲ့တဲ့ ဓာတ်လေးပါးကိုပဲ ဆက်ပြီးပြပါဦးမယ်၊ ဓာတ်သိရင်လွယ်ပါတယ်၊ ဓာတ်သိရင် ခန္ဓာ၊ အာယတန၊ သစ္စာ၊ ပဋိစ္စသမုပ္ပါဒ်လဲ ပါသွားတာပဲ၊ နာတယ်၊ ကျဉ်တယ် ဆိုတဲ့ ပထဝီဓာတ်ဟာ ငါမဟုတ်ဘူး၊ သတ္တဝါမဟုတ်ဘူး၊ ယောကျ်ားမဟုတ်ဘူး၊ မိန်းမမဟုတ်ဘူး၊ သူ့သဘော သူဆောင်နေတဲ့ ပရမတ္ထသဘောတရားလေးသာ ဖြစ်တယ်။ အကြောင်းကြောင့် အကျိုးတရားလေး ပေါ်လာတာပဲ ဖြစ်တယ်၊ ဖောက်ပြန်တတ်တဲ့ သဘောရှိတယ်။ မမြဲဘူးလို့ သေသေချာချာ ဉာဏ်ထဲမှာ ထင်လာဖို့ အရေးကြီးပါတယ်။

အချို့ကလဲ ပူတာ၊ အေးတာ တွေ့တယ်၊ တေဇောဓာတ်ပေါ့၊ ရှိန်ရှိန် ရှိန်ရှိန်နဲ့ တွေ့တယ်၊ အပူဓာတ်ပေါ့၊ အေးစက်စက်နဲ့ တွေ့တယ်၊ အအေးဓာတ်ပေါ့၊ အားလုံး ဖောဋ္ဌဗ္ဗတေဇော ချည်းပဲမှတ်၊ တချို့က လှုပ်လှုပ်ရွရွ တွေ့တယ်၊ ဝါယောဓာတ်ပေါ့။ အဲဒီ တွေ့လာတဲ့ ဓာတ်တွေကို ဓာတ်သိရင် ပြီးတာပဲ၊ 'ဓာတ် မသိဘဲ ဟတ္ထိယုန်ထင်သလို' ယောင်ချာချာ လုပ်နေရင် အပါယ်ခွင် သွားလိမ့်မယ်။ ပထဝီဓာတ်ပဲ တွေ့တွေ့၊ အာပေါဓာတ်ပဲတွေ့တွေ့၊ တေဇောဓာတ်တွေ့တွေ့၊ ဝါယောဓာတ်ပဲ တွေ့တွေ့၊ ဓာတ်လေးပါးတို့တွင် တစ်ပါးပါးတွေ့လျှင် နိဗ္ဗာန်နဲ့ နီးပြီလို့ မှတ်။ ဒါကြောင့် ဂါထာမှာ 'ဘဂ္ဂါ၊ ဖြစ်ပေါ် လာပြီးနောက် ချုပ်ပျောက် ချုပ်ပျောက်သွားကြသော နာမ် ရုပ်နှစ်ပါးတို့သည်။ အနိစ္စနုဂတာ၊ ငြိမ်းလေပြီးသော ဆီမီးပမာ သိုမှီးရာမရှိသော အဖြစ်သို့ ရောက်ကြလေကုန်၏' လို့ အနက် မြန်မာပြန်ဆိုထားပါတယ်။

ရုပ်နာမ်နှစ်ပါး ဓာတ်တရားတို့သည် ဆီမီးများလိုပဲ၊ ဆီမီးတောက်ကို ခေစ့စေ့ကြည့်လျှင် တလူလူ တရိပ်ရိပ် တောက်နေသည်သို့ မြင်လိမ့်မယ်။ မီးအဟောင်းပျက်ပျက်ပြီး မီးအသစ်ထပ်ကာထပ်ကာ တောက်တောက်လာသည်ကို မြင်လိမ့်မည်။ မျက်စိတစ်မှိတ် လျှပ်တစ်ပြက်မျှ မကြာဘ ပျက်ပျက်သွားတာ မြင်လိမ့်မည်။ ပျက်စီးသွားသော မီး၏အစား နောက်ထပ်တစ်ဖန်ပြန်၍ အသစ်ဖြစ် လာသော မီးကိုလည်း မြင်လိမ့်မည်။ ထိုအခါ တရစပ်တည်း တောက်နေသကဲ့သို့ ထင်ရသည်။ ပျက်စီးသောမီးကလည်း တခြားမသွားဘူး၊ ဤနည်း အတူတူပါပဲ၊ ရုပ်နာမ်ဓာတ်ဟာလဲ အဟောင်းပျက်၊ အသစ်ဖြစ်၊ အဟောင်းပျက်၊ အသစ်ဖြစ်နဲ့ တစ်စပ်တည်း ထင်ရသည်။ အမှန်မှာ မီးကဲ့သို့ ဖြစ်လိုက် ပျက်လိုက်။ ဖြစ်လိုက် ပျက်လိုက်နဲ့ ဖြစ်ပကျ်၍သာ နေကြသည်။ မျက်စီတစ်မှိတ် လျှပ်တစ်ပြက်မျှ တည်နေခြင်း မရှိ၊ အဖြစ်အပျက် မြန်လို့သာ တစ်စပ်တည်း ထင်ရသည်။ တခြားလဲ ပြောင်းရွှေ့တာ မဟုတ်ဘူး၊ ဒါကိုမြင်အောင် ထင်အောင် ကြည့်နိုင်မှ တရားကို မြင်တယ်လို့ ခေါ်ရတယ်။

နာကျင်လာတယ်၊ သူ့သဘောနဲ့သူဖြစ်၊ သူ့သဘောနဲ့သူ ပျက် သွားတာပဲ၊ စေးထိုင်းလာတယ်၊ သူ့သဘောနဲ့ သူဖြစ်၊ သူ့သဘောနဲ့သူ ပျက်သွားသတာပဲ၊ ပူအေးလာတယ်၊ သူ့သဘောနဲ့ သူဖြစ်၊ သူ့သဘောနဲ့သူ ပျက်သွားတာပဲ၊ လှုပ်ရှလာတယ်၊ သူ့သဘောနဲ့ သူဖြစ်၊ သူ့သဘောနဲ့သူ ပျက်သွားတာပဲ၊ ဒါပေမယ့် လူတွေ ထင်နေတာက ငယ်ငယ်တုန်းက ရုပ်တွေ အခုထက်ထိ ရှိနေသေးတယ်လို့ ထင်နေကြတယ်။

ထင်မှာပေါ့။ အဝိဇ္ဇာက အမှန်တရားကို ဖုံးလွှမ်းထားတာကို။ ဝိဇ္ဇာဉာဏ်နဲ့ ကြည့်တော့မှ အမှန်ကို သိတယ်၊ ငယ်ငယ်တုန်းက အတိုင်း ရှိနေရင် ဘယ်ကြီး လာမလဲ၊ ဟောင်းနွမ်း လာမလဲ၊ စဉ်းစားကြည့်ရင်တောင် သိနိုင်ပါတယ်။ ဒါကြောင့် ဂါထာမှာ 'အနာဂတော၊ မဖြစ်သေးမီ အနာဂတ်ကာလဆီ၌။ ပုဗ္ဗော၊ အသစ်ဖြစ်ဖို့ရာ အစုအစုသည်။ နတ္ထိ၊ မရှိချေတဲ့။ ဖြစ်ဖို့ရာ တစ်နေရာက အစုအပုံလဲ မရှိပါဘူးလို့ ဆိုလိုတယ်။

ပစ္စုပ္ပန်ဆဲဆဲသာ ခဏကလေး ရှိနေတာပါ။ ဘယ်ကမှ လာတာလဲ မဟုတ်ဘူး။ ဘယ်သွားပြီး စုပုံနေတာလဲ မဟုတ်ဘူး၊ ပဋိစ္စသမုပ္ပါဒ်နည်းအရ သူ့ကအကြောင်းရှိလို့ သူ့အကျိုးလေး ဖြစ်ပေါ်လာတာပါပဲတဲ့။ ဒါဖြင့် တာရှည်ခံသလားဆိုတော့ 'ယေပိ၊ အကြင်ပစ္စုပ္ပန် ရုပ်နာမ်တို့သည်လည်း။ တိဋ္ဌန္တိ၊ မျက်စိ တစ်မှိတ် လျှပ်တစ်ပြက်မဆ မရှည်ခဏလေးသာ တည်ကြကုန်၏' လို့ ဆိုတယ်။ ခဏလေး ဖောက်ပြန်ကုန်ဆုံး ပျက်ပြုန်း သွားကြတာပဲတဲ့၊ ဥပမာအားဖြင့် ဆိုလျှင် အပ်ဖျားပေါ်မှာ တင်ထားသော မုန်ညင်းစေ့ကဲ့သို့ တင်လို့မရ ခဏတာ ဖြစ်တယ်လို့ ဆိုလိုတယ်။ အပ်ကလဲ သေး၊ မုန်းညင်းစေ့ကလဲ ငယ်တော့ အဘယ်မျှ တာရှည်အောင် တင်လို့ရမလဲ၊ ဒါကြောင့် ဂါထာမှာ 'အာရဂ္ဂေ၊ သေးငယ်အပ်သွား ပွတ်ဆောက် ဖျား၌။ သာသပူပမာ၊ အလျှင်အလျား တင်ထားအပ်သော မုန်ညင်းစေ့ ပမာ ဖြစ်ကြပါကုန်တော့သတည်း။ သာဓု၊ သာဓု၊ သာဓု။

ကဲ သာသနာတော်ကြီးနဲ့ ကြုံဆဲအခါ ဝိပဿနာ

တရားဟောလို့တော့ ပြီးပါပြီ၊ ဝိပဿနာတရား ဝိပဿနာ အလုပ်ဟာ တကယ်အဖိုးတန်၍ အကောင်းဆုံးဖြစ်တဲ့ အလုပ် ကြီးနော်၊ လူ့ဖြစ်ကျိုး နပ်အောင်၊ ဘဝကူး ကောင်းအောင်၊ ကြိုးစားအားထုတ်ကြ၊ တရားအားထုတ်၊ တရားနာပြီးလျှင် သစ္စာဓိဋ္ဌာန် ဆိုကြပါစို့၊ တရားဟော၊ တရားနာ၊ တရားအား ထုတ်ပြီးမှဆိုတဲ့ သစ္စာဓိဋ္ဌာန်ဟာ တကယ်စွမ်းပါတယ်။

* * * * *

## သစ္စာဓိဋ္ဌာန်ပြုပုံ

(၁) သီလကလဲ ဖြူစင်ရတယ်။
(၂) ဖြောင့်မှန်သော စကားလဲ ဖြစ်ရမယ်။
(၃) ကိလေသာ မြူမဝင်သည့် ဖြူစင်သော စိတ်ထားလဲ ရှိရတယ်။
(၄) ရှေး၌ ဖြစ်ပေါ်ပွင့်တော်မူကြကုန်သော ဘုရား ရှင်တို့၏ ဂုဏ်ကျေးဇူးကိုလဲ အာရုံပြုရတယ်။
၅။ ဓမ္မအမွမ်း တရားတော်အစွမ်းကိုလဲ ဆင်ခြင် ရတယ်။
၆။ ငါ ဒီလိုသစ္စာဆိုသည့်အတိုင်း ဖြစ်ပါစေလို့ သစ္စာစွမ်း ပကားကိုလဲ ယုံကြည်အားထားရတယ်။
၇။ သတ္တဝါတွေအပေါ် သနားတဲ့ မေတ္တာတရားလည်း

ရှိရတယ်။

ဒီလို အင်္ဂါခုနစ်ပါးတို့နှင့် ပြည့်စုံမှ အစွမ်းထက်တယ်၊ အောင်မြင်တယ်နော်၊ (သတိရှိကြ)၊

ရှေးအခါက သူဌေးသမီး သုဇာတာဆိုတဲ့ အမျိုးသမီး တစ်ယောက်ရှိတယ်၊ တခြားတရွာက သူဌေးသားတစ်ယောက်နဲ့ မိဘ နှစ်ပါးပေးစားထားတော့ ရှေးထုံးစံအတိုင်း လင်ယောကျ်ား နေထိုင်ရာ ရွာသို့ လိုက်ပါ၍ သွားတယ်၊ သုံးနှစ်သုံးမိုးလောက် ကြာတော့ သူ့မိဘနှစ်ပါးထံပြန်ပြီး ကန်တော့ချင်သည့်အတွက် သူ့ယောကျ်ားကို ပြောတယ်၊ 'မောင်ရယ်၊ မိဘထံ ပြန်မရောက် တာလဲ သုံးနှစ်လောက်ရှိ သွားပြီ၊ မိဘထံ ခဏပြန်၍ မိဘ နှစ်ပါးကို ကန်တော့ချင်ပါတယ်' ဟု ပြောတော့ 'အေးအေး ပြန်တာပေ့ါ၊ ငါလိုက်ပို့မယ်' ဆိုပြီး လှည်းတစ်စီးနဲ့ စားနပ် ရိက္ခာများ တင်ပြီး သွားကြတယ်။

မြို့အနီးအပါးသို့ ရောက်သွားသောအခါ တိုင်းပြည် အုပ်ချုပ် မင်းလုပ်တဲ့ ဗြဟ္မဒတ်မင်းက တိုင်းခန်းလှည့်လည်တဲ့ အခါနဲ့ ကြုံသွားတော့ သူဌေးသမီး လှည်းနောက်က စီးလိုက်လာတာကို မြင်သွားတယ်။ ထိုအခါ ဗြဟ္မဒတ်မင်းက သုဇာတာ၏ အဆင်း ရုပ်ဝါ လှပတာ မြင်တော့ တစ်ခဏအတွင်း မင်းချင်းတို့ကို ခေါ်ပြီး လှည်းနောက်က လိုက်လာသော မိန်းမဟာ 'သသာမိက အသာမိက' ရှင်လင်ယောကျ်ား ရှိသလော၊ မရှိသလားလို့ အမေးခိုင်းတယ်။

မင်းချင်းယောကျ်ားတို့က မေးမြန်းတော့ သသာမိက လှည်း

မောင်းတဲ့ လူဟာ သူ့ယောကျ်ားပါလို့ ပြန်ပြောတယ်။ မင်းချင်းတွေပြန်၍ သူ့မှာ ယောကျ်ားနဲ့ပါ၊ လှည်းမောင်းသူဟာ သူ့ယောကျ်ား ဖြစ်ပါတယ်လို့ ပြောတော့ ဘုရင်ဟာ ဒေါသထွက်ပြီး တစ်ခါတည်း သူ၏ဦးသျှောင်ကို ချွတ်ကာ မလွတ်သာအောင် လှည်းနောက် လိုက်ပြီး ခိုးထုပ်အဖြစ် ဝှက်ထားခိုင်းတယ်။

ဘုရင်၏ ဦးသျှောင်ကို မင်းချင်းတွေ သွားပြီး လှည်းနောက်မှာ အသာဝှက်ထားလိုက်ကြတယ်။ ထို့နောက် မကြာခင် ဘုရင့်ဦးသျှောင် ပျောက်တယ်ဆိုပြီး ဟိုရှာဒီရှာ ရှာချင်ယောင်ဆောင်ကာ လှည်းမောင်းသူကိုသာ တရားခံအဖြစ် လုပ်လိုက်ကြတယ်၊ ဘယ်လောက် မတရားသလဲ စဉ်းစားကြည့်ကြ၊ ထိုနောက် တရားခွင်တင်တယ်ဆိုပြီး သုသာန်ထုတ်၍ သတ်မည့်ဆဲဆဲ သုဇာတာလဲ ပစ္စည်းတွေပစ်ပြီး လင်နောက်လိုက်သွားတယ်၊ ဟိုသုသာန်ကြတော့ သူ ဘာတက်နိုင်သလဲ၊ အတင်းဆွဲလို့မဖြစ်၊ တောင်းပန်လို့ မရ ချုံပွဲချ ငိုရှာတယ်။

နောက်တော့ အကြံရကာ ငါ့မှာ တခြား ကိုးကွယ်ရာတော့ရှိပြီ၊ သစ္စာဓိဋ္ဌာန်ပြုမှပဲဟု စိတ်ထဲ၌ သတိရကာ. . . .

'ကျွန်မမှာ ဤယောကျ်ားဟာ မိဘနှစ်ပါး ပေးစားထားတာလဲ မှန်ပါတယ်၊ လင်ယောကျ်ားဖြစ်သည့် နေ့ကစ၍ တခြားယောကျ်ားကို စိတ်ထဲကမှ မပြစ်မှားတာလဲ မှန်ပါတယ်၊ ဤမှန်ကန်သော သစ္စာစကားကြောင့် ကျွန်မ၏ လင်ယောကျ်ားအားကယ်မသူ ပေါ်ပါစေသတည်း' လို့ သစ္စာဆိုလိုက်တယ်၊ သူ့သစ္စာဓိဋ္ဌာန်က ဆိုခဲ့သည့်အတိုင်း သီလလည်း ဖြူစင်တယ်၊

မှန်ကန်သော စကားလည်း ဖြစ်တယ်၊ စိတ်ထားလည်း ကောင်းတယ်၊ ရတနာသုံးပါးလည်း ကြည်ညိုတဲ့ပုဂ္ဂိုလ် ဖြစ်တယ်၊ တရား တော်နဲ့လဲ ညီတယ်၊ သစ္စာကိုလဲ ယုံကြည်တယ်၊ အားကိုးတယ်၊ သူ့ယောက်ျားကိုလဲ သနားတယ်ဆိုတော့ အင်္ဂါ ၇-ပါး ပြည့်စုံနေ တာပေါ့။

ဒီတော့ မတရားတာကို မကြားချင်တဲ့ သိကြားက မနေ နိုင်တော့ဘူး၊ တခါတည်း အမြန်ပဲ ဆင်းလာတယ်၊ ထိုအခါမှာ လူသတ်သမား မင်းချင်းယောက်ျားတွေက သုဇာတာ၏ ယောက်ျားလည်ပင်းကို စဉ်းတီတုံးပေါ်မှာ တင်ထား၍ လူသတ် သမားတွေက လည်ပင်းကို ဖြတ်မယ်လို့ ဓားနဲ့ရွယ်နေစဉ် ရှင်ဘုရင်ကလည်း မိမိကိုယ်တိုင် မြင်ချင်လို့ အကြည့် သိကြား မင်းက လှည့်လိုက်တော့ သုဇာတာ၏ယောက်ျားက ဆင်ပေါ် ရောက်၊ ရှင်ဘုရင် အယုတ်မာက ခေါင်းပြတ်သွားသတဲ့။

ဒီအခါကျမှ သိကြားမင်းက ကောင်းကင်မှာ ရပ်တည် လျက် 'အို တိုင်းသူပြည်သား လူအများတို့ ငါသည် မကောင်းသူ ပယ်၍ ကောင်းသူကယ်သော သိကြားမင်းဖြစ်သည်။ သင်တို့ တိုင်းသူ ပြည်သားနဲ့ ဤ သူကောင်းကောင်းယောက်ျားကို ဆင်းရဲအောင် ညင်းဆဲခဲ့တဲ့ မင်းယုတ်မာကို သူလုပ်တာ သူခံဆိုတဲ့ သဘော အနေနဲ့ ငါလုပ်လိုက်ပေပြီ၊ ဤသုဇာတာ၏ လင်ယောက်ျား သူဌေးသားကိုသာ မင်းအဖြစ် တင်မြှောက်ကြပေတော့' ဟု ပြောကာ ပြန်သွားတယ်။

အဲ့ဒီအခါကျမှ တိုင်းသူပြည်သား လူအများလည်း သိကြား ပေးတဲ့ ဘုရ ဆိုပြီး အလွန်ဝမ်းမြောက် ကြည်ညိုကြတယ်၊ သူဌေးသား

ကလည်း တရားကို အလေးထား၍ အကျင့်ခိုင်းတော့ တစ်တိုင်းပြည်လုံး လူတွေ နပ်ပြည် ရောက်ကြတယ်။

ကဲ, ကဲ. . . ဒီ သုဇာတာတို့ လင်မယားထုံးကို နှလုံးမူ၍ သစ္စာမိဋ္ဌာန်ပြုကြရမယ်။

အကျွန်ုပ်တို့ အားထုတ်ရသော သိက္ခာသုံးရပ် အကျင့်မြတ်၏ ကုသိုလ်သည် နိဗ္ဗာန်ရောက်ကြောင်း အကျင့်ကောင်း၊ တရားကောင်း ဟု ယုံကြည်ပါသည်။ ဤသို့ မှန်ကန်သော သစ္စာစကားကြောင့် မြန်မာပြည်ကြီး ဝဖြိုးသာယာ၍ ဗုဒ္ဓမြတ်စွာ သာသနာသည် ရောင်ဝါနေသို့ ထွန်းကားလျက် ခုနစ်ရက် သားသမီးများ ကပ်ကြီးသုံးပါးမှ ကင်းသွားအောင် စောင့်ရှောက်မည့်သူများ ပေါ်ပေါက်ပါစေသား၊ ပေါ်ပေါက်ပါစေသော်။

## ၂၄။ ဘုရားရှိခိုးအမျိုးမျိုးနှင့် ရှိခိုးရခြင်းအကျိုး

မြတ်စွာဘုရားသခင် လက်ထက်တော်က နတ်တို့သနင်း သိကြားမင်းက လျှောက်ထားတယ်။ "ဘုန်တော်ကြီးသော မြတ်စွာဘုရား၊ သတ္တဝါများသည် ဘေးရန်အန္တရာယ် အသွယ်သွယ် လွတ်ကင်း၍ စိုးရိမ်ကြောင့်ကြ သောကဗျာပါဒ မရှိခြင်း၊ ချမ်းသာစွာ နေထိုင်ခြင်းတို့ကို လိုလားကြပါသည်။ ထိုသို့ မနေကြဘဲ ဘေးအမျိုးမျိုး၊ ရန်အသွယ်သွယ် အန္တရာယ်တွေ ပတ်လည်ဝိုင်းလျက် စိုးရိမ်ကြောင့်ကြ သောကဗျာပါဒတို့နှင့် တွေ့ဆုံနေရခြင်းမှာ အဘယ်ကြောင့်ပါနည်း' ဟု လျှောက်ထားတယ်။

"သိလိုရေးကြောင့် မေးခွန်းလျှောက်ထား၊ အို-သိကြား သတ္တဝါတွေဟာ တစ်ဦးကောင်းစားရင် တစ်ဦးက မနာလို ထားခြင်း- ဣဿာတရား၊ မိမိ စည်းစိမ်ချမ်းသာတို့ကို ဝန်တို- မစ္ဆရိယရှိခြင်း၊ မစ္ဆရိယတရား ထိုနှစ်ပါးတို့ကြောင့် ဘေးအန္တရာယ် များကြတယ်"ဟု ပြောကြားတော်မူသည်။

"ဒါဖြင့် အဘယ်ကြောင့် ဖြစ်ပွားခြင်း ဣဿာ၊ ဝန်တိုခြင်း မစ္ဆရိယတရား ဖြစ်ပွားကြပါသနည်း' ဟု ပြန်လျှောက်တော့. . .

"အချို့သော သတ္တဝါတို့သည် မိမိနှင့် သဘောခြင်း တိုက်ဆိုင် သူတို့ကို ချစ်ခင်လိုလားခြင်း၊ မိမိနှင့် သဘောခြင်း မတူသော ပုဂ္ဂိုလ်တို့ကို မလိုမုန်ထားခြင်းကြောင့် ဣဿာ မစ္ဆရိယတရား ဖြစ်ပွားကြတယ်" ဟု ဖြေကြားတော်မူသည်။

"ဒါဖြင့်ရင် အဘယ်ကြောင့် အချို့သော သူတို့အပေါ် ချစ်ခင် လိုလားခြင်း၊ အချို့သော သူတို့အပေါ် မလိုမုန်းထားခြင်း ဖြစ်ပွားကြပါသနည်း" ဟု လျှောက်ထားတော့. . . 'သဗ္ဗေ ပုဂ္ဂလာ နာနဇ္ဈာသယာ' ဆိုသည့်အတိုင်း သတ္တဝါတွေဟာ အလိုဆန္ဒအမျိုးမျိုး ရှိကြတယ်။ အချို့ကား လောဘကြီးကြတယ်။ အချို့ကား ဒေါသကြီးကြတယ်။ အချို့ကား မောဟကြီးကြတယ်။ အချို့ကား မာနကြီးကြတယ်။ အချို့ကား အယူသည်းကြတယ်။ ဒါကြောင့် ချစ်ခြင်း မုန်းခြင်း ဖြစ်ကြတာပဲ"လို့ ဖြေကြား တော်မူတယ်။

ဒါဖြင့်ရင် အဘယ်ကြောင့် အလိုဆန္ဒ မတူကြပါသနည်း' ဟု လျှောက်ထားတော့ 'တွေးတောကြံစည်ခြင်းဝိတက်၊ နှလုံး သွင်းခြင်း မနသိကာရ၊ ဆုံးဖြတ်ခြင်း အဓိမောက္ခ မတူကြလို့ ဖြစ်တယ်' ဟု ဖြေကြားတော်မူပါသည်။

"ဒါဖြင့်ရင် အဘယ်ကြောင့် ကြံစည်တွေးတော နှလုံး သဘော ဆုံးဖြတ်ခြင်း မတူကြပါသနည်း" ဟု လျှောက်ထား တော့. . . "သံသရာခဲ့ထွင်တတ်တဲ့ အဝိဇ္ဇာ၊ တဏှာ၊ မာန၊ ဒိဋ္ဌိ၊ ဝိစိကိစ္ဆာဆိုတဲ့ အန္တရာယ်တရားတွေက ခြယ်လှယ်နှိပ်စက် အုပ်စိုးနေလို့' ဟု ဖြေတော်မူသည်။

ဒါကြောင့် ဒီတရားတွေ ပျောက်အောင် မခွဲ့ထွင်နိုင်အောင်၊ မခြယ်လှယ်နိုင်အောင်၊ မအုပ်စိုးနိုင်အောင် အန္တရာယ် ကင်းဖြစ်သည့် ဈာနာသုံးပါး၊ မိဘ၊ ဆရာ၊ အနန္တော အနန္တ ငါးပါးကို အိပ်ရာဝင် အိပ်ရာထ နေ့စဉ်မှန်မှန် ရှိခိုးကန်တော့ကြရန် လိုပါသည်။ ထိုကြောင့် မြတ်စွာဘုရား အလောင်းတော် ရွှေဥဒေါင်းမင်းဘဝတွင် ရှေးရှေးက မြတ်စွာဘုရားများကို ဖူးတွေ့၍ ရှိခိုးပူဇော်ခဲ့သော အလေ့အကျင့် များကြောင့် အာသေဝနပစ္စည်း၊ ပကတူပနိဿယပစ္စည်း တပ်ပြီး တိရစ္ဆာန်ဥဒေါင်း ဖြစ်တဲ့အခါတောင် ဘုရားမရှိခိုးဘဲ မနေနိုင် နံနက်အခါတိုင်း အိပ်ရာမှထပြီး အရောင်တွေနဲ့ ထွက်ပေါ်လာသော နေမင်းကို ကြည့်ရှု၍ ဦးခေါင်းညွှတ်ကာ ရှိခိုးပြီးလျှင် ရှေးရှေးဘုရားရှင် တို့၏ ကိုယ်တော်ရောင် ဉာဏ်တော်ရောင်တို့ကို အာရုံပြု၍ 'ဥဒေတယံ' အခြေခံသော ဂါထာဖြင့် ဦးခေါင်းညွှတ်ကာ ရှိခိုး ပြန်သည်။

ဤသို့ ရှိခိုးသော ကုသိုလ်ကံစေတနာကြောင့် မျက်မှောက် ဘဝတွင် မုဆိုးတို့၏ ဘေးအန္တရာယ်မှစ၍ လွတ်ကင်းပြီး စိုးရိမ်ခြင်းကြောင့်ကြ ဗျာပါဒမရှိ ပကတိ ချမ်းသာစွာ နေထိုင်ရပါ လို၏-လို့ ဆုတောင်းတယ်။ ဤသို့သော သူတော်ကောင်းတို့၏ ထုံးကို နှလုံးပိုက်၍ ဘုရားရှိခိုးကြ။

ဘုရားရှိခိုးရခြင်း၏အကျိုးက (၈)ပါး ရှိကယ်။

၁။ ဒိသာသု ပူဇိတော ဟောတိ- သွားလေရာ အရပ် ရှစ်မျက်နှာတို့၌ အပူဇော် အချီးမြှောက် ခံယူရခြင်း။

၂။ တိက္ခပညော ဟောတိ- သွက်သွက်လက်လက်နဲ့ ထက်မြက်သော ဉာဏ်ပညာရှိခြင်း။

၃။ သဗ္ဗေ သတ္တာ အနုဝတ္တန္တိ-ကိုယ့်အလိုလိုက်ပြီး ကိုယ့်အကြိုက်ကိုသာ လုပ်ကိုင်ပေးကြသော အခြွေအရံ ပရိသတ်တို့နှင့် ပြည့်စုံခြင်း။

၄။ အမိတဘောဂလဒ္ဓါ-မရေတွက်နိုင်သော စည်းစိမ် ဥစ္စာ ရတနာတို့နှင့် ပြည့်စုံခြင်း။

၅။ ဝဏ္ဏဝန္တော ဟောတိ-ဘဝတိုင်း ဘဝတိုင်း အဆင်း ရုပ်ရည် ချောမောလှပခြင်း။

၆။ ပဋိကန္တော ဟောတိ- ကိုယ်တွင်မကာ စိတ်ပါလှပ သည့်အတွက် သူတစ်ပါးတို့က နှစ်သက်ပြီး အကျိုး စီးပွားလိုလားခြင်း။

၇။ အမိတ္တာနံ ပိယော ဟောတိ-အရင်က ရန်သူပင် ဖြစ်စေ မိမိနှင့် ရင်ဆိုင်ကြုံတွေ့လာပါက ချစ်ချစ် ခင်ခင် စုံစုံမက်မက် လေးစားလာရခြင်း။

၈။ ယသော အဗ္ဗုဂ္ဂတော ဟောတိ-ကောင်းမြတ်သော သီတင်း ကျော်စောပျံ့နှံ့ခြင်း။

ဤသို့ အကျိုးဟာရား(၈)ပါးတို့ကို ဆုမတောင်းဘဲ ပြည့်စုံ ပါသည်ဟု ထေရအပါဒါန် ပါဠိတော်မှာ လာပါသည်။ ယုံယုံကြည် ကြည်နဲ့ ဘုရား၊ တရား၊ သံဃာ ဆရာမိဘတို့အား အမျိုးထား၍ မိမိတို့ထက် အသက်သိက္ခာ ဂုဏ်ဝါကြီးမြင့်သော သူတို့အား လေးစား

ဒို့သေပြီး နေ့စဉ်မသေ့ ရှိခိုးပူဇော်၍ နေထိုင်ကြပါရန် တိုက်တွန်းအပ်ပါသည်။

## ၁။ အနန္တသုံးပါး ဘုရားရှစ်ခိုး

၁။ ဗုဒ္ဓေါ မေ သီသေ တိဋ္ဌတု၊
ဓမ္မော မေ သီသေ တိဋ္ဌတု၊
သံဃော မေ သီသေ တိဋ္ဌတု၊
မာတာပိတရော မေ သီသေ တိဋ္ဌတု၊
အာစရိယော မေ သီသေ တိဋ္ဌတု၊
တံ အာဒရေန နမာမဟံ။

(၁) ဗုဒ္ဓေါ၊ သစ္စာလေးရပ် တရားမြတ်ကို ထင်အပ်ထင်ထင် သိမြင်တော်မူသော ဘုရားရှင် ကိုယ်တော်မြတ်သည်။ မေ၊ တပည့်တော်၏။ သီသေ၊ ဦးခေါင်းရတနာ မြတ်အင်္ဂါထက်၌။ တိဋ္ဌတု၊ သနားပို့၍ တည်းခို့ရှင်ပျော် တည်နေတော်မူပါဘုရား၊

(၂) ဓမ္မော၊ မဂ်လေးတန်, ဖိုလ်လေးတန်, နိဗ္ဗာန်ပရိယတ် ဆယ်ပါးသော တရားတော်မြတ်သည်။ မေ၊ တပည့်တော်၏။ သီသေ၊ ဦးခေါင်းရတနာ မြတ်အင်္ဂါထက်၌။ တိဋ္ဌတု၊ သနားပို့၍ တည်းခို့ရှင်ပျော် တည်နေတော်မူပါဘုရား။

(၃) သံဃော၊ မဂ္ဂဋ္ဌာန် ဖလဋ္ဌာန် ရှစ်တန်အရိယာမြတ် များသည်။ မေ၊ တပည့်တော်၏။ သီသေ၊ ဦးခေါင်း ရတနာ မြတ်အင်္ဂါ၌။ တိဋ္ဌတု၊ သနားပို၍ တည်းခို ရှင်ပျော် တည်နေတော်မူပါဘုရား။

(၄) မာတာပိတရော၊ မြင်းမိုရ်တောင်ဦး မကကျူးသည့် ကျေးဇူးရှင် မွေးမိခင်နှင့် ဖခင်မြတ်ဖျား ထိုနှစ် ပါးသည်။ မေ၊ တပည့်တော်၏။ သီသေ၊ ဦးခေါင်း ရတနာ မြတ်အင်္ဂါ၌။ တိဋ္ဌတု၊ သနားပို၍ တည်းခို ရှင်ပျော် တည်နေတော်မူပါဘုရား။

(၅) အာစရိယော၊ မကောင်းမြစ်တာ ကောင်းရာညွှန်လတ် အတတ်ပညာ ထိုနှစ်ဖြာကို ကောင်းစွာ သင်ကြား ဆရာများသည်။ မေ၊ တပည့်တော်၏၊ ဦးခေါင်းရတနာ မြတ်အင်္ဂါ၌။ တိဋ္ဌတု၊ သနားပို၍ တည်းခိုရှင်ပျော် တည်နေတော်မူပါဘုရား။

တံ။ ထို အနန္တဂိုဏ်းဝင် ကျေးဇူးရှင်ငါးပါးကို။ အဟံ၊ တပည့်တော်သည်။ အာဒရေန၊ ရိုသေလေးစား ဂါရဝ တရားဖြင့်၊ နမာမိ၊ ဦးနှိမ်ရိုကျိုး လက်စုံမိုး၍ ရှိခိုး ကန်တော့ပါ၏ အရှင်ဘုရား။

* * * * *

## အောင်ခြင်းရှစ်ပါး ဘုရားရှိခိုး

(၁) မာရံ ဂဇံ ယက္ခံ စောရံ၊ စိဉ္စမာဏဉ္စ သစ္စကံ။
နာဂံ ဗြဟ္မံ ဇိနော ဇေတိ၊ ဒေတု မေ ဇယမင်္ဂလံ။

ယော ဇိနော၊ အကြင်မြတ်စွာဘုရားသည်။ မာရံ၊ ရတနာရွှေစင် မြတ်ပလ္လင်ကို လိုချင်သောအား လုချင်ငြား၍ ထောင်လွှားမာန်ပြင်း မာရ်နတ်မင်းကိုလည်းကောင်း။ ဂဇံ၊ နာဠာဂီရိ မည်ရှိကျော်ထင် မင်းစီးဆင်ကြီးကိုလည်းကောင်း။ ယက္ခံ၊ အာဠာဝက အမည်ရှိသည့် ယက္ခစွယ်ပြူး နတ်ဘီလူးကိုလည်းကောင်း။ စိဉ္စမာနဉ္စ၊ သတင်းတော်ပုပ် လာဘ်ကြီးယုတ်အောင် မဟုတ်မဟတ် လုပ်ဇာတ်စွဲလာ စိဉ္စမာနုပ် မိန်းမယုတ်ကိုလည်းကောင်း။ သစ္စကံ၊ ဝါဒတစ်ထောင် နှုတ်ကဆောင်၍ မာန်ထောင်ကြွားမိုက် သစ္စကပရိဗိုဇ်ကိုလည်းကောင်း။ နာဂံ၊ အခိုးအလျှံ လွှန်ပြင်းယန်သည့် နန္ဒောပနန္ဒ နာမည်သင်း နဂါးမင်းကိုလည်းကောင်း။ ဗကဉ္စ၊ မှားယွင်းဖောက်ပြန် မိစ္ဆာဉာဏ်ဖြင့် အမှန်ယူသည်း ဗကဗြဟ္မာကြီးကိုလည်းကောင်း။ ဇေတိ၊ ခန္တီ မေတ္တာ သစ္စာတရား လက်ကိုင်ထား၍ ထင်ရှားမသွေ အောင်မြင်တော်မူလေပြီ။ သော ဇိနော၊ ရှစ်ပါးရန်သူ အောင်မြင်တော်မူသော ထိုမြတ်စွာဘုရားသည်၊ မေ၊ အကျွန်ုပ်၏။ ဇယမင်္ဂလံ။ အောင်ခြင်းမင်္ဂလာကို။ ဒေတု၊ ပေးသနားတော်မူပါ ရွှေဘုန်းတော်သခင် အရှင်မြတ်ကြီးဘုရား။

# ခုနစ်နေ့ ဘုရားရှိခိုး

(၁) ဩက္ကန္တော ဂုရု ဝါရသ္မိံ၊ သုက္ကဝါရေ ဝိဇာယတိ။
နိက္ခန္တော စန္ဒြဝါရသ္မိံ၊ သမ္ဗုဒ္ဓေ ဗုဓဝေါရကေ။

(၂) သောရိဝါရေ ဓမ္မစက္ကံ၊ အင်္ဂဝါရေတု နိဗ္ဗုတော။
သုရေ တေဇော ဣမေ သတ္တ၊ အဟံ ဝန္ဒာမိ သဗ္ဗဒါ။

ဂုရုဝါရသ္မိံ၊ မဟာသက္ကရာဇ် ခြောက်ဆယ့်ခုနစ်ခု၊ ဥတုဂိမှ ဝါဆိုလပြည့်၊ ကြာသပတေးနေ့၌။ ဩက္ကန္တော၊ ကြည်သာနှစ်ခြိုက် ပမ်းကြာတိုက်၌ ကိန်းဆိုက်သန္ဓေ တည်နေတော်မူ၍။ သုက္ကဝါရေ၊ ခြောက်ဆယ့်ရှစ်ခု ဥတုဂိမှ ကဆုန်လပြည့် သောကြာနေ့၌။ ဝိဇာယတိ၊ ဆယ်လစေ့သော် မယ်တော်ဝမ်းမှ ချမ်းမြသင်ရှင် ဖွားမြင်တော်မူ၏။

စန္ဒြဝါရသ္မိံ၊ ကိုးဆယ့်ခုနစ်ခု ဥတုဂိမှ ဝါဆိုလပြည့် တနင်းလာနေ့၌။ နိက္ခန္တော၊ မြင်းတော်ကဏ္ဍက မတ်ဆန္ဒနှင့် ကာမခွာလျက် နော်မာဘက်သို့ တောထွက်တော်မူ၏။ ဗုဒ္ဓဝါရကေ၊ တစ်ရာ့သုံးခု ဥတုဂိမှ နွေကာလကြဲ့ ကဆုန်လပြည့် ဗုဒ္ဓဟူးနေ့၌။ သမ္ဗုဒ္ဓေါ၊ လောကသုံးခွင် ဘုံအပြင်၌ ဂုဏ်အင်ကြီးမား ကျော်ထင်ရှားလျက် ဘုရားဖြစ်တော်မူ၏။

သောရိဝါရေ၊ တစ်ရာ့သုံးခု ဥတုဂိမှ ဝါဆိုလပြည့် စနေနေ့၌။ ခမ္မစက္က၊ သဟမ္ပတိ မည်ရှိပြဟ္မာ တောင်းပန်လာ၍ ဒေသနာနက် ခမ္မစက်ကို ဟောမြွက်တော်မူ၏။

အင်္ဂဝါရေတု၊ တစ်ရာ့လေးဆယ် စွန်းပယ်ရှစ်ခု ဥတုဂိမှာ ဝိသာခါကြံ့ ကဆုန်လပြည့် အင်္ဂါနေ့၌။ နိဗ္ဗူတော၊ နှစ်ဆယ် လွန်လေ လေးသချေ်နှင့် ကုဋေခြောက်ဆယ်၊ ဗိုလ်ဝယ်တစ်သိန်း တွက်ကိန်းမှာစွာ ဝေနေယျာကို ကောင်းစွာမချို့ နိဗ္ဗာန်ပို့၍ စံလွန် တော်မူ၏။

သုရေ၊ သာသနာငါးထောင် တည်အောင်မရွေ့ ဟော၍ ပြည့်သော တနင်္ဂနွေနေ့၌။ တေဇော၊ အလောင်းမြတ်ကို လူနတ် ပြဟ္မာ မင်းမလ္လာတို့ လောင်အောင်ရှို့လည်းလောင်ဖို့ ဝေးစွာ အံ့ဩကာဖြင့် ကောင်းစွာမပျက် တေဇောထွက်၍ လောင်တော်မူ၏။

ဣမေ သတ္တ ဝါရေ ဤနေ့ကောင်းရက်သာ ခုနစ်ဖြာ၌။ ဇာတံ၊ ဖြစ်တော်မူသော ရွှေဘုန်းတော်ရှင် ဘုရားသခင်ကို။ အဟံ၊ ရုပ်နာမ် နှစ်ဖြာ ခန္ဓာငါးဝ၊ သတ္တခေါ်ဝေါ၊ တပည့်တော်သည်။ သဗ္ဗဒါ၊ နေ့ရော ညဥ့်ပါ အခါခပ်သိမ်း။ ဝန္ဒာမိ၊ သဒ္ဓါဟုန်ဖြိုး၊ လက်စုံမိုး၍ ရှိခိုး ကန်တော့လိုက်ပါ၏ ဘုရား။

## ဖြစ်တော်ပေါင်းချုပ် ဘုရားရှိခိုး

အတိုင်းမသိ ကျေးဇူးရှိသည့်၊ မုနိသကျ ဂေါတမကား၊ မဆွရှေးခါ သုမေဓါဘဝ၊ တာပသစစ် ရသေ့ဖြစ်၍၊ သုံးခေတ်အရှင် ဒီပင်္ကရာ စောမြတ်စွာ၏၊ နိယတာမွမ်း ဗျာဒိတ်ပန်းကို၊ ဆွတ်လှမ်း

ပန်ဆင် ယင်သည်ကစ၊ လေးဝသချော် သိမ်းနေကမ္ဘာ၊ ရှည်မြင့်ကြာအောင်၊ ပါရမီတ်သ ပဉ္စာကါ၊ စရိယာသုံး လောင်းတို့ထုံးကို၊ စုရုံးဖွေရှာ ကျင့်ခြင်းရာဖြင့်၊ မိန့်မှာပိုင်းခြား ဇာတ်တော်များတွင်၊ မခြားမျိုးတူ ပေါင်းယူတွက်လစ်၊ သချာစစ်မူ လူဖြစ်ဇာတ်မှာ၊ သုံးရာစွန်းတယ် ငါးဆယ့်သုံးဖြစ်၊ လျှပ်စစ်ရောင်ဝါ ပြဟ္မာငါးကြိမ် ဝတီသာများ၊ သိကြားနှစ်ဆယ် မိုးဝယ်ထက်နတ်၊ ဇာတိစုဒ္ဒသ ရုက္ခနတ်ဖြစ်၊ သုံးဆယ့်တစ်ကောက် မျောက်ဒွါဒသ၊ ဂူဝဟောက်လေ့ခြင်္သေ့ဆယ်ခါ၊ ဟင်္သာ, ကျေးသား နှစ်ပါးတူညီ၊ ကိုးဖြစ်စီပင် သမင်ရှစ်ဟု၊ ဆင်မူခုနစ်၊ ခိုဖြစ်ခြောက်ခါ၊ နွားမှာပဉ္စ၊ လင်းတ, ငုံး, မြင်း၊ ရေမင်းနဂါး၊ ဤလေးပါးဇာစ်၊ လေးဖြစ်စီပေါင်း၊ ဒေါင်း, ခွေး, ငှက်, ဆတ်, ဖွတ်နှင့် ရေငါး၊ ဤခြောက်ပါးမှာ သုံးစီသာတည်း။

ကျီး, ခါ, ကြွက်; ကြက်, ဂဠုန်ငှက်နှင့်၊ စက္ကဝက်, ဥသြ ပေါင်းရောတွက်မှတ်၊ ခုနစ်ဇာတ်မှာ နှစ်စီသာထား၊ ဖား, ဒီလုံးငှက်၊ ကျွဲ, ဝက်, ခေါက်ရှာ၊ ကိန္နရာ, တင်ကျီး၊ စာဝတီးငှက်၊ ဆယ်ရက်, ယုန်လှောက်၊ သစ်တောက်ငှက်ဟု၊ ဆယ့်တစ်ခုမှာ တွက်ကာစာညီ၊ တစ်ကြိမ်စီတည့်၊ ပေါင်းလီသချာ၊ ငါးရာ့လေးဆယ် စွန်းကယ်ကြိမ်ရှစ်၊ တို့ရှင်ချစ်လျှင်၊ ဖြစ်သည့်ဘဝ၊ ဟူသမျှကို၊ ဖော်ပြမှတ်သား၊ လောင်းတော်များကို၊ သုံးပါးဝန္ဒနာ၊ စေတနာဖြင့်၊ သဒ္ဓါ မြတ်နိုး၊ ရှိလျှင်ခိုးသည်၊ ကောင်းကျိုးဟူသမျှ ရစေသော်၊ မြတ်ရှင်စော ဩကာသ-ဩကာသ။

* * * * *

## ရှင်ဗုဒ္ဓဃောသ ဘုရားရှိခိုး

ဗုဒ္ဓံ ဓမ္မဉ္စ သံဃဉ္စ၊ ဝိပ္ပသန္နေန စေတသာ။
ဝန္ဒိတွာ ဝန္ဒနာမာန၊ ပူဇာ သက္ကာရ ဘာဇနံ။

ဝန္ဒနာမာန ပူဇာသက္ကာရ ဘာဇနံ၊ ရှိခိုးခြင်း၏တည်ရာ, မြတ်နိုးခြင်း၏ တည်ရာ, အရိုအသေ အလေးအမြတ် ပြုခြင်း၏ တည်ရာ ဖြစ်တော်မူသော။ ဗုဒ္ဓဉ္စ၊ ပစ္စေကဗုဒ္ဓါ ရဟန္တာတို့ထက် လွှမ်းတက်ဂုဏ်ကြီး အစုံပြီးသဖြင့် အံ့ချီးဂုဏ်သတတ် စုံလင်လတ်၍ ဗုဒ္ဓခေတ် သံသမ္မာ ခြံရံကာ ပုဒ်ပြီး၍ သမ္မာသမ္ဗုဒ္ဓ ဂုဏ်ကြီးဖြင့် ချီးကျူးအပ်သော မြတ်စွာဘုရားကိုလည်းကောင်း။ ဓမ္မဉ္စ၊ သတ္တ, သင်္ခါရ, သြကာသဟု လောကထက်ပို မဂ်ဖိုလ်နိဗ္ဗာန် ကိုးတန်သော တရားမြတ်ကိုလည်းကောင်း။ သံဃဉ္စ၊ ခုမ္မောသဓ, သြဇနက် အမြိုက်ဆေးကို တိုက်ကျွေးတိုင်ပင် ကြည်လင်ဝမ်းမြောက် သုံးဆောက်တော်မူကြသော အရိယာခေါ် သံဃာတော်မြတ်အပေါင်းကိုလည်းကောင်း။ အဟံ၊ ငါ, သူတစ်ပါး, ယောကျ်ား, မိန်းမစသည် စွဲမှတ်, ပညတ်သမုတ် အကျွန်ုပ်သည်။ ဝိပ္ပသန္နေန၊ အထူးသဖြင့် ကြည်လင်သော။ စေတသာ၊ သဒ္ဓါဇောကပ် စိတ်စေကနာဖြင့်။ ဝန္ဒိတွာ-ဝန္ဒနာမိ၊ စေတနာသုံးပါး ကြီးမားလွှမ်းခြုံ အလုံးစုံကို ယုံကြည်မြတ်နိုး လက်စုံမိုး၍ ရှိခိုးပါ၏ဘုရား။

၇.

# အစိန္တေယျဘုရားရှိခိုး

ဝါစ ဝါစံ ဝိလာသဂ္ဂ၊ ဝါစစိန္တေယျသံယုတ္တံ။
ဝန္ဒေ သာရဂုဏောပေတံ၊ တေနမှ တုလဝါစကာ။

ဝါစ ဝါစံ ဝိလာသဂ္ဂ ဝါစ စိန္တေယျသံယုတ္တံ၊ ပကတိသောစကား၊ အလွန်တင့်တယ်သောစကား၊ မြတ်သောစကား၊ မကြံစည်သောစကားနှင့် ပြည့်စုံတော်မူသော။ သာရဂုဏောပေတံ၊ ကျေးဇူးတော်နှစ်၊ ဂုဏ်တော်စစ်နှင့် ပြည့်စုံတော်မူသော မြတ်စွာ ဘုရားကို။ အဟံ၊ တပည့်တော်သည်။ ဝန္ဒေ-ဝန္ဒာမိ၊ ရှိသေမြတ်နိုး ရှိခိုးပါ၏။ တေန၊ ထိုသို့ ရှိခိုးရသော ကောင်းမှုကြောင့်။ အတုလဝါစကာ၊ အတူမရှိသော စကားနှင့် ပြည့်စုံရသည်။ အဟံ၊ ဖြစ်ရပါလို ဘုရား။

ရူပရူပ ဝိလာသဂ္ဂ၊ ရူပစိန္တေယျ သံယုတ္တံ။
ဝန္ဒေ သာရဂုဏောပေတံ၊ တေနမှာ တုလရူပဝါ။

ရူပ ရူပ ဝိလာသဂ္ဂ ရူပစိန္တေယျ သံယုတ္တံ၊ ပကတိသောအဆင်း၊ အလွန်တင့်တယ်သောအဆင်း၊ မြတ်သောအဆင်း၊ မကြံစည်နိုင်သော အဆင်းနှင့် ပြည့်စုံတော်မူသော။ သာရဂုဏောပေတံ၊ ကျေးဇူးတော်နှစ်, ဂုဏ်တော်စစ်နှင့် ပြည်စုံတော်မူသော မြတ်စွာဘုရားကို။ အဟံ၊ တပည့်တော်သည်။

ဝန္ဒေ-ဝန္ဒာမိ၊ ရှိသေမြတ်နိုး ရှိခိုးပါ၏။ တေန၊ ထိုသို့ ရှိခိုးရသော ကောင်းမှုကြောင့်၊ အတုလ ရူပဝ၊ အတုမရှိသော အဆင်းနှင့် ပြည့်စုံသည်။ အမှို၊ ဖြစ်ရပါလို၏-ဘုရား။

ဉာဏ ဉာဏ ဝိလာသဂ္ဂ၊ ဉာဏစိန္တေယျ သံယုတ္တံ။
ဝန္ဒေ သာရဂုဏောပေတံ၊ တေနမှာ တုလဉာဏဝါ။

ဉာဏ ဉာဏ ဝိလာသဂ္ဂ ဉာဏစိန္တေယျ သံယုတ္တံ၊ ပကတိသော ဉာဏ်, အလွန်တင့်တယ်သော ဉာဏ်, မြတ်သော ဉာဏ်, မကြံစည်နိုင်သော ဉာဏ်နှင့် ပြည့်စုံတော်မူသော။ သာရဂုဏောပေတံ၊ ကျေးဇူးတော်နှစ်, ဂုဏ်တော်စစ်နှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရားကို။ အဟံ၊ တပည့်တော်သည်။ ဝန္ဒေ- ဝန္ဒာမိ၊ ရှိသေမြတ်နိုး ရှိခိုးပါ၏။ တေန၊ ထိုသို့ ရှိခိုးရသော ကောင်းမှုကြောင့်။ အတုလဉာဏဝါ၊ အတုမရှိသော ဉာဏ်နှင့် ပြည့်စုံသည်။ အမှို၊ ဖြစ်ရပါလို၏-ဘုရား။

က္ကန္ဒိက္ကန္ဒိဝိလာသဂ္ဂ၊ က္ကန္ဒိအစိန္တေယျ သံယုတ္တံ။
ဝန္ဒေသာရ ဂုဏောပေတံ၊ တေနမှာ တုလက္ကန္ဒိမာ။

က္ကန္ဒိက္ကန္ဒိလာသဂ္ဂ က္ကန္ဒိအစိန္တေယျ သံယုတ္တံ၊ ပကတိသော တန်ခိုး, အလွန်တင့်တယ်သော တန်ခိုးနှင့် ပြည့်စုံတော်မူသော။ သာရဂုဏောပေတံ၊ ကျေးဇူးတော်နှစ်, ဂုဏ်တော်စစ်နှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရားကို။ အဟံ၊ တပည့်တော်သည်။

ဝန္ဒေ-ဝန္ဒာမိ၊ ရှိသေမြတ်နိုး ရှိခိုးပါ၏။ တေန၊ ထိုသို့ ရှိခိုးရသော ကောင်းမှုကြောင့်။ အတုလက္ကဒ္ဒိမာ၊ အတုမရှိသော တန်ခိုးနှင့် ပြည့်စုံသည်။ အမှို၊ ဖြစ်ရပါလို၏-ဘုရား။

* * * * *

## ၂၅။ ရှေးနှစ်ကျိပ်ရှစ်ဆူ ဘုရားရှိခိုးကြီး

၁။ နမော် တေ သဗ္ဗဗုဒ္ဓါနံ၊ ဥပ္ပန္နာနံ မဟေသိနံ။
တဏှင်္ကရော မဟာဝီရော၊ မေဓင်္ကရော မဟာယသော။
သရဏင်္ကရော လောကဟိတော၊ ဒီပင်္ကရော ဇုတိန္ဓရော။

၂။ ကောဏ္ဍညော ဇနပါမောက္ခော၊ မင်္ဂလော ပုရိသာသဘော၊
သုမနော သုမနောဓီရော၊ ရေဝတော ရတိဝဍ္ဎနော။

၃။ သောဘိတော ဂုဏသမ္ပန္နော၊ အနောမဒဿီ ဇနုတ္တမော၊
ပဒုမော လောကပဇ္ဇောတော၊ နာရဒေါ ဝရသာရထိ။

၄။ ပဒုမုတ္တရော သတ္တသာရော၊ မေဓော အပ္ပဋိပုဂ္ဂလော။
သုဇာတော သဗ္ဗလောကဂ္ဂေါ၊ ပိယဒဿီ နရာသဘော။

၅။ အတ္ထဒဿီ ကာရုဏိကော၊ ဓမ္မဒဿီ တမောနုဒေါ။
သိဒ္ဓတ္ထော စ သမော လောကေ၊ တိဿော စ ဒေဝတံဝရော။

၆။ ဖုဿော စ ဝရဒေါ ဗုဒ္ဓေါ၊ ဝိပဿီစ အနူပမော။
သိခီ သဗ္ဗဟိတော သတ္ထာ၊ သုဝေဿဘူ သုခဒါယကော။

၇။ ကကုသန္ဓော သတ္တဝါဟော၊
ကောဏာဂမနော် ဂဏာဥ္စယော။
ကဿပေါ သီရိသမ္ပန္နော၊
ဂေါတမ သကျပုင်္ဂဝေါ။

၁။ မဟာဝီရော၊ ကြီးမားလှ်လ ဝီရိယ ရှိတော်မူတော်မူသော။ တဏှင်္ကရော၊ တဏှင်္ကရာ၊ မည်ကာထင်ရှား မြတ်စွာဘုရား သည်လည်းကောင်း။ မဟာယသော၊ တပည့်ဒကာ များစွာ တန်တန် အခြံအရံ ရှိတော်မူသော။ မေဓင်္ကရော၊ မေဓင်္ကရာ မည်သော ထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း၊ လောက- ဟိတော၊ လောကအကျိုး သယ်ပိုး ရွက်ဆောင်တော်မူသော။ သရဏင်္ကရော၊ သရဏင်္ကရာ မည်သာထင်ရှား မြတ်စွာဘုရား သည်လည်းကောင်း။ ဇုတိန္ဓရော၊ ကိုယ်ရောင် ဉာဏ်ရောင် တောက်ပြောင်ဝင်းဝင်း အမှောင်ခွင်း၍ ထွန်းလင်းတော်မူသော။ ဒီပင်္ကရော၊ ဒီပင်္ကရာ မည်သာထင်ရှား မြတ်စွာဘုရားသည် လည်းကောင်း။ ဥပ္ပန္နော၊ ဇမ္ဗူတလ္ဝာ လူအများတွင် ထင်ရှား ပွင့်တော်မူခဲ့လေပြီ။

၂။ ဇနပါမောက္ခော၊ လူသုံးဦးတို့၏ အကြီးအမှူး ပဓာန နာယက ဖြစ်တော်မူသော။ ကောဏ္ဍညော စ၊ ကောဏ္ဍညဟု နာမထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း။ ပုရိသသဘော၊ ပရိသတ်တို့၏အလယ် တင့်တယ်မားမတ် ယောကျ်ားမြတ် ဖြစ်တော်မူသော။ မင်္ဂလော စ၊ မင်္ဂလာဟု နာမထင်ရှား မြတ်စွာ

ဘုရားသည် လည်းကောင်း။ သုမနော စ၊ ရန်သူမိတ်ဆွေ နှစ်ထွေမပြောင်း စိတ်နှလုံးကောင်း ရှိတော်မူသော။ မိရောစ၊ ကြီးကျယ် ခက်ခဲနက်နဲသော ဉာဏ်နှင့်လည်းပြည့်စုံတော်မူသော။ သုမနော စ၊ သုမနဟု နာမထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း၊ ရတိဝဍ္ဍနော၊ ဝေနေယျများစွာ သတ္တဝါတို့၏ နှလုံးသားကို တိုးပွားစေတတ်သော။ ရေဝတော စ၊ ရေဝတဟု နာမထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း ဥပ္ပန္နော၊ ဇမ္ဗူတလွှား လူအများတွင် ထင်ရှားပွင့်တော်မူခဲ့လေပြီ။

၃။ ဂုဏာသမ္ပန္နော၊ အရဟံစသား ဂုဏ်တော်များနှင့် ထင်ရှားကုံလုံ ပြည့်စုံတော်မူသော။ သောဘိတော စ၊ သောဘိတဟု နာမထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း။ ဇနုတ္တမော၊ လူသုံးဦးတို့ထက် လွန်မြတ်ဘုန်းဟုန် အုပ်စိုးခြုံလျက် များစွာသောဂုဏ်နှင့် ပြည့်စုံသောမူသော။ အနောမဒဿီ၊ အနောမဒဿီ အမည်ထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း။ လောကပဇ္ဇောတော၊ လောကသုံးရပ် နှံ့စပ်ဝင်းပြောင်အလင်းရောင် ပေးတော်မူတတ်သော။ ပဒုမော စ၊ ပဒုမဟု နာမထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း။ ဝရသာရထိ၊ သတ္တဝါအများ သောင်းထိုက်သားတို့ကို ရထားမှူးအသွင် ကယ်တင်တော်မူသော။ နာရဒေါ စ၊ နာရဒဟု နာမထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း။ ဥပ္ပန္နော၊ ဇမ္ဗူတလွှား လူအများတွင် ထင်ရှားပွင့်တော်မူခဲ့လေပြီ။

၄။ သတ္ထုသာရော၊ လောကုတ် လောကီ နှစ်လီအရာ ထရာပြုလုပ် စိုးအုပ်သလူ လူလူတကာတို့ထက် မြတ်တော်မူသော။ ပဒုမုတ္တရောစ၊ ပဒုမုတ္တရ နာမထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း၊ အပ္ပဋိပုဂ္ဂလော၊ ပြိုင်ဘက်မပြု ခပ်သိမ်းသူ တို့ထက် မြတ်တော်မူသော။ သုမေဓောစ၊ သုမေဓဟု နာမထင်ရှား မြတ်စွာဘုရားသည် လည်းကောင်း။ သဗ္ဗလော ကဂ္ဂေါ၊ သတ္တ, သင်္ခါရ, ဩကာသဟု လောကသုံးရပ် ဘုံသုံးထပ်တို့ထက် မြတ်တော်မူသော။ သုဇာတောစ၊ သုဇာတဟု နာမထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း။ နရာသဘော၊ ဗြဟ္မာ, နတ်, လူ ခပ်သိမ်းတို့ထက် အထက်လွန်ကျူး အထူး မြတ်တော်မူသော။ ပိယဒဿီ စ၊ ပိယဒဿီ အမည်ထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း။ ဥပ္ပန္နော၊ ဇမ္ဗူတလွှား လူအများတွင် ထင်ရှားပွင့်တော်မူခဲ့လေပြီ။

၅။ ကာရုဏိကော၊ သတ္တဝါအများတို့ကို သားနှင့်အတူ သနားတော် မူတတ်သော။ အတ္ထဒဿီစ၊ အတ္ထဒဿီအမည် ထင်ရှားမြတ်စွာဘုရားသည်လည်းကောင်း။ တမောနုဒေါ၊ ကိုယ်တွင်ကိန်းဝပ် လေးရပ်ပိတ်အနှောင် အမိုက်မှောင်ကို ပယ်ဖျောက်တော်မူသော။ ဓမ္မဒဿီစ၊ ဓမ္မဒဿီ အမည်ထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း။ လောကော၊ လောက၌။ အသမော၊ ဗြဟ္မာ,နတ်, လူ တူသူမရှိ မိမိတို့ ဘုရားချင်းသာ တူတော်မူသော။ သိဒ္ဓတ္ထောစ၊ သိဒ္ဓတ္ထဟု နာမထင်ရှား မြတ်စွာ

ဘုရားသည် လည်းကောင်း။ ဒေတံဝရော၊ ဗြဟ္မာ,နတ်, လူ မြာသူတို့တွင် အမြတ်ဆုံးဘုရင် ဖြစ်တော်မူသော။ တိဿော စ၊ တိဿထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း။ ဥပ္ပန္နော၊ ဇမ္ဗူတလွှား လူအများတွင် ထင်ရှားပွင့်တော်မူခဲ့လေပြီ။

၆။ ဝရဒေါ၊ နိဗ္ဗာန်ရောက်ကြောင်း အကျင့်ကောင်း တရားကို ပေးသနားတော်မူသော။ ဖုဿော စ၊ ဖုဿထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း။ အနုပမော၊ နှိုင်းယှဉ်စရာ ဖြစ်တော်မူသော။ ဝိပဿိ ဗုဒ္ဓေါ စ၊ ဝိပဿီဟု အမည်ထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း။ သဗ္ဗဟိတော စ၊ ခပ်သိမ်း များစွာ သတ္တဝါတို့၏ ချမ်းသာကိုလည်း ဆောင်တော်မူတတ်သော။ သတ္ထာ စ၊ ဗြဟ္မာ, နတ်, လူ ခပ်သိမ်းသူတို့၏ ဆရာ တစ်ဆူလည်း ဖြစ်တော်မူသော။ သိခီ စ၊ သိခီထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း။ သုခဒါယကော၊ သတ္တဝါ တို့၏ ချမ်းသာစီးပွားကို ပေးသနားတော်မူသော။ ဝေဿဘူ စ၊ ဝေဿဘူဟု နာမထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း။ ဥပ္ပန္နော၊ ဇမ္ဗူတစ်လွှား လူအများတွင် ထင်ရှားပွင့်တော်မူခဲ့ လေပြီ။

၇။ သတ္တဝါဟော၊ သုံးဦးတို့၏ လှည်းမှုအသွင် လမ်းစဉ် ကိုပြ ကယ်မတော်မူသော။ ကကုသန္ဓော၊ ကကုသန္ဓ နာမ ထင်ရှား မြတ်စွာဘုရားသည်လည်းကောင်း။ ဂုဏာဥ္ဃယော၊ ညှိရွှေ့ညှိမှု ဂဏန်းချ၍ မှန်းဆမကုန် အနန္တဂုဏ်နှင့် ပြည့်စုံ

တော်မူသော။ ကောဏာဂမနော၀၊ ကောဏာဂမန နာမယင်ရှား မြတ်စွာဘုရားသည် လည်းကောင်း။ သီရိသမ္ဗန္ဓော၊ ဘုန်းကျက် သရေ အထွေထွေဖြင့် လိုလေမရှိ အကုန်ပြည့်စုံတော်မူသော။ ကဿပေါ၀၊ ကဿပဟု နာမထင်ရှား မြတ်စွာဘုရားသည် လည်းကောင်း။ သကျပုင်္ဂဝေါ၊ လောကသနင်း မင်းတို့ထွတ်ဖျား သာကီဝင်မင်းသားတို့၏ ရှေ့သွားအစစ် ဖြစ်တော်မူသော။ ဂေါတမော၀၊ ဂေါတမဟု နာမထင်ရှား မြတ်စွာဘုရားသည် လည်းကောင်း။ ဥပ္ပန္နော၊ ဇမ္ဗူတစ်လွှား လူအများတွင် ထင်ရှား ပွင့်တော်မူခဲ့လေပြီ။

ဥပ္ပန္နာနံ။ အသီးသီး အဖြာဖြာ ကမ္ဘာ့ကမ္ဘာ၌ ပွင့်တော်မူ ကြကုန်သော။ မဟေသိနံ၊ သီလက္ခန္ဓစသည် ကျေးဇူးဂုဏ် အထူးကို ဆည်းပူးရှာမှီးတော်မူကြကုန်သော။ သဗ္ဗဗုဒ္ဓါနံ၊ သစ္စာ လေးတန် တရားမှန်ကို ဧကန်သိပြား အလုံးစုံသော ဘုရားရှင် တို့အား။ မမ၊ သူ, ငါ, တစ်ပါး, ယောကျ်ား, မိန်းမ စသည်စွဲမှတ် ခေါ်ပညတ်ကို ပရမတ်အမှန် စိစစ်ပြန်လျှင် ရုပ်နာမ်ဖြစ်ချုပ် အကျွန်ုပ်၏။ နမော၊ ရိုသေမြတ်နိုး လက်စုံမိုး၍ ရှိခိုးခြင်းသည်။ အတ္ထု၊ စင်စစ် မသွေဖြစ်ပါစေသတည်း။

မှာထားချက်။ ။ နံပါတ် (၁) ဂါထာတွင် သူတစ်ပါးအတွက် ရှိခိုးစေလျှင် နမော တေ သဗ္ဗဗုဒ္ဓါနံ ဟု ပြင်၍ ရွတ် ဆိုပါ။ ကိုယ်တိုင်ရှိခိုးလျှင် နမော မေ သဗ္ဗဗုဒ္ဓါနံ-ဟု ပြင် ရွတ်ဆိုပါ။ အနက်မှာလည်း သူတစ်ပါးဖြစ်လျှင် မေ၊ အကျွန်ုပ်အစား တေ၊ သင် ဟု ပြင်ဖတ်ပါ။

## ၂၆။ ဓမ္မသံဝေဂ လင်္ကာများ

ကမ္ဘာလောကကြီးအတွင်းမှာ ဗုဒ္ဓဘာသာဝင် သူတော်စင်တို့၏ နောက်ဆုံး သက်ဝင်ယုံကြည်သော ပန်းတိုင်သည် ခန္ဓာ, အာယတန, ဓာတ်တို့၏ မပြတ်ရာ သံသရာ ဇာတ်သိမ်း၍ ခပ်သိမ်းသော ရုပ်နာမ်တို့၏ ချုပ်ရာ ငြိမ်းရာ ပြတ်ရာအစစ် နိဗ္ဗာန်ဖြစ်သည်ကို သိရှိနားလည်ထားဖို့ သင့်လေသည်။

ထိုနိဗ္ဗာန်တည်းဟူသော ပန်းတိုင်သို့ လှမ်းကိုင်ချီတက်ရန်အလုပ်မှာ အချုပ်အားဖြင့် သီလ, သမာဓိ, ပညာ, သိက္ခာသုံးပါးသာ ဖြစ်လေသည်။ ထိုသိက္ခာသုံးပါးကို အချိုးအစားကျနစွာ လုပ်ကိုင်တတ်မှသာလျှင် ရည်သန်သော ပန်းတိုင်သို့ ရောက်နိုင်ကြပေလိမ့်မည်။

နည်းလမ်းမကျ၊ ကမောက်ကမ၊ သူပြော၊ ငါပြော၊ ယောင်ရော၍ လုပ်ကိုင် ပြောဆို နေကြလျှင် ပြဆိုအပ်သော နိဗ္ဗာန်ပန်းတိုင်သို့ ရောက်နိုင်ရန် မလွယ်ကူချေ။

ပုထုဇဉ်ပုဂ္ဂိုလ်တို့၏ သန္တာန်မှာ နိဗ္ဗာန်ရောက်ရန်အတွက် အနှောက်အယှက် ဖြစ်ကြသော လောဘ၊ ဒေါသ၊

မောဟ၊ မာန၊ ဒိဋ္ဌိ၊ အစရှိသော အယုတ်တရားတို့သည် မသုတ် မနား တဖွားဖွားဖြစ်လျှက် ရှိကြပေသည်။ ထိုတရားတို့သည်

(၁) လွန်ကျူးခြင်း ဝီတိက္ကမ။
(၂) ထကြွခြင်း ပရိယုဋ္ဌာန။
(၃) ကိန်းအောင်းခြင်း အနုသယအားဖြင့် ခွဲခြားမည် ဆိုလျှင် အဆ သုံးဆင့် ရှိလေသည်။

ထိုသုံးဆင့်သော ကိလေသာ အနှောက်အယှက်တို့ကို ဖျောက်ဖျက် နှိမ်နှင်းရာ၌ သူ့အဆင့်နှင့်သူ သူ့လက်နက် အချက်ကျကျ နှိမ်နှင်းမှသာလျှင် လိုရာပန်းတိုင်သို့ ရောက်နိုင် ကြမည် ဖြစ်ပေသည်။

ဥပမာအားဖြင့် ဆိုရလျှင် သစ်ပင်တစ်ပင်ကို မျိုးပြုတ် အောင် ထိုးခုတ် ဖျတ်ဆီးမည်ဆိုလျှင် ပထမ အကိုင်းအခက် တို့ကို သုတ်သင်၍၊ ဒုတိယ အရင်းကလှဲပြီး၊ တတိယ အမြစ်ပါ နုတ်ပစ်ရသကဲ့သို့ ဖြစ်ပေသည်၊

ထိုနည်းတူစွာ ပထမ ဝီတိက္ကမ အဆင့်ကို သီလလက် နက်ဖြင့် ဖြိုဖျက်၍ ဒုတိယ ပရိယုဋ္ဌာန အဆင့်ကို သမာဓိ လက်နက်ဖြင့် ဖြိုဖျက်ပြီး၊ တတိယ အနုသယအဆင့်ကို ဝိပဿ- နာ ပညာလက်နက်ဖြင့် အချက်ကျကျ ဖြိုဖျက်ရပေမည်။

သို့မှသာ ကိလေသာ အမြစ်ပြတ်၍ လိုအပ်သော နိဗ္ဗာန် ခတ်ကို ဆိုက်ကပ်နိုင်ပေမည်။ သို့မဟုတ်ဘဲ လူကဲ့ရဲ့ လွတ်ရုံ၊

မိရိုးဖလာ အစဉ်အလာ မပျက်ရုံ၊ ဂုဏ်ပကာသန မက်ရုံလောက်သာ စိတ်ကရောက်၍ ဒါန၊ သီလ၊ ဘာဝနာမှုကို ပြုနေကြရမည်ဆိုပါက လိုအပ်သော ပန်းတိုင်သို့ မရောက်ဘဲ သံသရာထဲတဝဲလည်လည် ကျင်လည်နေကြရပေမည်။

သို့အတွက် ဘေးကယ် သံသရာဝဋ်ကြီးကို မုန်းတီးပြီး သံသရာဝဋ်မှ ကျွတ်လိုသော ဆန္ဒဖြစ်ကြစေရန် ရည်သန်ရိုးရင်း နှလုံးသွင်းဖြင့် ရှေးရှေးသော နိုင်ငံကျော် ဆရာတော်ကြီးများ ရေးသားခဲ့ကြသည့် သံဝေဂ လင်္ကာများကို အသုဘာလိုက်ပို့ရာ၌လည်းကောင်း၊ ကမ္မဋ္ဌာန်းစီးဖြန်းရာ၌လည်းကောင်း တစ်ယောက်တည်း လဲလျောင်းပြီး နေရာ၌လည်းကောင်း သံဝေဂယူကြရန် ရည်သန်၍ ထည့်သွင်းဖော်ပြလိုက်ပါသည်။

မြတ်စွာဘုရား လက်ထက်တော်အခါကလည်း ဓမ္မသံဝေဂကို ရွတ်ဆို၍လည်းကောင်း၊ ရွတ်ဆိုသံကြားရ၍လည်းကောင်း၊ တရားမမြရကြသော ပုဂ္ဂိုလ်များ အများအပြားရှိကြောင်း ကျမ်းဂန်တို့၌ တွေ့ရှိရပါသဖြင့် အရကျက်ထား၍ ရွတ်ပွား သရဇ္ဈာယ်ကြပါရန် တောင်းပန် တိုက်တွန်းအပ်ပါသတည်း။

# ထွတ်ခေါင်ဆရာတော်၏ သံဝေဂကဗျာများမှ ထုတ်နုတ်ချက်

၁။ ဒါန, သီလ၊ ဘာဝနာ၊ နှင်သာပြုသင့်သည်။
၂။ ဗျာဓိ, ဇရာ၊ မရဏာ၊ မကြာ နှင်တွေ့မည်။
၃။ ဘယ်နှစ်, ဘယ်လ၊ ရောက်ပါမှ၊ ကာလမရွေးပြီ။
၄။ ကြီးငယ်မဟူ၊ ကိုယ့်ရွယ်တူ၊ ခုမှသေလှုပြီ။
၅။ ဤသည်မယား၊ ဤသည်သား၊ မီးပွားမှန်တော့သည်။
၆။ ဒုက္ခထွေထွေ၊ တပေပေ၊ ခံနေရလေပြီ။
၇။ နိဗ္ဗာန်သာခေါင်၊ ဘေးမဲ့သောင်၊ ရောက်အောင် ပြုသင့်ပြီ။
၈။ တဏှာ၏နောက်၊ တကောက်ကောက်၊ လိုက်ထောက် မသင့်ပြီ။
၉။ ဂတိငါးပါး၊ ဆံုလည်နွား၊ သွား၍မဆုံးပြီ။
၁၀။ လောကမျက်နှာ၊ သဗ္ဗညု၊ ယခုရှိ၏မင်း။
၁၁။ ဘုရားဖြစ်ခါ၊ သာသနာ၊ ရောင်ဝါတဝင်းဝင်း။
၁၂။ နိယျာနိက၊ မြတ်ဓမ္မ၊ ကြာရခဲ၏မင်း။
၁၃။ လူဖြစ်ကျိုးမျှ၊ မစံရ၊ ရှုံးလှလေ၏မင်း။
၁၄။ သီလမုတင်၊ ဆောက်တည်လျှင်၊ သည်တွင်အစမင်း။
၁၅။ သမာဓိက၊ အလယ်ကျ၊ မှတ်ရန်လုံးသွင်း။
၁၆ ဝိပဿနာ ဉာဏ်ပညာ၊ ရှုကာဆုံကြမင်း။

၁၇။ အနိစ္စကောင်, ဒုက္ခကောင်, အနတ္တကောင်, အသုဘကောင် ထင်အောင်နှလုံးသွင်း။

၁၈။ အနိစ္စတုံး, ဒုက္ခတုံး, အနတ္တတုံး, အသုဘတုံး လုံးလုံးမှတ်ကြမင်း။

၁၉။ ဤသို့ထင်မှ မဂ်လမ်းစ ရမည်မှန်စင်းစင်း။

၂၀။ မဂ္ဂင်ဖောင်ကြီး တက်၍စီးမှ ပြည်ကြီးအမတ် နိဗ္ဗာန်ရောဝ ရမည်မှတ်ကြမင်း။

* * * * *

## အပ္ပမာဒ-သံဝေဂလင်္ကာ

ရှုပ်နှာမ်ဓမ္မ သင်္ခါရတို့
ကိုယ်က ဤပုံ ဖြစ်လိုတုံလည်း
တဖုံဆင်ကွဲ သူတနဲဖြင့်
ဖောက်လွဲတတ်စွာ ဓမ္မတာကို
ပညာစက္ခု မျှော်ထောက်ရှု၍
ယခုပင်လျှင် မအိုခင်က
ကြိုးပမ်းကောင်းမှု ကြိုးစားပြုလော့
ယခုပင်လျှင် မသေခင်က
ကြိုတင်ကောင်းမှု ကြိုးစားပြုလော့
ရတုချိန်ထောက် သေချိန်ရောက်မှ
ချုပ်ပျောက်ခန္ဓာ သေအံ့ငှာဟု
မရဏာခွင်း ရှင်သေမင်းနှင့်
မိတ်သင်းဖွဲ့ကာ ချိန်းချက်ကာဖြင့်
သေချာရက်က မရှိကြဘူး
အပ္ပမာဒ နှလုံးဆ၍
ဗုဒ္ဓစကား လိုက်နာပွားသည်
တရားလက်မလွှတ်ပါစေနှင့်။ ။

* * * * *

# လယ်တီဆရာတော်ဘုရားကြီး၏
# သံဝေဂတရား

ဆိုပိမ့်မည်သော စေ့စေ့နာလော့
ဂင်္ဂါသဲမျှ ပွင့်ကုန်ကြသား
ဘုရားသာသနာ ခေတ်အခါဝယ်
လူ့ရွာနတ်၌ နင်ကြုံကြိုက်လည်း
အမှိုက်မခြွေ အလိုက်နေ၍
အခြေမကြီး အချည်းနှီးလျှင်
ယီးတီးယောင်တောင် ခုတိုင်အောင်တည်
သန်းကောင်လကွယ် တောအုပ်လယ်၌
ရှစ်နယ်ပယ်လုံး အပြည့်ဖုံးသည့်
မိုးလုံးတိမ်တိုက် လျှပ်မကြိုက်သား
အမိုက်အပြား အင်းလေးပါးထက်
နင်ကားရာထောင် မကမှောင်၏။
လူ့ဘောင်လူ့ရွာ သာသနာ၌
ကြမ္မာတော်၍ ယခုတွေ့လည်း
အလေ့ မလွဲ အများနဲလျှင်
မိုက်မြဲနှင်နှင် မိုက်စရွှင်၏။
မျက်မြင်လောက ဤဘဝကား

ဒုက္ခစင်းစင်း ချမ်းသာကင်း၏။
သေမင်းအစာ နှင့်ခန္ဓာကို
တဏှာဘီလူး အမှောင်ပူး၍
အရှုးပြင်ပြင် နှင့်ကိုထင်၏။
နင်နှင့်မဆိုင် နင်ပိုင်မဟုတ်။
နင့်ရုပ်နင့်နာမ် နင့်သဏ္ဌာန်ကို
နင့်ဉာဏ်မစူး အပေါ်ဖြူး၍
မှုးမှုးမေ့မေ့ အများလေ့ဖြင့်
နေ့ရက်အပုံ လွန်ခဲ့တုံပြီ
အာရုံဝတ္ထု မီးစာစုကို
မှုမှုရရ နင်အားကျလည်း
ဒမြသေမင်း သူတပ်နင်းက
မငြင်းဆန်သာ နင့်ခန္ဓာသည်
ပြာပုံအပြီ ဖြစ်လုနီးပြီ
ယိုတီးယားတား သေ၍သွားလည်း
တရားမကြွယ် အထုပ်ငယ်လျက်
အပါယ်စခန်း သွားမြဲလမ်း၌
တပန်းဟိုက်ဟိုက် တရှိုက်ငင်ငင်
တညင်ညိုညို ဆင်းရဲပိုလျက်
ထိုထိုဘဝ အနန္တလျှင်
အစမဆုံး အများထုံးတည့်
အနှုန်းမပျက် ဒေဝက်နရက်ဝယ်

တသက်နွယ်နွယ် အမြစ်တွယ်သို့
အပါယ်ထိုထို ဥဒဟိုသည်
နင်လိုလူမိုက်သွားလမ်းတည်း။ ။

* * * * *

## မြဝတီဆရာတော်ဘုရားကြီး၏
## သံဝေဂလင်္ကာ

စေ့စေ့တွေးရန် အကြောင်းပြန်အံ့
ဉာဏ်ဖြင့်အောက်ထက် စာနာတွက်လျှင်
နင့်သက်နင့်အိမ် နင့်စည်းစိမ်ကား
မိုးတိမ်လျှပ်နွယ် ပုံ့သောကြွယ်နှင့်
ကြာနှယ်ရေခြောက် သေမီးတောက်သို့
ပျောက်ပျက်လွယ်စွာ နင့်ခန္ဓာကြောင့်
နင့်ဟာ နင့်အိမ် နင့်စည်းစိမ်နှင့်
နင့်စိန် နင့်ရွှေ နင့်ငွေ နင့်လယ်
နင့်ဝယ်ကျွန်နွား နင့်စပါးနှင့်
နင့်သားသမီး အထင်ကြီးလျှက်
ပျက်စီးမည့်ရန် နင်မကြံဘဲ
မြဲမြံခိုင်တုံ့ သေရအံ့သို့

မဆုံ့ကျိုကြ ပေါ်များလှလည်း
မရအားပါး ဥစ္စာပွားအောင်
များလေလိုလေ နင့်စိတ်နေလည်း
သေသည့်ကာလ ပစ်ခဲ့ရ၍
ပြိတ္တာဘုံခွင် နင့်ကိုင်၍
ရှင်သည့်ကာလ ဤဘဝမှာ
ဒုက္ခရန်ဘေး များအောင်မွေးသို့
မပေးစွန့်ရက် ညောင်ပင်ထက်ဝယ်
ငှက်မယ်ယှုတူ မစွေကူလည်း
အောက်မူငရဲ နင့်ကိုဆွဲလိမ့်
စွန့်ကြဲနိုင်မှု ချမ်းသာဟူသား
နတ်လူနိဗ္ဗာန် ဧကန်မလွဲ
နင်ရမြဲဟု ဆင်းရဲငြိမ်းချမ်း
ဤနှစ်လမ်းကို ခွဲခြမ်းအဟုတ်
နင့်ဉာဏ်ထုတ်လော့ နင့်ရုပ်နင့်နာမ်
ပျက်မည့်ဟန်ကို နက်ဖြန်သန်ဘက်
သိမြင်ခက်၍ ကွေးလက်မဆန့်
ခဏခန့်တွင် ပစ်စွန့်နှစ်ပါး
ကံကတ္တားက ပွားအောင်မခံ
အမိန့်ကို ထရံနယ်ဘက်
ဖောက်၍ထွက်သည့် ရက်စက်စိမ်းကား
မြွေပွေးသားသို့ တခြားဥစ္စာ

မတတ်ပါလည်း နင့်ခန္ဓာပဲ
နင့်စိတ်စွဲ၍ ငရဲတိရိစ်
ပြိတ္တာဘုံတွင် နင်လျှင်မကြာ
ရောက်တတ်စွာသည်
နင်ဟာ လွတ်အောင်ရှောင်လေတည်း။

* * * * *

## ၂၉။ ရှေးသံဝေဂ လင်္ကာကြီးများ

ဇာတိနိမိတ် လောဘစိတ်နှင့်
ပဋိသန္ဓေ တည်နေကာလ
ရက်သတ္တာက စ၍လီလီ
ဝမ်းဝယ်မှီသော် မပီမသ
သွေးသားကျ၍ ခက်မငါးဖြာ
ဦးခေါင်းရာနှင့် လေးဖြာခြေလက်
အဖုထွက်၍ နေ့ရက်လကုန်
အင်္ဂါစုံ၍ အုတုံအရင်း
သွားအိမ်တွင်းဝယ် နင်းကာပြည့်လျက်
၁၀ ဝယ်နှက်သို့ အသက်လိုင်လိုင်

မရှုနိုင်ဘဲ ထိုင်ကာကျုံ့ကျုံ့
ဦးခေါင်းငုံ၍ ပုံ့ပုံ့ကွေးကွေး
ညှစ်အကြေးနှင့် ရောထွေးဖက်စပ်
အချင်းကပ်၍ အစပ်ဟူဟူ
ရသာပူကြောင့် လူဖြစ်ဖို့အရေး
အလွန်လေး၏ အသွေးအသား
နုထွားထွားလည်း ဆားနှင့်ရောကာ
ချဉ်ငန်ပါက ပြင်းစွာကျိန်းစပ်
သံပူကပ်သို့ ဆက်ဆက်တုန်နာ
ဆင်းရဲစွာနှင့် မာတာအမိ
ပက်လက်ဖိသော် ကသိကအောက်
ပြား၍မှောက်၏ ရှေနောက်ဝဲယာ
ကုန်းကွပါလည်း ကြွင်နာရွံ့စိုး
ဖိ၍မျိုးသို့ ခွေကျိုးမခိုင်
မအော်နိုင်ဘဲ သည်းစိုင်ပျက်ကြွေ
စိစိကြေသို့ ခံနေရရ
ဘဝဝတိုင်း ဂဗ္ဘသေယျေ
ဤသန္ဓေသည် သချေ်များစွာ
သံသရာ၌ သူငါမဆုံး
နေရဦးအံ့ လုံးလုံးမကျွတ်
လူ့နယ်ဝင်ရ မလွတ်သာချေ
ဇာတိတွေကြောင့် ဘဝေဘဝ

ဖြစ်ပျက်ကြ၍ ဘာမျှမမြဲ
လွန်ဆင်းရဲသည် ရှောင်လွဲမရချေတကား
ပဋိသန္ဓေ တည်နေရှေ့ရှေ့
ဖွားချိန်စေ့သော် ပြောင်း၍လေဓာတ်
ဝါယောခတ်၍ ရဟတ်စကြာ
သွက်သွက်ခါသို့ ချာချစ်ရစ်ခေါက်
ကျွမ်းထိုးမှောက်သော် အောက်ယူဇနာ
ချောက်ကြီးစွာ၌ ကိုင်ကာထိုးချ
ပမာဏသို့ ဒုက္ခပြင်းစွာ
ဖွားပြန်လာသော် ထိုကာလ
ကြောင်းခြင်းတကို မှတ်ဟထုတ်ကာ
မပြောသာဘဲ နေဝါရောင်ယှက်
ချမ်းပူဖက်၍ ပရွက်ခြပိုး
ခြင်မှတ်ထိုးသည် ဝိုးတိုးဝါးတား
မိမယ်အားကို စကားသံချို
ဘယ်၍ကိုယ်ဟု မဆိုနိုင်ဘဲ
တအဲအဲနှင့် သဲသဲအော်ကာ
ငိုရှုံသာတည့် ပူဆာပါလ
ဝမ်းခေါင်းလျှ၌ အာဟာရငှာ
မွတ်သိပ်ရှာလည်း မာတာမိခင်
ကျေးဇူးရှင်အား သိမြင်စေကြောင်း
ချို.ကာင်းကို မတောင်းတက်ရှာ

လူးလွန့်ကာဖြင့် နေ့ကြာရက်လ
ထိုင်ကာထလျက် ရွရွတွားတွား
လေးဘက်သွား၍ စကားပီသ
ရောက်ပြန်ကလည်း အနိစ္စလက္ခဏာ
ဓမ္မတာကြောင့် ငယ်စွာပုပု
နုနုသေးသေး ဤကလေးကို
ကျွေးမွေးစိမ့်ငှာ ဆိုင်းလင့်ပါဟု
မာတာပိတ မိဘနှစ်ပါး
ဆွေမျိုးများပါ တောင်းပန်ပါလည်း
တားကာမရ စာရင်းကျသည်
ပုပုရွရွမို့ မနေကြရပါတကား။

ဒုဗ္ဗလရှယ် အားအင်ငယ်သော်
ကိုယ်ဝယ်မခို့ ဇရာဖိလျှင်
ဗျာဒိမရဏာ နှိပ်စက်ကြ၍
ရသခြောက်ပါး လျှန်ပျက်ပြား၏
သွားကျိုးဆံဖြူ နားပါအူလျက်
တိုင်းဆူဝေဝေ သားအရေလည်း
မပြေမပြစ် တွန့်လိမ်ဖြစ်၍
ရိုးဆစ်ငေါငေါ ရှူးပေါ်ပေါ်နှင့်
အကြောပြိုင်းပြိုင်း နံပါကိုင်းလျက်

နှားထိုင်းတဖြာ နေထိုင်ရာတွင်
အစဉ်မထိုင်း ထင်တိုင်းမညီ
မျက်စိသီလျက် မပီမသ
ခံတွင်းမှလည်း စီးကျတံတွေး
ညစ်အကြေးကို မဆေးသုတ်နိုင်
စိတ်မခိုင်ဘဲ အထိုင်အထ
အကြွအစောင်း ဘယ်ညာပြောင်းလဲ
ယောင်းယောင်းတုန်တုန် သွားလာတုံလည်း
စုံစုံစိစိ လမ်းမသိဘဲ
သတိမရ မေ့တတ်လှ၏။
ဓမ္မကထာ ဘာဝနာကို
ဆိုကာတွက်တွက် သဒ္ဓါညွှတ်၍
ဖတ်ရွတ်ချင်ချင် စိတ်ကထင်လည်း
ဘယ်တွင်အစ ဘယ်မှာချဟု
ရှုရှုပိုင်ပိုင် မဆိုနိုင်ခဲ့။
ကိုယ်တိုင်ညွှတ်တွား ကျောင်းဘုရားကို
သွားအံ့အရောက် တောင်ဝှေးထောက်၍
စိတ်နောက်ကိုယ်ပါ ကြိုးစားရှာလည်း
များစွာဝန်လေး ကြာလျှင်ငေးလျက်
အပြေးလိုက်ချင် လျှင်မြန်ချင်လည်း
ငယ်စဉ်ကလို ရုပ်မပျို၍

အိုအိုမင်းမင်း ဘယ်အခင်းမှ
စာရင်းမဝင် ရာမဝင်ဘဲ
ကိုယ်တွင်ပေါက်ဖွား သမီးသားကို
ခြားနားအောင်ပ မည်နာမလည်း
ခေါ်ကအလွဲ အထင်ကွဲ၏။
ဆင်းရဲလှစွာ သံသရာဝယ်
ဇရာဘဝ အရွယ်ကျတိုင်း
ဒုက္ခဖိစီး သေချိန်နီးက
ရင့်သီးထိုထို ခန္ဓာကိုယ်သည်
အလို-အိုရချေသေး၏ တကား။
မရဏာကာလ သေချိန်ကျ၍
သေရသောအခါ ဝိညာဉ်ခွာသော်
ဤခန္ဓာရုပ် အကောင်ပုပ်ကား
စက်ဆုပ်ကုန်ကြ ရွံပါလှ၍
ခဏမကြာ လာလှည့်ပါဟု
အသပြာငွေကြေး ပုံ၍ပေးလည်း
တံတွေးကိုမျှ မျိုမကျ၍
နေ့ညအမြဲ လာချင်ခဲ၏။
မဲမဲကွက်ကွက် မျက်တွင်းနက်လျက်
သုံးရက်မျှသာ ကာလကြာသော်
ကိုယ်မှာပွပွ ကိုင်းကာကြွလျက်
မုခံတွင်း အရေဆင်း၍

မချဉ်းဝံ့အောင် ပုပ်နံ့ဟောင်၏။
လူကောင်တုံးလုံး ယင်ရုံးရုံးနှင့်
အသုံးမကျ ဖိုးမရသည့်
ရှေးကမေတ္တာ ချစ်လှပါ၍
သူငါအစ ပွေ့ချီမ,လျက်
ကိုင်ကြစေချင် အလောင်းစင်ကို
တင်ရုံတမို့ ခေါ်လျှင်တုံ့၏။
ရှုံ့ရှုံ့မဲ့မဲ့ နောက်သို့ လှည့်၍
တကယ်ကိုပင် ပျို့ အပ်ချင်၏။
ထို့ပြင်တရက် မြေမသက်ဘဲ
ပက်လက်သိပ်ကာ တဆိတ်ကြာသော်
ရွှံစရာပွ ယိုကာကျလျက်
ရွရွတွားတွား ရက်ရှည်ထားက
ဖွားဖွားဖေါက်ဖေါက် ထုတ်ချင်းပေါက်အောင်
ပိုးလောက်ဖြူးဖြူး ကိုယ်လုံးမြူး၍
စူးစူးဝါးဝါး ကုန်အောင်စားပြီး
အသားမံသ ရှာမရအောင်
အရိုးပေါ်လျက် နံ့စောညီညီ
ရိုးတွင်းဆီရောက် စို့နံ့ပေါက်၏။
ကြောက်လန့်စဖွယ် ဦးခွံငယ်လည်း
နက်ကျယ်ဖောက်ထွင်း သွားဝင်းဝင်းနှင့်

မျက်တွင်းနေရာ ဟောင်းလောင်းဟာလျက်
ကျန်ကာရိုးစု သုံးမပြုသည်
ကိုယ်ဟု မခေါ်ရချေတကား။

(ဤတွင် သံဝေဂ-လင်္ကာများ ပြီးဆုံးပါတည်း။)

* * * * *

## ၂၈။ စာရေးသူ၏ အတ္တုပ္ပတ္တိ အကျဉ်း

ဤစာအုပ်ကို ဝယ်ယူကြည့်ရှုသူ စာဖတ်ပရိသတ်တို့အား အထူးလေးစား၍ ရေးသား တင်ပြလိုသည်မှာ နိုင်ငံကျော် ဆရာတော်ကြီးများ၏ 'ဝိပဿနာရှုနည်း ညွှန့်ပေါင်း' ကျမ်းသည် အသက်မွေးဝမ်းကျောင်း စီးပွားရေးတစ်ခု အကြောင်းပြု၍ ရေးသားထုတ်ဝေခြင်း မဟုတ်ပါ။ စာရေးသူ ကျွန်ုပ်ကိုယ်တိုင် ကျမ်းစာတွင် ပါဝင်သည့် ဆရာတော်ကြီးများ ရေးသားထားသော ကျမ်းစာများကို ဖတ်ရှု၍ ဟောကြားသော တရားတော်များကိုလည်း နာကြားပြီး ကိုယ်တိုင်တရားအားထုတ် တွေ့ကြုံ ခံစားရသည်များကို သူတစ်ပါးတို့အား သိကြား နားလည်စေ လိုသော ဆန္ဒကို ပဓာနပြု၍ ရေးသားထားခြင်း ဖြစ်ပါသည်။

သို့ဖြစ်၍ ပျားပိတုန်းသည် စားသုံးလိုသော ပန်းဝတ်ရည်ကို စုတ်ယူပြီး လိုရာဌာနသို့ ပျံကြသလို ယောဂီ သူတော်စင်အပေါင်းတို့သည်လည်း မိမိတို့နှင့် အဆင်သင့်ရာ ကမ္မဋ္ဌာန်းဆရာထံ နည်းခံ၍ အားထုတ်ကြရန် ပန်ကြားအပ်ပါသည်။

ကျွန်ုပ်စာရေးသူ၏ဖြစ်စဉ် အတ္ထုပ္ပတ္တိကို ရေးသားခဲ့ခြင်းမှာလည်း မိမိကိုယ်ကို ချီးမြှောက်လိုသော အတ္တုက္ကံသနသဘောဖြင့် ရေးသားခြင်း မဟုတ်ပါ။ မိမိ၏ ဆွေမျိုးညာတကာ မိတ်သင်္ဂဟ အပေါင်းနှင့်တကွ မိမိရင်နှစ် သားသမီး မြေးမြစ်များဖြစ်ကြသော ပုဂ္ဂိုလ်များနှင့် မိမိအား လိုလားကြသော ကလျာဏဓမ္မမိတ်ဆွေတို့အား ကောင်းရာညွှန်ကြား၍ မကောင်းတာမြစ်တားပြီး အစဉ်အဆက်များကို ပြခဲ့သောအနေဖြင့် သင်ခန်းစာယူရန် ရည်သန်၍ ရေးသားထားခဲ့ခြင်း ဖြစ်ပါသည်။

ကျွန်ုပ်၏ မျိုးရိုးဇာတိမှာ ရှေးအခါက ဒီပဲရင်းကိုးသန်းအပါအဝင် ယခုအခါ ရွှေဘိုခရိုင်၊ ရေဦးမြို့နယ်၊ ရေဦးမြို့နှင့် လေးမိုင်ကွာသော နန်းမတော် မိဖုရားခေါင်ကြီး မယ်နု၏ မိဘဘိုးဘွား ဖွားမြင်ရာ ဖလံခုံရွာ ဖြစ်ပါသည်။

ဖလံခုံရွာသည် လွန်ခဲ့သော ခုနှစ်သက္ကရာဇ် (၁၀၀၀) ပြည့်နှစ်က ဟံသာဝတီရောက် မင်းတရားကြီး လက်ထက်တွင် ကသည်းစစ်သည်ပေါင်း နှစ်သောင်းလောက် ချီတက်လာသဖြင့် မင်းမျိုးမင်းနွယ်၊ မိုးညှင်းမင်းတရားကြီး၏ အဆက်အနွယ်

ဖြစ်သော 'ဗလသမန်း' ဘွဲ့ရ ဦးမဲတူ ကြီးကဲအုပ်ချုပ်၍ တိုက်ခိုက်သဖြင့် အနိုင်ရသောကြောင့် အောင်မြေစိုက်ရာ ဒေသလည်း ဖြစ်ပါသည်။ သို့ဖြစ်၍ ဦးမဲတူအား ရွာအုပ်ကြီးခန့်အပ်၍ ရွာနာမည်မှာလည်း 'ဗလ သမန်းကုန်း' အမည်မှည့်ကာ ရွာတည်ရာမှ တဖြည်းဖြည်း ဖလံခုံရွာဟု တွင်လာခြင်းဖြစ်ပါသည်။ ထိုစဉ်က အိမ်ခြေပေါင်း (၇၀၀) လောက်ရှိ၍ ယခုအခါ (၃၅၀) လောက်သာ ရှိပါသည်။

ဖလံခုံအနီးအပါး မြင်းပေါက်၊ ကံပေါက်၊ နွှေကုန်း၊ ပန်းကုန်း၊ မဲအိုး စသော ရွာများရှိ လူအပေါင်းသည် ဗလသမန်း ဦးမဲတူ-ဇနီး ဒေါ်ညက်တို့မှ အစဉ်အဆက် ပေါက်ဖွားလာကြသော ဆွေမျိုးများပင် ဖြစ်ကြပါသည်။ အထူးအားဖြင့် သက္ကရာဇ် (၁၁၀၀) ခုနှစ်တွင် နန်းတက်သော ဖန်နန်းရှင် စစ်ကိုင်းမင်း၏ မိဖုရားခေါင်ကြီး မယ်နုသည် ဦးမဲတူ + ဒေါ်ညက်တို့၏ သမီးဖြစ်သော သခင်မန်နှင့် ခင်ပွန်းရွာအုပ်ကြီး ဦးကျင်၊ ၎င်းမှမွေးဖွားသော ထောင်သင်းမှူး ဦးလှုပ်၊ ဇနီး ဒေါ်ငယ်တို့မှ မွေးဖွားသူဖြစ်သဖြင့် ဖလံခုံအနွယ်ပင် ဖြစ်ပေသည်။

ကျွန်ုပ်သည် နန်းမတော် မိဖုရားခေါင်ကြီးမယ်နု၏ မောင်ဝမ်းကွဲတော်သူ 'မင်းရဲလှ' ဘွဲ့ခံ၊ ပေါင်းတည်ဝန် ဦးစံ၏ မြစ်ဖြစ်သော ဦးဘိုးသင့်နှင့် ဇနီးဖြစ်သူ ဒေါ်ဖွဲ့တို့မှ ပေါက်

ဖွားသော ညီအစ်သမီး ၇-ယောက်တို့အနက် ၁၂၇၁-ခုနှစ်၊ တော်သလင်း လဆန်း ၅-ရက်၊ ကြာသပတေးနေ့တွင် ဖွားမြင်သော ငါးယောက်မြောက် သားတစ်ယောက် ဖြစ်ပါသည်။ အသက် ၈-နှစ်အရွယ်တွင် ဖလံခုံရွာ အရှေ့သောတာပန်ကျောင်း ဘုန်းတော်ကြီး ဦးသုတနှင့် နောင်တော် ဝမ်းကွဲတော်သူ အရှင်ဉာဏဝံသတို့ထံ အပ်နှံ၍ သင်ပုန်းကြီး၊ မင်္ဂလာသုတ်၊ ဆုံးမစာ၊ ပရိတ်ကြီး ဝေဿန္တရာဇာတ်၊ လောကနီတိ စသော အခြေခံကျမ်းစာများကို သူတကာတို့ထက် ထူးချွန်စွာ ၂ -နှစ်လောက်နှင့် တက်မြောက်ခဲ့လေသည်။

ထို့နောက် နောင်တော် အရှင်ဉာဏဝံသ ရွှေဘိုမြို့ ပခန်းတိုက်သို့ ပြောင်းရွှေ့သွားသဖြင့် လိုက်ပါကာ ပခန်းဆရာတော် ဦးဒေဝိန္ဒနှင့် နောင်တော် အရှင်ဉာဏဝံသထံမှာ သဒ္ဒါ၊ သဂြိုဟ်၊ မာတိကာ၊ ဓာတုကထာ၊ အဘိဓာန်၊ ဆန်း၊ အလင်္ကာနှင့် ရူပသိဒ္ဓိ၊ ဋီကာကျော်၊ ပါဠိတော် ငါးကျမ်းတို့ကို သင်ကြား၍ သူတစ်ပါးတို့အား ရှင်သာမဏေအဖြစ်ဖြင့် စာပေပို့ချ ပေးရလေသည်။ ၎င်းတိုက်မှာပင် နေထိုင်စဉ် အစိုးရ ပထမငယ်၊ ပထမလတ်တန်းတို့ကို ၁၆-နှစ်၊ ၁၇-နှစ် အရွယ်ကပင် အောင်မြင်ခဲ့လေသည်။

ပထမကြီးတန်း အောင်မြင်ရန် ရည်သန်၍ မန္တလေးမြို့ မစိုးရိမ်ကျောင်းတိုက် အဘိဇ မဟာရဋ္ဌဂုရု ကျေးဇူးရှင် မစိုးရိမ်

ဆရာတော်ကြီးနှင့် တိုက်အုပ်ဆရာတော် ပထမကျော် အဂ္ဂမဟာပဏ္ဍိတ ဦးဉာဏ၊ ပထမ စာချဆရာတော် အဂ္ဂမဟာပဏ္ဍိတ ဦးပညာတို့ထံ စာပေကျမ်းဂန်ကို ထပ်မံသင်ကြား၍ ရှင်သာမဏေဘဝနှင့်ပင် ပထမကြီးတန်းကို အောင်မြင်ခဲ့သည်။

ထို့နောက် အသက် ၂၀ သို့ရောက်သဖြင့် ကျုံမငေးမြို့ စက်သူဌေး ဦးဘစိန်၊ ဒေါ်လေးမှုန်တို့က ရဟန်းဒကာ ရဟန်းအစ်မ ခံယူကာ ကျေးဇူးရှင် မစိုးရိမ် ဆရာတော်ကြီးအား ဥပဇ္ဈာယ်ဆရာပြု၍ ကျုံမငေးမြို့ ဈေးကျောင်းတိုက် ခဏ္ဍသိမ်တွင် ရဟန်းအဖြစ်သို့ ရောက်သည်။ ရဟန်းဖြစ်ပြီးနောက် ရန်ကုန်မြို့၊ သရက်တောတိုက်၊ တောင်ဘီလူးကျောင်းကြီး၌ နေထိုင်ကာ စေတီယင်္ဂဏစာပြန်ပွဲတွင် စာသင်တန်း စာချတန်းတို့ကို ပဌမဂုဏ်ထူး၊ ဒုတိယဂုဏ်ထူးဖြင့် ဆွတ်ခူးအောင်မြင်ခဲ့သည်။ ၎င်းကျောင်းတိုက်တွင် စာသင်သား သံဃာတော်များအားလည်း စာပေပို့ချခဲ့သည်။ ရန်ကုန်မြို့ သရက်တောတိုက်နှင့် မန္တလေးမြို့၊ မစိုးရိမ်ကျောင်းတိုက်တွင် နေထိုင်ရင်း အမျိုးသားပထမကျော်ကိုလည်း အောင်မြင်ခဲ့သည်။

(ဂ) ဝါအရတွင် ကျိုက်လတ်မြို့၊ ခတ်တော်ကျောင်းတိုက်ကို မစိုးရိမ်တိုက်သစ် အမည်ဖြင့် စာသင်တိုက်သစ်ဖွင့်လှစ်ပြီးလျှင် စာသင်သားပေါင်း (၅၀) ကျော် စာပေပို့ချ၍ သာသနာပြုနေစဉ် ကာလပျက်သဖြင့် ပူဆွက်၍ ကျိုက်လတ်သူ

မစိန်လှနှင့် အိမ်ထောင်ကျပြီးမှ အစိုးရစာချတန်းနှင့် ဂုဏ်ထူးဆောင် မြောက်ကျမ်းလုံး ပြီးဆုံး အောင်မြင်ခဲ့သည်။ ထို့နောက်တွင် ရန်ကုန်မြို့ ဗုဒ္ဓသာသနာအဖွဲ့တွင် အယ်ဒီတာအဖြစ် လုပ်ကိုင်ခဲ့သည်။ ယခုအခါ ဘာသာရေးကျမ်းစားများ ရေးသားကုတ်ဝေနေပါသည်။

* * * * *

## ၂၉။ ဆုတောင်းပတ္ထနာ

ရုပ်နာမ်နှစ်ဝ သင်္ခါရကို ငါဟုသမုတ် အကျွန်ုပ်သည် ဤ 'ဝိပဿနာရှုနည်း ညွှန့်ပေါင်းကျမ်း' ကို ကောင်းစွာရှင်လန်း ကြိုးပမ်းတကုတ် အားထုတ်တီထွင် စီစဉ်ရေးသားအပ်သော ကုသိုလ်အစု ကောင်းမှု မင်္ဂလာကြောင့် ဘုရားမြတ်စွာလက်ထက် တော်အခါဝယ် သာသနာဦးစီး အရှင်မဟာကဿပ စသော မထေရ်ကြီးကဲ့သို့ လောကအကျိုး, သာသနာအကျိုး သယ်ပိုး လိုလား မဟာထေရ်ကြီးများတို့သည်လည်းကောင်း၊ လောက အကျိုး၊ သာသနာ့အကျိုး သယ်ပိုးလိုလား၊ မင်းကောင်း မင်းမြတ် များတို့သည်လည်းကောင်း၊ ငါးမာန်အောင်မြင် ဘုရားရှင်၏ သုံးခွင်စကြာ သာသနာကို ကမ္ဘာအတွင်း ရောင်ဝါလုံလင်းလျက် အနှစ်ငါးထောင် မြင့်ခေါင်ရှည်ကြာ တည်ပါစေခြင်း အကျိုးငှာ ကောင်းစွာ တောက်လျှောက် စောင့်ရှောက် ကူညီကြ ပါစေ သော်ဝ်။

ကျွန်ုပ်သည်လည်း ကြီးငယ်နှစ်ဖြာ ဘဝသံသရာ၌ အဝိဇ္ဇာ၊ တဏှာ မပြတ်ပါသဖြင့် ကပ်ကာယှဉ်မှီ ကျင်လည် ရသော်လည်း ဘဝထိုထို ခန္ဓာကိုယ်၌ တစ်ကိုယ်ကောင်းမရှာ၊ အများသတ္တဝါ

တို့၏ အကျိုးငှာသာလျှင် အစဉ်လိုလား ဝန်တိုစိတ် မထားလဲ ခွန်အားစိုက်ထုတ် ပြုလုပ်ရပါလို၏။ အဆုံးဘဝ နောက်ကာလ၌ ဓမ္မငါးခိုင်း ကိုယ်တိုင်သိပြား ပညာမိက ဘုရား အဖြစ်သို့ စင်စစ် မုချ ရောက်ရှိရ၍ များလှဖုံဖုံ အလုံးစုံသော သုံးဘုံတိုက်နေ ဗိုလ်ခြေများစွာ နတ်လူ ဗြဟ္မာ ဝေနေယျာတို့ကို သံသရာ ပြင်ကျယ် မြစ်ပင်လယ်တစ်ခွင် ကယ်တင်ရပါလို၏။

ရှင်လန်းချမ်းမြေ့ကြပါစေ။
ဓမ္မာစရိယ ဦးတင်မြင့်

* * * * *

# ဤစာအုပ်တွင်

ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီး
ကျေးဇူးရှင် စွန်းလွန်းဆရာတော်ဘုရားကြီး
ကျေးဇူးရှင် မင်းကွန်းဆရာတော်ဘုရားကြီး
ကျေးဇူးရှင် မဟာစည်ဆရာတော်ဘုရားကြီး
ကျေးဇူးရှင် ဉာဏာစာရီဆရာတော်ဘုရားကြီး
ကျေးဇူးရှင် သဲအင်းဂူဆရာတော်ဘုရားကြီး
ကျေးဇူးရှင် ကသစ်ဝိုင်ဆရာတော်ဘုရားကြီး
ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး

များ၏ ဝိပဿနာရှုနည်းများ

စာရေးသူ၏ ဝိပဿနာ ကိုယ်တိုင် အားထုတ်
တရားအစစ်ခံရပုံများဖြင့် စုံလင်စွာဖတ်ရမည်။